IHYA·E·ISLAM



(အဲ ဟ် ယာ အေ အ စ္စ လာမ်)

# အစ္စလာမ်၏ ရှင်သန်မှုဒဿနများ

ပြန်ဆိုသူ – ဂျာဝိဒ်သန်း

ကျမ်းပြုပုဂ္ဂိုလ် – မောင်လာနာ ဝဟီဒ္ဒီန် ခါန်း



I H Y A - E - I S L A M



(အဲ ဟ် ယာ အေ အ စ္စ လာမ်)

# အစ္စလာမ်၏ ရှင်သန်မှုဒဿနများ

မြန်မာဆိုသူ – ဂျာဗိဒ်ဿန်း

မော်လာနာ ဝဟီဒုဒ်ဒိန် ခါန်း

بسم الله الرحمن الرحيم

# احیاءِ اسلام

مولف

مولانا وحیدالدّین خان

مترجمّ

محمدجاویدانصاری

# အစ္စလာမ်၏ရှင်သန်မှုဒဿနများ

(အဲဟ်ယာအေ အစ္စလာမ်)

ကျမ်းပြုပုဂ္ဂိုလ်– မောင်လာနာ ဝဟီဒုဒ် ဒီန် ခါန်း

ဘာသာပြန်ဆိုသူ - ဂျာ ဝိဒ် သန်း

ISLAMIC ACADEMIC CENTER

## PERSONAL PROFILE

**NAME** : Muhammad Javed Ansari .
(a) Maung Maung Than

**PLACE OF BIRTH** : Yangon, Myanmar

**ADDRESS** : No. 114
31st Street, Yangon, Myanmar

**EDUCATION** : B.Sc (chemistry)
(Rangoon Art & Science University)
: Degree of Islamic Theological Science,(Azhar)

**PUBLICATIONS ON :**

- Shikwa wa Jawabe Shikwa.( Dr ,Iqbal)
- Al Farouk (Allama Shible Noumani )
- Ummul Quran. (Moulana Abul Kalam Azad )
- An Introduction to The Science of Holy Quran.
- Shorten History of Islam.
- Nuskha e Keemeya (Part One)
- Asrari Khudi. (Dr Iqbal)
- Khutbat e Madras (Allama SayyidSulaiman Nadvi)
- Aheya e Islam . (Moulana Waheedudin Khan.)

Moreover, written and published more than 75 Articles on different islamic subjects. These articles were published in Myanmar.

# မာတိကာ

## ဘာသာပြန်ဆိုသူ၏ အမှာစကား

ကျွန်တော်သည် မောင်လာနာဝဟီဒုဒ်ဒိန်ခါန်၏စာနှင့် ရင်းနှီးခဲ့သည်မှာ အနှစ် ၂၀မျှကြာမြင့်ခဲ့ပြီးဖြစ်သည်၊ သူ၏အစ္စလာမ်ရေးရာတင်ပြချက်များသည် တစ်မူထူးခြားလှသည်ကိုတွေ့ရသည်၊ သူ၏ရေးသားသောကျမ်းများကို လက်လှမ်းမီသရွေ့ ဖတ်ရှုလေ့လာခဲ့ပါသည်၊ လစဉ်ထုတ် 'အလ်ရိဆာလာ' စာစောင်များ ကိုလည်းဖတ်ရှုနေရသည်၊ သူ၏စာများကို မြန်မာနိုင်ငံသို့ သယ်ဆောင်လာသူတို့မှာ တိုးတက်သောအမြင်ရှိသည့် အာလင်မ်ပညာရှင်များဖြစ်ကြသည်၊ မောင်လာနာဝဟီဒုဒ်ဒိန်ခါန်၏စာသည် အခြားသူတို့နှင့်မတူ အခြားသောပုဂ္ဂိုလ်တို့က အားရုံမပြုခဲ့သည့် ဒါဝသ်ဖိတ်ခေါ်မှုကိုဦးတည်သော ရေးသားတင်ပြချက်များဖြစ်သည်။

မောင်လာနာဝဟီဒုဒ်ဒိန်ခါန်သည် နဒ်ဝါဟ်ကျောင်းထွက် အိန္ဒိယနိုင်ငံရှိ မောင်လာနာမောင်ဒူဒီ၏ ဂျမာအသေ့အစ္စလာမီအဖွဲ့ခေါင်းဆောင်တစ်ဦးဖြစ်သည်၊ နှစ်ပေါင်းကြာမြင့်စွာ ဤလှုပ်ရှားမှုကိုဦးဆောင်ခဲ့ပြီးမှနိုင်ငံရေးကိုရှေ့တန်းတင်လွန်အားကြီးကိုအကြောင်းပြုပြီး နှုတ်ထွက်ခဲ့သည်၊ သူသည်နှစ်ပေါင်း၄၀မျှ အင်္ဂလိပ်စာပေနှင့်မျက်မှောက်ကမ္ဘာတွင်ဖြစ်ထွန်းနေသောပညာရပ်များကို လေ့လာပြီးမှာ ဆန်းသစ်သောဒါဝသ်ဖိတ်ခေါ်လှုပ်ရှားမှု စာပေများကိုပြုစုခဲ့သည်၊ သူ၏ရေးသားသောကျမ်းများကို အာရဗီ၊အင်္ဂလိပ်နှင့်ဘာသာစကားအများဖြင့်ပြန်ဆိုခဲ့ပြီးဖြစ်သည်။

ကျွန်တော်အနေဖြင့် သူ၏ကျမ်းများကို ဘာသာပြန်ဆိုချင်ပါသည်၊သို့သော် ဘယ်ကစပြီးပြန်ဆိုရမည်ကို မဆုံးဖြတ်တတ်ပါ၊ကျွန်တော်တို့အုပ်စုသည် နှစ်စဉ်နှစ်တိုင်း မန္တလေးမြို့မိမြို့ဘတို့၏ ဖိတ်ကြားချက်ဖြင့် မန္တလေးမြို့နှင့်ဝန်းကျင်ဒေသများသို့ နွေးရာသီကျောင်းပိတ်ရက် အစ္စလာမ်ရေးရာသိမှတ်စရာများကိုသွားရောက်ပို့ချခဲ့ရာ၁၀နှစ်ကျော်ခဲ့ပြီးဖြစ်သည်၊ ၂၀၀၄ခုနှစ်က မန္တလေးမြို့ခံ ရဲဘော်ကြီးကိုခင်မောင်သက်ကကျွန်တော်ကိုမောင်လာနာဝဟီဒုဒ်ဒိန်ခါန်၏ ဤဘာသာပြန်ဆိုပြီးဖြစ်သော ကျမ်း၏မူရင်း''အေဟ်ယာအုလ် အစ္စလာမ်''ကိုဖတ်ရန်ပေးခဲ့ပါသည်၊ဤကျမ်းကိုအစမှအဆုံး ဖတ်ရှုရာသဘောကျလွန်း၍တစ်ခေါက်

ထပ်မံဖတ်လိုက်မိပါသည်။ထို့မှတစ်ဖန်ကျွန်တော်အနေဖြင့်ဤကျမ်းကိုဘာသာပြန်ဆိုရန် ဆုံးဖြတ်လိုက်ပါသည်၊ဤကျမ်းကိုဘာသာပြန်ဆိုနေချိန်တွင် ကျမ်း၏အမည်ကို ''အစ္စလာမ်၏ရှင်သန်မှုဒဿန'' ဟုအမည်တပ်မည်အကြောင်းကို ကျွန်တော်၏ရောင်းရင်း ရေးဘော်ရေးဘက် ကိုမင်းနိုင်(ဝါခယ်မ မောင်မင်းနိုင်) ကိုပြောပြသောအခါ သူသည်လည်းဤအမည်ကို သဘောကျ၍ ထပ်ဆင့်အကြံပြုခဲ့ပါသည်။

ဤကျမ်းကိုပြန်ဆိုပြီးသောအခါ ဒါဝသ်ဖိတ်ခေါ်မှုနှင့်စပ်လျဉ်းပြီကျမ်းပြုမှုလိုအပ်နေပါသည်ဟုဆိုခဲ့သောကျွန်တော်၏ညီငယ်ပမာချစ်ခင်ရသောကိုဘိုင်လေးအားစာစီစာရိုက်ရန် တာဝန်ပေးခဲ့ပါသည်၊နောက်ထပ်ကျန်ခဲ့သော စာမူများကို သမီးဖြစ်သူ မခင်သီတာကို ရိုက်စေခဲ့ပါသည်၊သမီးဖြစ်သူလည်းဆေးတက္ကသိုလ်တက်ရောက်ခွင့် မကျခင်အလျဉ်း အပြီးသတ်ရိုက်ပေးခဲ့ပါသည်။

ဤကျမ်းကို ပြုစုရာတွင် အဓိကကျ ကူညီ စာအုပ်ငှားရမ်းပေးခဲ့သူ ကိုခင်မောင်သက် အား လည်းကောင်း၊စာစီစာရိုက်ကူညီပေးခဲ့သူ ကိုဘိုင်လေးအားလည်းကောင်း၊နောက်ဆုံးအဆင့်စာမူဖတ်ပေးခဲ့သူသူငယ်ချင်းမောင်တင်ဦး (ကဗျာဆရာ တင်ငြိမ်းဦး)အားလည်းကောင်း အထူးကျေးဇူးတင်ရှိကြောင်းမှတ်တမ်းတင်ပါသည်။

ဤကျမ်းသည် စာဖတ်သူတို့၏ လက်ဝယ်သို့ရောက်ရှိနေပြီးဖြစ်သည် မူလကျမ်းကိုကျွန်တော်အနေဖြင့် အတတ်နိုင်ဆုံး အကောင်းဆုံးဖြစ်အောင်ပြန်ဆိုခဲ့ပါသည်၊တစ်စုံတစ်ခုသောမှားယွင်းချွတ်ချော်များကိုတွေ့လျှင်ခွင့်ပြုခွင့်လွှတ်စေလိုပါသည်၊ဆက်လက်ပြီး စာပေကွက်လပ်များကို ဖြည့်ပေးနိုင်သော စွမ်းအားကို အလ္လာဟ်အရှင်မြတ် အထံတော်မှ တောင်ခံလျက်။အာမင်န်

အားလုံးကို လေးစားလျက်

ဂျာဝိဒ်သန်း။

# احياء اسلام
# အစ္စလာမ်၏ ရှင်သန်မှုဒဿနများ
# (အဲဟ်ယာအေ အစ္စလာမ်)

## ကျမ်းပြုပုဂ္ဂိုလ် (မောင်လာနာ ဝဟီဒုဒ်ဒီန်ခန်း)

၏

## အမှာစကား

အရှေ့အာဖရိက ကင်ညာနိုင်ငံ၊ နိုင်ရိုဘီမြို့အနီး ကီဂါလီ ဟူသော တောင်ပေါ်စခန်းတစ်ခုရှိသည်။ ယင်းဒေသသည် သဘာဝရှုမျှော်ခင်းများကြောင့် ကျော်ကြားလှသည်။ ဤစခန်းဒေသတွင် အိစ်လာမစ်စင်တာ တစ်ခုကို စနစ်တကျ တည်ဆောက်ဖွင့်လှစ်ထားသည်။ ယင်းစင်တာကို ပြင်သစ်စကားဖြင့် Le Cetre Culturel Islamique အမည်တွင်၏။ ၁၉၈၁ ခုနှစ်၊ ဒီဇင်ဘာလက ယင်းစင်တာတွင် ဆွေးနွေးပွဲတစ်ရပ်ကို ကျင်းပခဲ့ရာ စာရေးသူအားလည်း ဖိတ်ကြားခဲ့သည်။ ဤကျမ်းငယ်သည် ယင်းဆွေးနွေးပွဲတွင် ဟောပြောရန်စုစည်းထားသော စာစုများကို မှတည်၍ ကွန်းမြူးပေါ်ထွန်းလာသောကျမ်းဖြစ်ပါသည်။ ဤကျမ်းငယ်ကို အူရဒူဘာသာစကားနှင့် အရဗီဘာသာစကားဖြင့် ထုတ်ဝေရန် စီစဉ်ခဲ့ပါသည်။

ဤကျမ်းပါ စာတမ်းများတွင် အထူးပြုဖော်ပြသော စကားသည် အစ္စလာမ်၏ ရှင်သန်မှုအတွက် ဘယ်ကဲ့သို့သော အရာများသည် အလိုအပ်ဆုံးဖြစ်သည်ကို ဆွေးနွေးထားပါသည်။ ဤကျမ်းငယ်သည် တွေးခေါ်မှုကို အကြောင်းပြု၍ စီမံကိန်း ချမှတ်ရေး အတွက်လမ်းကြောင်းပေးချက်ဖြစ်သည်။ ဤဖော်ပြပါ အစ္စလာမ်၏ ရှင်သန်မှု **'အဟ်ယာအေအစ္စလာမ်'** သည် ထင်ကြေးပေးသော မိမိသဘောဖြင့် ပုံစံသတ်မှတ်ခြင်းနှင့် လျှပ်တစ်ပြက် ရက်တိုစီမံချက်များဖြင့် ရလဒ်ကို ပေါ်ထွန်း လာမည့် နည်းစဉ်မဟုတ်ပါ။

အိဗ်ရာဟီမ်နဗီ (ဘီစီ ၂၁၆၀–၁၉၈၅)သည် သူ၏မျိုးဆက်ကို ဟိဂျပ်နယ်တွင် စတည်းချစေကာ ကာဗာ ကျောင်းတော်ကြီးကို တည်ဆောက်ပြီး အောက်ပါဆုတောင်းဒုအာကို အလ္လာဟ်အရှင်မြတ်ထံတော်သို့ လျှောက်တင်ခဲ့ သည်။

**ربنا وابعث فيهم رسولا منهم يتلو عليهم آياتك**
**ويعلمهم الكتاب والحكمة ويزكيهم إنك أنت العزيز الحكيم**

အို– ကျွန်တော်မျိုးတို့အားမွေးမြူတော်မူသောအရှင်၊အရှင်မြတ်၏ တရားဒေသနာတော် များကို ယင်းသူတို့၏ ရှေ့မှောက်ဝယ် ရွတ်ဘတ်ဖေါ်ပြရန်အလို့ငှာ လည်းကောင်း၊ ကျမ်းဂန်နှင့်တကွ ဉာဏ်အမြော်အမြင်ကိုပါ သွန်သင်ပြသသင်ကြားပေး ရန်အလို့ငှာလည်းကောင်း၊ ယင်းသူတို့အား အပြစ်ဒုစရိုက်မှုများမှ သန့်ရှင်းစင်ကြယ်စေရန်အလို့ငှာ လည်းကောင်း၊ ယင်းသူတို့အနက်မှပင် ရစူလ်တမန်တော်တပါးကို ထိုသူတို့ တွင်ပွင့်စေတော်မူပါ၊ စကန်မုချအရှင်မြတ်သည်သာလျှင် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော် မူထသောအရှင်၊ ထူးသောအဘိဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင်ဖြစ်တော် မူပေသတည်း။ (ကုရ်အာန် ၂း၁၂၉)

အိဗ်ရာဟီမ်နဗီ၏ ယင်းဒုအာသည် ပြည့်ဝဖြစ်ထွန်းလာခဲ့သည်။ သို့ရာတွင် ယင်းဆုတောင်းသည် နှစ်ပေါင်း ၁၅၀၀မျှ ကြာမြင့်ချိန် တမန်တော်မြတ် မုဟမ္မဒ် ﷺ ပေါ်ထွန်းချိန်မှ ဖြစ်ထွန်းလာခြင်းဖြစ်သည်။ ဤအကြောင်းအရာများကို ထောက်ရှုသုံးသပ်သည့်ရှိသော် အလ္လာဟ်အရှင်မြတ်၏ နည်းစဥ်သည် လျှပ်တစ်ပြက် ဖြစ်သည် ဟူ၍ မရှိပါ။ အလ္လာဟ်အရှင်မြတ်၏ စည်းစနစ်ဖယားသည် လျှပ်တစ်ပြက် တန်ခိုးတော်ပုံစံမဟုတ်။ အရှင်၏နည်းစဥ်က အခြေအနေအရပ်ရပ်များကို မူတည်၍ ပေါ်ထွန်းစေသော နည်းစနစ်ဖြစ်ပါသည်။ အိဗ်ရာဟီမ်နဗီ၏ ဆုမွန်သည် ပြည့်ဝခဲ့သည်။ သို့သော် ယင်းဆုမွန် အထမြောက်မှုက ပြောင်းလဲလာသော အခြေအနေအရပ်ရပ်တွင် တမန်တော်မြတ်မုဟမ္မဒ် ﷺ ၏ ပေါက်ဖွားလာမှုမှ စခဲ့သည်။ အလ္လာဟ်အရှင်မြတ်၏ စနစ်ဖယားသည် ဤအချိန်သည် ကမ္ဘာ့နောက်ဆုံးတမန်တော်မြတ်မုဟမ္မဒ် ﷺ ပေါ်ထွန်းလာစေဖို့ အချိန်အကောင်းဆုံးဟုသတ်မှတ်ချက်မှ ဖြစ်လာစေခြင်းဖြစ်သည်။

ယနေ့ကာလတွင် အစ္စလာမ်ကို ပြန်လည်ရှင်သန်အောင် လုပ်ဖို့ရန် အလ္လာဟ်အရှင်မြတ်၏ စည်းစနစ်ဖြစ်သော **ရဗ်ဗာနီစနစ်**သည် လိုအပ်လာသည်။ ဤသို့ဖြစ်ထွန်းလာစေဖို့ လယ်သမားသည် သူ၏မျိုးစေ့ကို ယုံကြည်စိတ်ချစွာဖြင့် လယ်ယာမြေ အတွင်းမြှုပ်လျက် ကြိုးကြိုးခံသော စိတ်ဓာတ်အပြည့်အဝဖြင့် ပေါ်ထွန်းလာမည့် မြင်ကွင်းကို ပျိုးထောင်ပေးသည့်အလားဖြစ်ရပါမည်။ တစ်ခါတစ်ရံ စိုက်ပျိုးလိုက်သောသူသည် နှစ်တစ်ရာမျှ စောင့်မျှော်ရသည်လည်း ရှိသည်။ ကျွန်းပင်

ကဲ့သို့သော သစ်များကို စိုက်ပျိုးပြီး စောင့်မျှော်နေရသကဲ့သို့ပင် ဤနှစ်တစ်ရာကြာလျှင် ယင်းသည်အောင်မြင်စွာ ဖြစ်ထွန်း ပေါ်ပေါက်လာမည်ကို စိုက်ပျိုးသောသူသည် ယုံကြည်ချက်အပြည့်အဝ ရှိသည်။

ဤဖော်ပြပါ အရေးကို ဆောင်ယူရာတွင် မွေးကြိုင်သော ပန်းပွင့်ပမာ ရန်သူနှင့် မိတ်ဆွေအားလုံးသော သူတို့ကို ရနံ့ပေးနိုင်ရပါမည်။ နေမင်းကြီးပမာ အနိမ့်အမြင့် အရာအားလုံးအပေါ်တွင် အလင်းဆောင်နိုင်ရပါမည်။ အလ္လာဟ်အရှင်မြတ်၏ တမန်တော်၏ ဆုမွန်သည်ပင်လျှင် တိကျသောအချိန်ဇယား သတ်မှတ်ချက်ကို အကြောင်းပြု၍ ဖြစ်ထွန်းလာခြင်းဖြစ်သည်။ သို့ဆိုလျှင် ကျွန်ုပ်တို့သည် တစ်စုံတစ်ခုသော ရလိုမှုအာသိသကို ကျိုးပမ်းလှုပ်ရှားမှု ကင်းမဲ့စွာ မိမိတို့၏ မျှော်မှန်းချက်ကို စိတ်ကူးယဉ်ဖြင့် ရယူနိုင်ပါမည်လော။

မည်သည့်ဘဝဆိုင်ရာ ပြဿနာရပ်ဖြစ်စေ အောင်မြင်သော ဖြစ်ထွန်းမှုကို ပြုနိုင်စေဖို့ တွေးခေါ်မှုဆိုင်ရာ၏ စည်းစနစ်မြင့်မားဖို့ အရေးကြီးသည်။ ယနေ့တွေ့နေရသော ဒီမိုကရေစီစနစ်သည် ပဒေသရာဇ်စနစ်များကို စုစည်းထားသော ရှေးဟောင်းဝါဒီ အတွေးအခေါ်များကို လှုပ်ရှားရုန်းကန် ကျော်လွှားပြီးမှ အောင်မြင်ဖြစ်ထွန်းလာခြင်းဖြစ်သည်။

ဤကဲ့သို့ပင် ဆိုရှယ်လစ်စနစ်သည်လည်း ခိုင်မာသောအခြေသို့ ရောက်ရှိရေးအတွက် ယင်းစနစ်ကို ဖော်ကျူးသော တွေးခေါ်ရှင်တို့၏ မြင့်မားသော ဒဿနဖြစ်သည့် တစ်သီးပုဂ္ဂလဌေးရှင်ကြေးရှင်တို့၏ စုစည်းထားမှုကို အသုံးပြုလျက်အဖွဲ့အစည်းအားဖြင့် ကုန်ထုတ်ခြင်းဘက်သို့ ဆွဲဆောင်နိုင်သောအခါ ဤစနစ်သည် အောင်မြင်မှုကို ရရှိခြင်းဖြစ်သည်။ ယနေ့အစ္စလာမ်ကို ပြန်လည်၍ ရှင်သန်မှုပြုရာတွင် ဤကဲ့သို့တွေးခေါ်မှုကို ပြောင်းလဲပေးသည့် နည်းစဉ် အားဖြင့်သာလျှင် တည်ဆောက်ရမည်ဖြစ်သည်။

အစ္စလာမ်မတိုင်ခင်က ရှရိက်တုဖက်ယှဉ်ပြိုင်ကိုးကွယ်သော စနစ်သည် မြင့်မားသော ဩဇာအာဏာဖြင့် အမြစ်တွယ်တည်ရှိနေသည်။ တမန်တော်မြတ်နှင့် အဆွေတော် ဆွဟာဗီတို့သည် အလွန်ထက်မြက်သော ဒါဝသ်ဖိတ်ခေါ်မှုနည်းစဉ်ကို ကျိုးကြောင်းပြ ရှင်းလင်းဖော်ပြခြင်းအားဖြင့်သာလျှင် ရှရိက်ဝါဒီတို့အပေါ်တွင် အောင်ပွဲခံယူရရှိခြင်း ဖြစ်သည်။ ဤအခြေအနေမျိုးစုံကိုရုန်းကန်ကျော်လွှားပြီး

နောက် သောင်ဟီဒ်ကိုအခြေခံသောနည်းစနစ်ဖြင့်ဘဝတည်ဆောက်မှုကို တည်ဆောက်နိုင်ခြင်းဖြစ်သည်။ တမန်တော်မြတ်နှင့် ဆွဟာဗီရဲဘော်ရဲဘက်တို့၏ ကျိုးပမ်းမှုမှ ဖြစ်ထွန်းလာခဲ့သော တော်လှန်ရေးကြီး၏ အရှိန်အဝါသည် နှစ်ပေါင်း တစ်ထောင် အထိ မြင့်မားသော အခြေဖြင့် တည်ရှိနေခဲ့သည်။ယင်းနောက် အခြေအနေသည် တစ်မျိုးတစ်ဖုံ ပြောင်းလဲ လာပြီး ရှေး ဟောင်း ရှရိက်၏နေရာတွင် လူမျိုးနှင့် လူပုဂ္ဂိုလ်ကိုးကွယ်မှုသည် အရှိန်မြင့်မားစွာ ရပ်တည်လျက်ရှိနေသည်ကို တွေ့ရ သည်။

ရှေးယခင်ခေတ်ကာလက သောင်ဟီဒ်က ရင်ဆိုင်ရသော ဝါဒသည် ရှိရိက်ဖြစ်သော်ငြားလည်း ယခုအခါ တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်ကို ကိုးကွယ်မှု သောင်ဟီဒ်က ရင်ဆိုင်မှုပြုနေရသူက ပုဂ္ဂိုလ်ဆည်းကပ်ကိုးကွယ်မှုပင် ဖြစ်သည်။ ဤဆန့်ကျင်ဘက် အင်အားစုများကို ရင်ဆိုင်မှုပြုနိုင်စေဖို့ရန် ပထမအနေဖြင့် ကျွန်ုပ်တို့သည် တွေးခေါ်မှုတော်လှန်ရေးကို ပြုရမည်ဖြစ်သည်။ ဤသို့ပြုခြင်းနောက် စစ်မှန်သော လက်တွေ့တော်လှန်ရေးသည် ပေါ်ထွန်းလာမည် ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် နှစ်ပေါင်း၁၅၀၀မျှ စနစ်ဖယား၏ ပြုပြင်ပြောင်းလဲမှု မှတစ်ဆင့် သောင်ဟီဒ်သဘောတရားကို ပေါ်လွင်ထင်ရှားစေဖို့ အခွင့်အလန်းကို ဖန်တီးပေးခဲ့သည်။ ယခုလည်း နှစ်ပေါင်း ၁၀၀၀မျှ လှုပ်ရှား ရုန်းကန်မှု၏ ရလဒ်အနေဖြင့် ပုဂ္ဂိုလ်ကိုးကွယ်မှုစနစ်ဆိုးကြီးကို ချေမှုန်းပစ်ဖို့ရန် အခွင့်အလမ်းများပေါ်ထွန်းလာပြီဖြစ်သည်။ သို့ရာတွင် ယင်းအခွင့်အလမ်းကို အသုံးချနိုင်စေဖို့ ကြံကြံခံနိုင်သော စွမ်းဆောင်ချက်နှင့် သတိတရားရှိဖို့ လိုအပ်သည်။

ကျွန်ုပ်တို့၏ အတိတ်ကာလ ဘိုးဘွားများသည် သူတို့၏အခွင့်အလမ်းကို ဆွဘာရ် ကြံကြံခံခြင်းနှင့် အသိတရား ဖြင့် နိုးကြားစွာ ဆောင်ရွက်မှုများဖြင့် သောင်ဟီဒ် သဘောတရားကို ပေါ်ထွန်းကြီးစိုးမှုကို ဖြစ်စေခဲ့ပါသည်။ ဤကဲ့သို့ပင် ယခုဒုတိယ ခေတ်ကာလတွင် သစ်လွင်သော အခြေအနေကောင်းများကို ဆွဘာရ် ကြံကြံခံတတ်မှု နှင့် သတိတရားကို အသုံးချ ခြင်းအားဖြင့် အစွလာမ်ကို ပြန်လည်ရှင်သန်စေမှုနှင့် အားလုံးပေါ်တွင် ထင်ရှားညီးမော့နိုင်မှုကို ပြုရပါမည်။ ဤလုပ်ဆောင်မှုကို တန်ခိုးအံ့ဖွယ်နှင့်လည်းကောင်း၊ ထင်ကြေးပေးသော ဖြစ်နိုင်

ခြေများဖြင့်လည်း ကောင်း၊ အုံကြွသောရုတ်ရုတ်သဲသဲနည်း လမ်းအားဖြင့် လည်းကောင်း ပြုရှုမရပါ။ ဤဒုတိယခေတ်ကို အကောင်အထည်ဖော်မှုကို တမန်တော်မြတ်ခေတ်၏ ခြေရာကို ထပ်ချပ်မကွာ လျှောက်လှမ်းခြင်းဖြင့် အကောင် အထည်ဖော်မှုကိုပြုရပါမည်။ ဤသို့ပြုလုပ်ရန် ယနေ့ခေတ်ကာလတွင် လုံလောက်သော အခြေအနေကောင်းများက စောင့်မျှော်လျက်ရှိနေပါသည်။

**ဝဟီဒုဒ်ဒီန်ခန်း**

## အခန်း ( ၁ )

# မအ်ရေဖသ် သိမြင်မှု၏ အဆင့်နှစ်ဆင့်

သဘာဝလောကကြီးနှင့် ပထဝီမြေကြီး၏ လည်ပတ်မှုစနစ်ဖယားသည် အံ့ဖွယ်ရာတို့နှင့် ပြည့်နေသည်။ သိပ္ပံ ပညာရှင်တို့သည် ယင်းတို့ကို စူးစမ်းလေ့လာကြသည်။ သို့ရာတွင် ယင်းသူတို့၏ စူးစမ်းမှုမှ ရရှိသော အချက်အလက်သည် မည်သည့်အရာများဖြစ်ကြသနည်း။ သိပ္ပံပညာရှင်တို့သည် သဘာဝလောကကြီးမှ အချက်အလက်များ၊ ကိန်းဂဏန်းဆိုင်ရာ သိမြင်စရာများကို ထုတ်ပေးနိုင်ခဲ့ကြသည်။ ပထဝီမြေကြီး၏ အချင်းသည် မိုင်းပေါင်း နှစ်သောင်းငါးထောင် ရှိသည်။ နေမင်းကြီးသည် ပထဝီမြေကြီးထက် အဆ ပေါင်းတစ်ဆယ့်နှစ်သိန်းကျော်ကြီးမားသည်။ ပထဝီမြေကြီးသည် နေမင်းကြီးနှင့် မိုင်ပေါင်း ၉ကုဋေ ၃သန်းအကွာတွင် တည်ရှိနေသည်။ ပထဝီမြေကြီးသည် သူ၏ ဝင်ရိုးတွင်တစ်နာရီလျှင် မိုင်ပေါင်းတစ်ထောင်နှုန်းနှင့် လည်ပတ်နေသည် စသည် ဖြင့် အချက်အလက်ကိန်းဂဏန်းများကို ပေးသည်။ ဤသို့သော အချက် အလက် များကို သိပ္ပံပညာရှင်တို့သည် သဘာဝလောကကြီးကို စူးစမ်းလေ့လာရာမှ ရရှိခြင်း နှင့် ရအောင် ပြုနိုင်ခြင်း ရှိနေ သည်။

သို့ရာတွင် ဤသဘာဝလောကကြီးကိုပင် မှအ်မင်န်စစ်မှန်သော ယုံ ကြည်သူတစ်ဦးက စူးစမ်းလေ့လာသောအခါ ယင်းစူးစမ်းမှုရလဒ်မှနေ၍ မြင့်မြတ် သောအရှင် အလ္လာဟ်အရှင်မြတ်ကို သိမြင်တွေ့ဆုံခွင့်ကို ရရှိတော့သည်။ ကျမ်းတော်မြတ် ကုရ်အာန်တွင် ဆင်ခြင်တုံတရားထားရှိသူတို့၏ အညေအချင်းနှင့် စပ်လျဉ်းပြီး အောက်ပါအတိုင်း ဖော်ပြထားသည်ကို တွေ့ရသည်။

إن في خلق السموات والأرض واختلاف الليل والنهار لآيات لأولي
الألباب ()الذين يذكرون الله قياما وقعودا وعلى جنوبهم ويتفكرون في
خلق السماوات والأرض ربنا ما خلقت هذا باطلا سبحانك فقنا عذاب
النار() ربنا إنك من تدخل النار فقد أخزيته وما للظالمين من أنصار()
ربنا إننا سمعنا مناديا ينادي للإيمان أن آمنوا بربكم فآمنا ربنا إننا سمعنا ﴿
مناديا ينادي للإيمان أن آمنوا بربكم فآمنا ربنا فاغفر لنا ذنوبنا وكفر عنا
سيئاتنا وتوفنا مع الأبرار()ربنا وآتنا ما وعدتنا على رسلك ولا تخزنا يوم
القيامة إنك لا تخلف الميعاد

ပထဝီမြေကြီးနှင့် သဘာဝလောကကြီးဆမာဝါသ်၏ ဖန်ဆင်းမှုတွင်လည်းကောင်း၊ နေ့နှင့်ည၏ပြောင်းလဲဖြစ်ပေါ် လာမှုတွင်လည်းကောင်း၊ ဆင်ခြင်တုံတရားထားရှိသော ပညာရှင်တို့အတွက် သက်သေလက္ခဏာတော်များရှိသည်၊ ယင်းသူတို့သည် ရပ်လျက်လည်းကောင်း၊ ထိုင်လျက်လည်းကောင်း၊ လဲလျောင်းလျက်လည်းကောင်း အခြေအနေအမျိုးမျိုးတွင် အလ္လာဟ်အရှင်မြတ်ကို သတိရလျက် ပထဝီမြေကြီးနှင့် ဆမာဝါသ်အမြင့်လောက၏ ဖန်ဆင်းတည်ရှိမှုနှင့် စပ်လျဉ်း၍ စဉ်းစားဆင်ခြင်မှုကို ပြုနေကြသည်။ သူတို့သည် ဟစ်ကြွေးသည်မှာ

"အို-ကျွန်ုပ်တို့ကို ဖန်ဆင်းပြုစုပျိုးထောင် သောရဗ်၊ အလ္လာဟ်အရှင်မြတ်၊ အရှင်သည် ဤလောကကြီးရှိအရာအားလုံးကို ဖန်ဆင်းခြင်းမှာ အချည်းနှီး အလဟဿရည်ရွယ်ချက်မဲ့ ဖန်ဆင်းခြင်းမဟုတ်ပါ။ အလ္လာဟ်အရှင်မြတ်သည် ချို့တဲ့ခြင်းအပေါင်းမှ ကင်းရှင်းတော်မူသည် ကျွန်တော်မျိုးတို့အား မီး၏ တောက်လောင်မှုမှ ကာကွယ်ပေးတော်မူပါ။ အို- ကျွန်တော်မျိုးတို့၏ ရဗ်၊ အရှင်သည် မီး၏ တောက်လောင်မှုတွင် ထည့်ပေးခံရသူတို့သည် မရှောင်လွှဲနိုင်သော ပြစ်မှုကြောင့်သာလျှင် ထည့်ခံရခြင်းဖြစ်သည်။ ညှင်းပမ်း နှိပ်စက်ခံရသူတို့ကို ကယ်တင်မည့်သူ အလ္လာဟ်အရှင်မြတ်မှတစ်ပါး တစ်ဦးတစ်ယောက်မျှ မရှိပါ။ ကျွန်တော်မျိုးတို့၏ ရဗ်၊ ကျွန်တော်မျိုးတို့သည် ဖိတ်ခေါ်သူတစ်ဦး၏ ဖိတ်ခေါ်မှုကို ကြားနာခဲ့ရပါသည်။ ယင်းဖိတ်ခေါ်ချက်သည် အီမာန်သက်ဝင် ယုံကြည်မှုဖက်သို့ ဖိတ်ခေါ်မှုပင်။

အို–ကျွန်တော်မျိုးတို့၏ ရပ်၊ ကျွန်တော်မျိုးတို့၏ မှားယွင်းသော လုပ်ရပ်၊ မှားယွင်း ချက်များကို ခွင့်လွှတ်တော်မူပါ။ ကျွန်တော်မျိုးတို့တွင်ရှိနေသော မကောင်းမှု ဒုစရိုက်များကို ကျွန်တော်မျိုးတို့နှင့်ဝေးလံသောနေရာသို့ ရောက်ရှိစေပါ။ ကျွန်တော် မျိုးတို့၏ အဆုံးကို ကောင်းမြတ်သောသူတို့နှင့် အတူဖြစ်စေပါ။

အို–ကျွန်တော် မျိုးတို့၏ရပ် အရှင်က အရှင်၏ ရစူလ်တို့မှတစ်ဆင့် ပြုခဲ့သော ပေးကမ်းမှုကတိကို ကျွန်တော်မျိုး တို့တွင် ပြည့်စုံစေတော်မူပါ။ ကိယာမသ်နေ့ တွင် ကျွန်တော်မျိုးတို့ကို ဘေးမဲ့အားကိုးရမဲ့ အမိုးအဘိုး ကင်းမဲ့သူများ မဖြစ်ပါစေနှင့်။ အရှင်မြတ်သည် ဘယ်သောအခါမှ ကတိကဝတ်များကို ဖောက်ဖျက်ခြင်းမရှိခဲ့ပါ။ ကျမ်းတော်မြတ်ကုရ်အာန်[၃း၁၉၀–၁၉၄]

သိပ္ပံပညာရှင်တို့သည် သဘာဝလောကကြီးကို စူးစမ်းလေ့လာခဲ့ကြသည်။ သိပ္ပံပညာရှင်သည် သဘာဝလောကကြီးကို သိပ္ပံအမြင်ဖြင့် ရှုမြင်ကြသည်။ မှတ်မင်နှ် အီမာန်ရှင်တို့ကမူ အီမာန်ယုံကြည်ချက် ရှုဒေါင့်မှ ရှုမြင်ခြင်းဖြစ်သည်။ ဤရှုမြင် သုံးသပ် မှုနှစ်ရပ်သည် လွန်စွာဝေးလံသော ကွာခြားချက်များကို ဖြစ်စေခဲ့ သည်ကို လေ့လာ၍ရသည်။ သိပ္ပံပညာရှုဒေါင့်မှ အချက်အလက် အချို့နှင့် ကိန်း ဂဏန်းများ ကို သိမြင်ခွင့်ရသည်။ ဤသို့အားဖြင့် ရုပ်ပိုင်းဆိုင်ရာ အရာအချို့ကို ရရှိခြင်းဖြစ် သည်။ သို့ရာတွင် လောကကြီးကို အီမာန်ရှုထောင့်မှ ရှုမြင်သော သူတို့ကမူ အလ္လာဟ်အရှင်မြတ်၏ ဖတ်ဆင်းမှု အမြုတေ၏ အဓိပ္ပာယ်ရှိသော ဘဏ္ဍာတိုက်ကို ရရှိခြင်းဖြစ်သည်။

ဤသို့အားဖြင့် လောကကြီး၏ လည်ပတ်မှုကို ပြုနေသော အလ္လာဟ် အရှင်မြတ်၏ စနစ်ဇယား စီမံကိန်းကို သိမြင်ခွင့်ရတော့သည်။ ယင်းသူသည် သဘာဝလောက မြင်ကွင်းအတွင်းမှ ဂျူနည်သုခဘုံနှင့် ဂျဟန္နမ်ငရဲလောကကိုလည်း မြင်ခွင့်ရတော့သည်။ ယင်းသူသည် ဤမြင်ကွင်းအားဖြင့် သစ္စာတရား၏ သိမြင်

ဝန်ခံမှု အစာအာဟာရလည်း ဖြည့်ဆည်းရရုံမက သဘာဝလောကကြီးတစ်ခုလုံးသည် အလဟဿ အကြောင်းမဲ့ မဟုတ်ဘဲ၊ ယင်းသည် ရည်ရွယ်ချက်ပေါ်တွင် တည်ဆောက်ဖြစ်ပေါ်လာရကြောင်း လျှို့ဝှက်ချက်ကို သိမြင်ရခြင်းဖြစ်သည်။ ဤသို့အားဖြင့် လောကအပေါင်း၏ ဖန်ဆင်းရှင် အလ္လာဟ်အရှင်မြတ်နှင့် နီးကပ်စွာ ထိတွေ့ခွင့်ရရှိခြင်း ဖြစ်တော့သည်။

ဤဖော်ပြပါရှင်းလင်းချက်များအရ သိရှိရသည်မှာ **မအ်ရိဖသ် သိမြင်ခြင်း**သည် အဆင့်နှစ်ဆင့်ရှိသည်။ တစ်ဆင့်က မျက်မြင်ကိုယ်တွေ့ ရှုမြင်ရချက်ရုပ်သဘောဖြစ်သည်။ နောက်ထပ်တစ်ခုက အနုစိပ် အားဖြင့် မြင်တွေ့ရှုရသော နက်နဲလှသည့် သဘော အသိဉာဏ်ကို စေစားလျက် လေ့လာသည့် သဘောဖြစ်သည်။ ဤသည် လောကရှိ အရာအားလုံးတွင် ရှိနေသည်။ ဤသည်ကျမ်းတော်မြတ်ကုရ်အာန်နှင့်လည်း ပတ်သက်နေသည်။

ဆွဟာဗီကြီး အဗ်ဒုလ္လာဟ်ဘင်န် မတ်စ်အူးဒ် ထံမှ သိရှိရသည်။ တမန်တော်မြတ်မုဟမ္မဒ် က မိန့်တော်မူသည်မှာ– ကျမ်းတော်မြတ်ကုရ်အာန်သည် အက္ခရာစု ခုနစ်ခုပေါ်တွင် ဆင်းသက်လာရသည်။ ကျမ်းတော်မြတ်၏ အာယတ်ဖော်ပြချက် ဟူသမျှသည် တစ်ခုက ရုပ်ပြသဘော ရိုးရိုးဖြစ်ပြီး၊ နောက်တစ်ခုက နက်နဲသော အတွင်း ကျသော အသိဉာဏ်ကို စေစားလျက် လေ့လာသည့်သဘော ဖြစ်သည်။ အားလုံးအတွက် **မုသလ်လာအ်** တစ်ခုရှိသည်။

مطلع ဟူသည် အရဗီဘာသာစကားအားဖြင့် ချောင်းမြောင်းကြည့်သော နေရာကိုခေါ်သည်။ ယင်းစကား လုံး၏ အဓိပ္ပာယ်ကို ရှင်းပြရသော် လူတစ်ဦးသည် သာမန်နေရာမှ ကြည့်လျှင် အနီးရှိအရာများကို ရှုမြင်ရမည်ဖြစ်သည်။ အကယ်၍ မြင့်သောနေရာမှ ကြည့်မည်ဆိုလျှင် ဝေးလံသောနေရာအထိ ရှုမြင်ရမည်ဖြစ်သည်။ ဤကဲ့သို့ပင် ကျမ်းတော်မြတ် ကုရ်အာန်ကို လေ့လာသုံးသပ်မှုပြုရာတွင် နှစ်ခုသော **မုသလ်လာအ်** ရှုမြင်ရသော နေရာရှိနေသည်။ သို့ဖြစ်၍ ကျမ်းတော်မြတ် ကုရ်အာန်ကို သိမြင်နားလည်အောင် ပြုရေးတွင် အဆင့်နှစ်ဆင့်ရှိလာသည်။ ကျမ်းတော်မြတ်

ကို သာမန်ဖတ်ရှုရသော အသိအမြင်ဖြစ်ပြီး၊ နောက်တစ်ခုက သေချာကျနစွာ စူးစမ်းလေ့လာခြင်းမှ ရရှိသော ကုရ်အာန်၏ ဖွင့်ဆိုမှု အသိဖြစ်သည်။

ပထမနည်း လမ်းအားဖြင့် ကျမ်းတော်မြတ်ကုရ်အာန်ကို ဖတ်ရှုလျှင် သာမန် အသိကိုသာ ရရှိမည်ဖြစ်သည်။

ဒုတိယနည်း လမ်းက ပထမနည်းလမ်းကိုကျော်၍ မြင့်မားသော စူးစမ်း လေ့လာခြင်းကိုပြုကာကျမ်းတော်မြတ်ကုရ်အာန်၏ နက်နဲသော အသိအမြင်ကို ရယူရှာဖွေခြင်းပင် ဖြစ်သည်။ ဤသို့လေ့လာရာတွင် စာပိုဒ်များကိုသာမက စာပိုဒ်၏ဝန်းကျင်ကိုလည်း စူးစမ်းသိမြင်အောင် ပြုရပါမည်။

ဤဖော်ပြပါ အချက်နှစ်ချက်ကို သိမြင်အောင်ပြုရာတွင် ကျွန်ုပ်အနေဖြင့် ဥပမာနှစ်ခုကို ထုတ်နုတ်တင်ပြပါမည်။

၁။ကျမ်းတော်မြတ်ကုရ်အာန်၏ စူရဟ်ဘကွာရဟ်ကဏ္ဍတွင် အောက်ပါ အာယတ် တော်ကို တွေ့ရသည်။

أيود أحدكم أن تكون له جنة من نخيل وأعناب تجري من تحتها الأنهار له فيها
من كل الثمرات وأصابه الكبر وله نرية ضعفاء فأصابها إعصار فيه نار
فاحترقت كنلك يبين الله لكم الأيات لطكم تتفكرون( 2 6 6)

အသင်တို့အနက် တဦးတယောက်သော သူသည် ဤအဖြစ်ကို ကြိုက်နှစ်သက်ပါသလော၊ အဖြစ်ကား ထိုသူ၌ စွန်ပလွံ၊သပြေက်ဥယျာဉ်တခုရှိ၏။ ထိုဥယျာဉ် အောက်မှ ရေယဉ်ချောင်းများ စီးတွေလျှက်ရှိ၏။ထိုဥယျာဉ်၌ ထိုသူ့အတွက် အမျိုးစုံသော သစ်သီးဝလံများလည်းရှိ၏။ ထိုသူ၌ သက်ရွယ်ကြီးပြင်း အိုမင်း ရင့်ရော်ခြင်းသည် ဆိုက်ရောက်လာ၏။ ထိုသူ၌မစွမ်းမသန်အားအင်ချည့်နဲ့သော သားသမီးများလည်းရှိ၏။ ထိုကဲ့သို့သောအချိန်မျိုးတွင် ထိုဥယျာဉ်၌လောင်မီးပါရှိသော လေပြင်းမုန်တိုင်းသည်တိုက်ခတ်လေရာ ထို ဥယျာဉ်သည် လောင်ကျွမ်း ပျက်စီး သွားလေတော့သည်။ ထိုသူသည်ဤအဖြစ်ကိုအဘယ်သို့လျှင်ကြိုက်နှစ်သက်နိုင်အံ့နည်း။ ယင်းကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား သက်သေ လက္ခဏာတော်များကို ထင်ရှားစွာ ထုတ်ဖော်မိန့်ကြားတော်မူလေသည်။ သို့မှသာလျှင်

အသင်တို့သည် စဉ်းစားဆင်ခြင် သိမြင်ကြမည်ဖြစ်၏။ ( ၂ း ၂၆၆ )

အုမရ်သခင် ⸫ သည် ကျမ်းတော်မြတ်ကုရ်အာန် ဆွေးနွေးပွဲ တွင် အထက်ဖော်ပြပါ အာယတ်တော်ကို ဖတ်ပြပြီး ဤအာယတ်ကို စုးစမ်းခဲ့ရခြင်း ကြောင့် သူ့အနေနှင့် တစ်ညလုံးအိပ်မရဖြစ်ခဲ့ရကြောင်း၊ ထိုနောက် ဤအာယတ် တော် သည် မည်သည့် အကြောင်းအရာပေါ်တွင် အခြေခံ၍ ဤဖော်ပြ ချက်ဖြစ်ပြီး ပို့ချခြင်းခံ ရခြင်းဖြစ်သည်ကို သိမြင်သောသူတို့အနေဖြင့် ဆွေးနွေး တင်ပြနိုင်ကြောင်း ဖိတ်ခေါ်သည်။ အချို့သောပုဂ္ဂိုလ်တို့က စွန်ပလွံသီးနှင့် စပျစ်ခြံ များကို ဖော်ပြသည် ဖြစ်၍ အလ္လာဟ်အရှင်မြတ်၏ နေအိမ်မသိပေးကမ်းမှုကို သတိရ စေပြီး၊ ယင်းသည် ရုပ်သိမ်းခံရမှုနှင့် ပေးကမ်းမှုသာမကပူးလောင်သောလေနှင့် အတူ ဖျက်ဆီးပစ် နိုင်ကြောင်း ဖော်ပြသည်ဖြစ်၍ ရုပ်ပြသဘောအရဆိုသော် ဤသည်မှာ ဖျက်မှုကို ဖော်ကျူးသော အာယတ်ဖြစ်သည်ဟု ဆိုကြသည်။

နောက်ဆုံးဆွေးနွေးသော ပုဂ္ဂိုလ်က အသက်အရွယ်နုနယ်သော ဆွဟာဗီ အဗ်ဒုလ္လာဟ်ဘင်န် အဗ်ဗားစ် ⸫ ဖြစ်သည်။ သူက တင်ပြဆွေးနွေးသည်မှာ ဖော်ပြပါ ကျမ်းတော်မြတ်ကုရ်အာန်၏ အာယတ်တော်တွင် လူသားတို့၏ လက်တွေ့လုပ်ဆောင် မှု၏ရလဒ်နှင့် စပ်လျဉ်းသော ဥပမာပေးတင်ပြချက်ဖြစ်သည်ဟု ဆို၏။ ထိုအခါ ခလီဖာ့ကြီးအုမရ်သခင် ⸫ က မေးသည်မှာ ဘယ်ကဲ့သို့သော လုပ်ဆောင်ချက် များလဲဟု ဆိုရာ၊ အဗ်ဒုလ္လာဟ်ဘင်အဗ်ဗားစ်သခင် ⸫ က ဤသည် ကြွယ်ဝချမ်း သာသော သူ၏ ဥပမာပေးချက်ဖြစ်သည်။ ယင်းသူသည် အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်တရားပေါ်တွင် ဘဝတည်ဆောက် ကျင့်ကြံ သည်။ အလ္လာဟ်အရှင်မြတ် သည် သူ့အား စမ်းသပ်ရန် သူ့ထံသို့ ရှိုက်တွာန်ကို ရောက်စေသည်။ ယင်းသည် ရှိုက်တွာန်၏ လှုံ့ဆော်မှုကို သဘောကျလျှက် မကောင်းမှုများကို လုပ်ဆောင်လာ သည်။ ဤသို့အားဖြင့် သူ၏ အတိတ်က ပြုလုပ်စုဆောင်း ထားသော ကောင်းမြတ် သည့် လုပ်ဆောင်ချက် ရလဒ်သည် ကုန်ဆုံးရတော့သည်။

ထိုအခါ ခလီဖှာကြီး အုမရ်သခင် ﷺ က ' ငါတူ–မင်းပြောတာ မှန်တယ်။ 'ယင်းနောက် အုမရ်သခင်က ဆက်လက် ပြီး အောက်ပါအတိုင်း ယင်းအာယတ်တော်ကို ရှင်းလင်းဆွေးနွေးဖော်ပြသည်။ ဤဖော်ပြချက်ဥပမာသည် လုပ်ဆောင်မှုကိုဖော်ပြခြင်းဖြစ်သည်။ လူသည် သူ၏ ဥယျာဉ်ခြံကို မိုခိုအားထားရချိန်သည် ထိုသူအိုမင်းရင့်ရော်ပြီး သားသမီး မှီခိုသူ များပြားချိန်ဖြစ်သည်။ ဤသဘောက လူသည် သူ၏ လုပ်ဆောင်ချက် ရလဒ်ကို ကိယာမသ်နေ့တွင် အားအကိုးရဆုံး အခြေတွင် ရှိမည်။ **[သဖ်စီရ် အိဗ်နေကာစီရ်]**

ဤဖော်ပြပြီးသော ကျမ်းတော်မြတ်၏ တင်ပြချက်ကို အပေါ်ယံအမြင်ဖြင့် ကြည့်လျှင် ဤသည် ခြံဥယျာဉ်ကိုသာ ရှုမြင်ရမည်ဖြစ်သည်၊ သို့ရာတွင် နက်ရှိုင်းစွာ အသိဉာဏ်ကိုစေစားလျက် လေ့လာသုံးသပ်သည့်ရှိသော် ထိုးထွင်းသိမြင်နိုင် သောဖွင့်ဆိုချက်ကို သိရှိရမည်ဖြစ်သည်။ ပထမဖွင့်ဆိုချက်တွင် လောကီတွင် သစ်သီးဝလံကို ရရှိမှုနှင့် နှုတ်သိမ်းခံရမှု၏ အဓိပ္ပာယ်ကို ဖော်ပြသည်။ ဒုတိယဖွင့်ဆိုချက်တွင်မူ အာခေရသ်တွင် ကြုံတွေ့ရမည့် ရလဒ်အကြောင်းကို သိမြင်အောင်ပြုရေး ကိုဖော်ညွှန်းနေကြောင်း တွေ့ရသည်။

၂။တမန်တော်မြတ် ကွယ်လွန်ဝဖားသ်ဖြစ်ချိန်တွင် ခေလာဖသ်တာဝန်ရပ်နှင့် ပတ်သက်၍ အငြင်းပွားမှုဖြစ်ခဲ့ရသည်။ အချို့က မက္ကာမှရောက်ရှိလာသော မုဟာဂျိရိန်တို့မှ ဖြစ်ရမည်ဟု ဆိုကြသည်။ အချို့ကလည်း မဒီနာသား အန်စွာရ်တို့မှ ဖြစ်ရမည်ဟု ဆို၏။ အချို့တို့တစ်ဦးစီက ပုဂ္ဂိုလ်တစ်ဦးဦးကို အဆိုပြုကြသည်လည်းရှိသည်။ ဤအကြောင်း ဖြစ်ရပ်နှင့် ပတ်သက်၍ အိဗ်နေအူဗိရှိဟာက အိဗ်ဆီရိန်ထံမှ တစ်ဆင့် ဖော်ပြချက်ကို အောက်ပါအတိုင်း တွေ့ရသည်။

အဗူဗကရ်သခင် ﷺ အား ဗိုင်အသ်ပြုနေချိန်တွင် လူအချို့က

အဗူအိုဗိုင်ဒုလ္လာဟ်ဘင်န်ဂျရယ်သခင် ထံသို့ ရောက်ရှိ လာသည်။ သခင်က ပြောသည်မှာ 'အသင်တို့ ခေလာဖသ်အရေးနှင့် စပ်လျဉ်းပြီး ငါ့ထံရောက်လာကြသည်။ ဒါပေမယ့် အသင်တို့စပ်ကြားတွင် ဆာနီအစ်နိုင်ဖြစ်သော အဗူဗကရ်သခင် က ရှိနေသည်' **(ကန်ဇုလ်အမလ်ကျမ်း တွဲ-၃၊ စာ၁၄၀)**

တမန်တော်မြတ်သည် မက္ကာမြို့မှ မဒီနာမြို့သို့ ဟိဂျ်ရယ်ပြုချိန်တွင် တမန်တော်မြတ်နှင့်အတူ အဗူဗကရ်သခင် ရှိခဲ့သည်။ ဤအချက် မှတ်တမ်းဖြစ်ရပ်နှင့် ပတ်သက်ပြီးကျမ်းတော်မြတ်ကုရ်အာန်က အောက်ပါအတိုင်း မှတ်တမ်း ဖော်ပြထားသည်။

**إذ أخرجه الذين كفروا ثاني اثنين إذ هما في الغار**
**إذ يقول لصاحبه لا تحزن إن الله معنا فأنزل الله سكينته**

''ကာဖိရ်'' မယုံမကြည် သွေဖည်ငြင်းပယ်သောသူများကယင်းတို့ အား မက္ကာမြို့မှ နှင်ထုတ်ကြစဉ် သူတို့နှစ်ယောက်အနက် ''' ဒုတိယဖြစ်သူ ဂူထဲ၌ရှိနေကြစဉ် ထိုတမန်တော်က မိမိအဖော်အား''အသင်မပူပါ လေနှင့်၊ မုချဧကန်အလ္လာဟ် အရှင်မြတ်သည် ငါတို့နှင့်အတူ ရှိတော မူသည်'' ( ၉ း ၄၀ )

ကျမ်းတော်မြတ်ကုရ်အာန်ကို အပေါ်ယံလေ့လာဖတ်ရှုသူ တစ်ဦးအဖို့ရာ တွင် ခေလာဖသ်တာဝန်ကို ခန့်အပ် ပေးအပ်ရေးသည် မဆုံးဖြတ်ရသေးသော ပြဿနာတစ်ရပ်ဖြစ်သည်။ တမန်တော်မြတ် မရှိသည့်နောက် မည်သူ့ကို ခလီဖှာ အဖြစ်တင်မြှောက်ရမည်နည်း။ သို့ရာတွင် ကျမ်းတော်မြတ်ကုရ်အာန်ကို လေ့လာရာတွင် အသိဉာဏ်ကို စေစား ထိုးဖောက်မြင်နိုင်ရန် ကြိုးစားသူတစ်ဦးအဖို့ ဤ အာယတ်တော်၏ ဖော်ပြချက်သည် ဆုံးဖြတ်ချက်ပြီးသော အချက်ဖြစ်နေ သည်။ ကျမ်းတော်မြတ်ကုရ်အာန်က **'ဆာနီအင်နိန်နိုင်း'** နှစ်ဦးထဲက ဒုတိယ ဝေါဟာရအားဖြင့် အလ္လာဟ်အရှင်မြတ်က ဖော်ညွှန်းပြသထားသော နိမိတ် လက္ခဏာကို သိမြင်ကြပြီးဖြစ်သည်။

ယင်းပုဂ္ဂိုလ်တို့အဖို့ရာတွင် အလ္လာဟ်အရှင်မြတ်က ဖြစ်စေလိုသော သူနှစ်ဦးထဲကတစ်ဦးဖြစ်သော ဒုတိယလူသည် အဗူဗကရ်သခင် ဖြစ်သည်ကို

သိမြင်ကြသည်။ အဗူဗကာရ် သခင် ﷺ သည် တမန်တော်မြတ်ပြီးလျှင် ဒုတိယ မြောက်လူဖြစ်သည်။ ဤသို့ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ညွှန်းပြ သသသည်ကို သိရှိရပြီးနောက် သူတို့အတွက် အငြင်းပွားစရာ ပြဿနာဖြစ်စရာ တစ်စုံတစ်ရာမျှ မရှိတော့ပါ။ အကယ်၍ တစ်စုံတစ်ဦး သောသူက အပေါ်ယံအားဖြင့် ရှုမြင်ကြလျှင်မူ ဤသည် ဆူရ်တောင်မှ သမိုင်းဝင် အဖြစ်အပျက် တစ်ရပ်သာလျှင် ဖြစ်မည်။ အကယ်၍ အနုစိပ် အသိဉာဏ်စေစား ထိုးဖောက်ကြည့်သော သူတို့ကမူ ဤသည် ခက်ခဲလှသော ခေလာဖသ် ပြဿနာဖြေရှင်းချက် ဖြစ်သည်ကို တွေ့ရမည်ဖြစ်သည်။

ဤဖော်ပြချက်ဥပမာတင်ပြချက် နှစ်ရပ်သည် ကျွန်ုပ်တို့အဖို့ရာတွင် အစ္စလာမ့်ယုံကြည်ချက် တစ်ခုလုံးနှင့် ကျမ်းတော်မြတ်ကုရ်အာန် တစ်အုပ်လုံးအတွက် နည်းလမ်းသုံးသပ်စရာဖြစ်မည်။ တစ်ခုက အပေါ်ရံအားဖြင့် သုံးသပ်သိမြင် အောင်ပြုမှု၊ နောက်တစ်ခုက ယုံကြည်ချက်နှင့် ကုရ်အာန်ကို ဉာဏ်အားဖြင့် စေစားသိမြင်ပြီး ထိုးဖောက်အဖြေရှာခြင်းပင် ဖြစ်သည်။ လူသည် ဤသို့ အပေါ်ရံကို ကျော်လွှားပြီး နက်နဲထိုးဖောက်ဝင်ရောက်လာလျှင် ယင်းသူသည် မမြင်ရသောအရှင် ကို ပျောက်ကွယ်နေသောအသွင်ဖြင့် မြင်တွေ့ရသည်။

ဤဒုတိယလူသည် ပထမလူကဲ့သို့ သာမန်လူဖြစ်သော်ငြားလည်း ယင်းသူ သည် စိတ်ပညာရှုဒေါင့်မှကြည့်လျှင် ထူးခြားသော အသွင်ရှိသော လူထူးဖြစ် နေသည်။ ပထမလူနှင့် ဒုတိယလူတို့၏ စီမံကိန်းချလုပ်ဆောင်မှုပုံစံ၏ ကွာခြားမှုကို နှိုင်းယှဉ်ပြရလျှင် အလ္လာဟ်အရှင်မြတ်က စနစ်ဖယားနှင့် လူသားတို့၏ စီမံကိန်း ချမှတ်မှု၏ ကွာခြားမှုကဲ့သို့ပင်ဖြစ်သည်။

မအ်ရေဖသ်၏ ကွဲပြားနေသောချဉ်းကပ်မှုတွင် ဒုတိယနည်းသည် လူတစ်ဦးစီ၏ ဒီန်နှင့်စပ်လျဉ်းပြီး လေးစားလိုက်နာစည်ပင်မှုနှင့် လူ့အဖွဲ့ အစည်းအတွက် ဒီန်နှင့် စပ်လျဉ်း၍ ကြိုးပမ်းမှုလည်း ပါဝင်မည်။ လူတစ်ဦးသည်

သာမန်မျက်စိ၏ ရောက်ရှိမှုအထိကြည့်လျှင် ကျမ်းတော်မြတ်၏ ဖော်ပြသော လမ်းညွှန်ချက်ကို ရုပ်ပိုင်းဆိုင်ရာပြဿနာရပ်များလောက်သာ အသုံးချနိုင် မည်ဖြစ်သည်။ ယင်းကို ကျော်လွှားပြီး မြင့်မားသောအဆင့်အထိ လေ့လာသူသည် သာမန်ဖော်ပြချက်အတိုင်း ထက်ပင်ကျော်၍ အစ္စလာမ်၏ ယုံကြည်ချက်ဆိုင်ရာနှင့် ကျမ်းတော်မြတ်ကုရ်အာန်၏ လမ်းညွှန်ချက်တရား၏ လေ့လာနိုင်မည်ဖြစ်သည်။ ဤလေ့လာမှုမှ ရသောအဖြေသည် လူသားတို့၏ စိတ်ပိုင်းဆိုင်ရာအဆင့် မြင့်မားမှုအတွက် အစာအဟာ ရအသွင်ဖြည့်ဆည်းခံရမည်ဖြစ်သည်။

ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသည်မှာ သက္ကဝါဟ်၏ အဝတ်တန်ဆာသည်ပိုမို၍ကောင်းမြတ်လှသည်။(ရး ၂၆)

**يابني آدم قد أنزلنا عليكم لباسا يواري سوآتكم وريشا**
**ولباس التقوى ذلك خير ذلك من آيات الله لعلهم يذكرون ــ**

အို–အာဒမ်၏ သားသမီးအပေါင်းတို့၊ ငါ အရှင်မြတ်သည် အသင်တို့၏ အရှက်ကိုဖုံးအုပ်သည့် အဝတ်အစားကိုအသင်တို့လုပအောင် ဆင်ယင်ရန်ဝတ်စား ဖန်ဆင်းတော်မူခဲ့လေသည်။သို့ရာတွင် သက်ဝါဟ်တည်ဟူသော အဝတ်တန်ဆာသည်ကား အမြင့်မြတ်ဆုံး ဖြစ်ပေသည်။ ( ရး ၂၆ ) သည်

ဤဖော်ပြချက်ကို သာမာန်လူတို့သည် လိဘာစ် အဝတ်တန်ဆာကို ခန္ဓာကိုယ်ကို ဝတ်ဆင်ရသော အဝတ်တန်ဆာဟူ၍ ယူကြသည်။ ယင်းကျမ်းတော်မြတ်ကုရ်အာန်လာ ဝေါဟာရကို သိမြင်ကြသည်မှာ ရှရီအသ်စည်းမျဉ်းစည်းကမ်းအားဖြင့် အဝတ်တန်ဆာ ဝတ်ဆင်မှုဟူ၍ သာမန် လူတို့က သိမြင်ကြသည်။ ယင်းအာယတ်တော်ကို အဗ်ဝါဟ်ဘင်န် ဇုဘိုင်ရ်သခင် ـ က ဖတ်ရှုလေ့လာသောအခါ ယင်းလိဘာစ် အဝတ်တန်ဆာသည် ဥပမာ

အလင်္ကာအဖြစ် သုံးစွဲထားသော စကားဖြစ်ပြီး **လိဘာစွသ်သက်ဝါဟ်ကို** သူ့အနေဖြင့် ခရှိယသွလ်လာဟ် ـ အလ္လာဟ်အရှင်မြတ်ကို ရိုကျိုးခြင်းဟု ဖွင့်ဆိုသည်။ သူ၏ ဖွင့်ဆိုသည့် သဘောတရားက ဝတ်စားတန်ဆာသည် ခန္ဓာကိုယ်၏ အလှအပကိုဖြစ်စေနိုင်သကဲ့သို့ လူ၏ ရုပ်၏ အလှအပသည်ကား

အလ္လာဟ်အရှင်မြတ်ကို ရိုကျိုးကြောက်ချစ်ခြင်းဖြစ်သည်ဟု သဖ်ဆိရ်အိဗ်နေကဆိရ်တွင်ဖော်ပြထားသည်။သဘောတရားက ဝတ်စားတန်ဆာသည် ခန္ဓာကိုယ်၏ အလှအပကိုဖြစ် စေနိုင်သကဲ့သို့ လူ၏ ရုပ်၏ အလှအပသည်ကား အလ္လာဟ်အရှင်မြတ်ကို ရိုကျိုးကြောက်ချစ်ခြင်းဖြစ်သည်ဟု သဖ်ဆိရ်အိဗ်နေကဆိရ်တွင်ဖော်ပြထားသည်။

ဤကဲ့သို့ပင် ဒီန်၏ လူ့အဖွဲ့အစည်းအတွက်လည်း ဖြစ်ပြန်သည်။ လူ့အဖွဲ့အစည်းတွင် ဒီန်၏တည်ရှိမှုသည် ရုပ်ပိုင်းဆိုင်ရာအခြေတွင် တည်ရှိပါသည်။ ဤသို့ပင် နက်နဲသော အမြင်ဖြင့် စူးစမ်းမှုအားဖြင့် တွေ့မြင်ရချက်ကလည်း ရှိပါသည်။ ဟူဒိုင်ဗီယာ(ဟိဂျရီ၆–ခုနှစ်)အရေးအခင်းကာလက သာမန်မွတ်စလင်မ်တို့က စဉ်းစားကြသည်မှာ ကိုဟာဒ်ဟူသည် ကာဖိရ်တို့နှင့် စစ်မက်တိုက်ခိုက်ခြင်းဖြစ်သည်။အကြောင်းမူကား ဤသရေးရှိသောသေခြင်းသည် အရှက်တကွဲအကျိုးနဲစွာ အသက်ရှင်ရပ်တည်ခြင်းထက်မြတ်သည်။

သို့ရာတွင်ထိုစဉ်က တမန်တော်မြတ်နှင့် အဗူဗကရ်သခင် ☆ တို့က သုံးသပ်သည်မှာ အစ္စလာမ်လူ့အဖွဲ့အစည်းဝင်တို့အတွက် အောင်မြင်မှုဟူသည် ကာဖိရ်တို့၏ တောင်းဆိုချက်များကို သဘောတူလျက် စစ်ပြေငြိမ်းသော ငြိမ်းချမ်းရေးစာချုပ်ချုပ်ဆိုခြင်းပင်ဖြစ်သည်ဟူ၍ဖြစ်သည်။ ဤသို့အားဖြင့် တည်ငြိမ်သော အခြေအနေ ကောင်းရှိလာပြီး ဒါဝသ်သာသနာဖြန့်ချိရေး အခွင့်အလန်းရှိလာမည်ဖြစ်သည်။ ရုပ်ပိုင်းဆိုင်ရာ ရှုမြင်သော သူတို့သည် ယင်းကိစ္စများကို လက်နက်အားဖြင့် ဖြေရှင်းလိုပါသည်။ သို့ရာတွင် ဟိကမတ်နှင့် မြော်မြင်တတ်သောအဖြစ်ရှိသော တမန်တော်မြတ်သည်ကား ဤအဖြစ်ရပ်ကို ဒါဝသ်နယ်ပယ်သည်သာလျှင် အစ္စလာမ်အကြီးမားဆုံးသော ခွန်အားနှင့် အောင်မြင်မှုဖြစ်သည်ကို သိမြင်သည်။

ဤသို့ပင် သမိုင်းဖြစ်ရပ်တစ်ခုက ကျွန်ုပ်တို့ကို ညွှန်ပြနေသည်။ ဤဖြစ်ရပ်သည် အေမာမ်ဟာဆန် ☆ နှင့် အေမာမ်ဟုစိုင် ☆ တို့၏ ဘဝမှသိမြင်ရသည်။ ဤနှစ်ဦးသော ပုဂ္ဂိုလ်တို့အဖို့ ဤသို့သော ဖြစ်ရပ်နှင့် ကြုံတွေ့ခဲ့ရသည်။

အေမာမ်ဟာဆန် သည် မိုအာဝီယာဘင်နှ်အဗူဆွဖ်ပဝါနှ်နှင့်ပြဿနာဖြစ်ရသည်။ ဤသို့ပင် အီမာမ်ဟိုစိုင် သည် ယဇိဖ်ဘင်နှ်မိုအာဝီယာနှင့် အချင်းဖြစ်ခဲ့ ရသည်။ အီမာမ်ဟိုစိုင် သည် သူ၏ပြဿနာဖြစ်ရမှုကို ရုပ်အမြင်ဖြင့် သုံးသပ်ခဲ့သည်။ မှန်ကန်မှု၊ မမှန်ကန်မှု ရှုဒေါင့်မှ သုံးသပ်ဖြေရှင်းခဲ့သည်။ သို့ဖြစ်၍ မမှန်ကန်သူတို့နှင့် တိုက်ခိုက်ရင်းက ကျဆုံးခဲ့ရသည်။ အီမာမ်ဟာဆန် က သူနှင့် ကြုံတွေ့ဖြစ်ခဲ့ရသော ပြဿနာကို နက်နဲသော မျှော်မြင်တတ်မှုဖြင့် ဖြေရှင်းရန် ကြိုးစားခဲ့သည်။ ခိုက်ရန်ဖြစ်ပွားပြီး သွေးချောင်းစီးရမှုထက် စစ်ပြေငြိမ်းကာ ငြိမ်းချမ်းရေးရရှိမှုကို ဖြစ်စေခဲ့သည်။

သမိုင်းဖြစ်ရပ်က တင်ပြသည်မှာ အီမာမ်ဟုစိန် သည် မမှန်ကန်သူတို့ကို တိုက်ခိုက်ရင်းက ကရ်ဗလာစစ်မြေပြင်တွင် ရှဟီဒ်အဖြစ်ကျဆုံးခဲ့ရသည်။ အီမာမ်ဟာဆန် ၏ အမြော်အမြင်အကြောင့် အစ္စလာမ်လူ့အဖွဲ့အစည်းချင်း သွေးထက်သံယိုမှုကို ရှောင်ရှားကာ နိုင်ငံရေးတည်ငြိမ်မှုကို ရယူနိုင်ခဲ့သည်။ ဤသို့အားဖြင့် အစ္စလာမ်လူ့အဖွဲ့အစည်း နိုင်ငံတော်ရှိ ပြည်သူများသည် တည်ဆောက်ရေးလုပ်ငန်းရပ်နှင့် တိုးတက်ရေးဖက်သို့ ရှေးရှုနိုင်ခြင်းကို ဖြစ်စေခဲ့ပါသည်။

လူ့အဖွဲ့အစည်းအစုအရုံးဖြင့် ပြုလုပ်သော လုပ်ငန်းရပ်ချင်း အရေးအကြီးဆုံးသော အောင်မြင်မှုကို ဖြစ်စေသော အရာသည်ကား ဆွဘာရ် ကြံ့ကြံ့ခံရပ်တည်ခြင်းပင်ဖြစ်သည်။ ဤသည် အောင်မြင်မှု လမ်းကြောင်း၏ လျှို့ဝှက်ချက်လည်း ဖြစ်ပြန်သည်။ ယင်းတို့ကို ဖျက်လိုဖျက်ဆီးပြုသောရာသည် ဆွဘာရ် ကြံ့ကြံ့ခံခြင်း၏ ဆန့်ကျင်ဖက်သဘောပင်ဖြစ်သည်။ ဤလောကကြီးတွင် အစ္စလာမ်ကို သက်ဝင်ယုံကြည်သော မွတ်စလင်မ်တို့သည် အခြားသော ယုံကြည်ချက်ရှိသော ညီနောင် များနှင့် ပူးတွဲနေထိုင်ရသည်ကို သတိပြုသင့်သည်။ ဤဒွန်နယာလောကကြီးသည် ဆန်းစစ်နေရသော စာမေးပွဲနှင့် တူလှသည်။

ဤလောကကြီးတွင် အားလုံးအတွက် အခွင့်အလန်းက ရှိနေသည်။ အားလုံးဟုဆိုသောသူတို့တွင် ညှင်းပမ်းနှိပ်စက်သောသူလည်းပါသည်။ ကောင်းမြတ်

သော အပြုသဘောဆောင်သော သူတို့လည်း ပါသည်။ ဤသို့သော် အခြေအနေတွင် တစ်စုံတစ်ခုသော ပြဿနာများ အခြားသူတို့ဖက်မှ ကျူးလွန်ဖြစ်လာခဲ့သော် အချင်းချင်း ညီညွတ်နေဟန် ပုံဖော်ကာ ယင်းပြဿနာရပ်များ ကျော်လွန်သွားသော အခါ မူလရပ်ပုံများဖြစ်သည်။ ညီညွတ်ခြင်းမဲ့သော အချင်းချင်း ခိုက်ရန်ဖြစ်ပေါ်မှု သည် ဖြစ်လာသည်။ ဤသည် ခိုင်မြဲသော သွေးစည်းညီညွတ်မှုဟုဆို၍မရပါ။ ဤသို့သော လူ့အဖွဲ့အစည်းသည် အစဉ်အမြဲ မအောင်မြင်မှုကို ဆုံတွေ့ရသည်ကများ၏။

ဖြစ်သင့်သော အခြေအနေက ငြင်းပယ်ရန်ကို ကျော်လွှားရပြီးနောက် ရှိနေသော သွေးစည်းညီညွတ်ရေးကို ခိုင်မြဲအောင်ပြုရေးပင်ဖြစ်သည်။ ထိုမှတစ်ဖန် မိမိတို့၏ လူ့အဖွဲ့အစည်းတွင်ရှိနေသော အင်အားကို မည်ရွေ့မည်မျှရှိနေသည်ကို ဆန်းစစ်လေ့လာသုံးသပ်နိုင်ရပါမည်။ ဤသို့ပြုရာတွင် အကောင်းမြင်၊ မကောင်းမြင် ရှုဒေါင့်မှ မဟုတ်ပဲ ယထာဘူတနည်းကျ သော သုံးသပ်မှုကို ပြုနိုင် ရပါမည်။ ဤသို့ ဆန်းစစ်သုံးသပ်ရာတွင် ဆန့်ကျင်ဖက်တို့နှင့် မည်သို့မျှ ဆုံးရှုံးပျက်စီးခြင်းမရှိပဲ အခြေအနေကောင်းကို မည်သို့ ဖန်ဆင်းတည် ဆောက်ရမည်ကို အဖြေရှာရပါမည်။

အကယ်၍သော မွတ်စလင်မ်တို့အနေဖြင့် ဆွဘာရ်ကြံ့ကြံ့ခံသော နည်းစဉ်ကို လက်ကိုင်ပြုနိုင်ခဲ့လျှင် ကိစ္စရပ်အားလုံးကို မုချအောင်မြင်ဖြစ်ထွန်းနိုင်မည်ဖြစ်သည်။ ဆွဘာရ်မဲ့သော သူတို့သည် ခေတ္တခဏ၏ သွေးကြွမှု၊ လွဲမှားသော သုံးသပ်ဖြစ် ထွန်းမှုကို ဖြစ်ပေါ်စေပါသည်။ ဆွဘာရ်သည် စည်းစနစ်ကျသော ပုံဖော်မှုလမ်း ကြောင်းကိုပြသသည်။ စိမ်ခေါ်ခြင်း အလုံးစုံဖြင့် ပြည့်နေသော ဤလောကကြီးတွင် ယာယီလုပ်ဆောင်ချက် အပေါ်တွင်တည်ဆောက် မှုသည်ခိုင်ခံ့ခြင်းမရှိတဲ့ စီမံကိန်း ချမှတ်သော နည်းစဉ်သည်သာလျှင် အမြဲအောင်မြင်မှု ကို ဖြစ်စေနိုင်ပါသည်။

## အခန်း ( ၂ )

# လှေလှောသိုးသပ်မှု၏ နည်းစနစ်

အာဒမ်နဗီ၏ လူ့အဖွဲ့အစည်းသည် ယူဖရေတီးမြစ်နှင့် တိုက်ဂရစ်မြစ် အကြားရှိ မြစ်ဝှမ်းဒေသတွင် စတည်းချ နေထိုင်ခဲ့ကြသည်။ ဤဒေသကို သမိုင်းက မက်ဆိုပိုတေမီယာဟု ခေါ်ကြသည်။ ဤလူ့အဖွဲ့အစည်း သူတို့ခေတ်က မွတ်စလင်မ် များဖြစ်ကြသည်။ ဤလူ့အဖွဲ့အစည်း၏ အခြေအနေဆိုးယုတ်သောအခါ အလ္လာဟ်အရှင်မြတ်သည် ယင်းလူ့အဖွဲ့ အစည်းကို ပြုပြင်လမ်းညွှန်ရန် နူဟ်နဗီကို ယင်းသူတို့ထံ တာဝန်ပေးစေလွှတ်ခဲ့သည်။ သို့ရာတွင် ယင်းသူတို့သည် သတိ လက်လွှတ်ပြုနေလျက်၊ ခေါင်းမာမှုကို ဆက်လက်ပြုမြဲပြုခဲ့ကြသည်။ သို့ဖြစ်၍ ယင်းသူတို့ကို သိမြင်နားလည်ရန် နိမိတ်လက္ခဏာအဖြစ် ကြီးမားသော ရေလွှမ်း မိုးခြင်းကို ပြစ်ဒဏ်အနေဖြင့် သိစေခဲ့သည်။ နူဟ်နဗီသည် နောက်လိုက်နောက် သားအနည်းငယ်ဖြင့် လှေကြီးတွင် ဝင်ရောက်ကာ အသက်ဘေးမှ လွတ်မြောက် ခဲ့ရသည်။ ဤလှေကြီးတွင် ပါဝင်သော အီမာမ်ရှင်တို့မှအပ ကျန်လူများသည် ရေထဲတွင် နစ်မျောသေဆုံးခဲ့ရသည်။

ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြထားသည်မှာ နူဟ်နဗီ၏သား သည်ပင်လျှင် ဖခင်၏ ဖိတ်ခေါ်မှုကို ဆန့်ကျင်ပြီး လှေကြီးတွင် ပါဝင်ရန် ငြင်းဆန်ခဲ့သည်။ သားဖြစ်သူက ဆိုသည်မှာ သူသည် တောင်ပေါ်သို့ တက်မည်။ ဤသို့အားဖြင့် မုန်တိုင်းဒဏ်မှ လွတ်မြောက်မည်ဟု ဆို၏။ နူဟ်နဗီက ပြန်လည်ရှင်းပြသည်မှာ ယနေ့ မည်သူကမျှ အလ္လာဟ်အရှင်မြတ်၏ သတ်မှတ် ထားချက်ကို ကျော်လွှားပြီး လွတ်ငြိမ်းချမ်းသာခွင့်ရမည်မဟုတ်ပါ။ (ဟူဒ် း၄၃)

ဤဖြစ်ရပ်ကို နူဟ်နဗီက အလ္လာဟ်အရှင်မြတ်၏ လုပ်ဆောင်ချက်ဟု ခံယူသည်။ သို့ဖြစ်၍ အလ္လာဟ်အရှင်မြတ်၏ အစီအမံဖြင့် ပြုလုပ်ထားသော လှေကြီးတွင် စီးနင်းခဲ့ကြသည်။ သို့ရာတွင် နူဟ်နဗီ၏ သားဖြစ်သူက ဤသည်

ရာသီဥတု၏ ကြမ်းတမ်းမှုကြောင့် ဖြစ်မည်ဟု လက်ခံသည်။ သို့ဖြစ်၍လည်း လွတ်လမ်းအနေဖြင့် မြင့်သောတောင်ပေါ်သို့ တက်ပြေးခဲ့ခြင်း ဖြစ်သည်။

သူတို့နှစ်ဦး၏ ခြားနားချက်က တစ်ဦးသည် အန္တရာယ်မှ လွတ်မြောက်သွားသည်။ တစ်ဦးက ရေလွှမ်းမိုးမှုတွင် ပါဝင်ကာ သေဆုံးခဲ့ရသည်။ ဖြစ်ရပ်တစ်ခုကို အလ္လာဟ်အရှင်မြတ်ဖက်မှ ဟူ၍ ခံယူသူသည် အလ္လာဟ်ထံတော်သို့ ခိုလှုံမည်ဖြစ်သည်။ ယင်းသူတွင် မနားမနေတောင်းခံသော ခံစားရမှုများ ပေါ်ထွန်းလာမည်ဖြစ်သည်။

ဤသို့မဟုတ်ပဲ ဤဖြစ်ရပ်ကဲ့သို့သော အကြောင်းအရာများကို သာမန်ဖြစ်ရပ်အဖြစ် သတ်မှတ်ယူသူတို့အဖို့ သတိလက်လွတ်ဖြစ်ကာ၊ နုဟ်နဗီ၏ သားကဲ့သို့ပင် ခံရမည်ဖြစ်သည်။ယခုခေတ်ကာလတွင် မွတ်စလင်မ်တို့ အနေဖြင့် ကြီးမားလှသော မုန်တိုင်းနှင့် ကြုံတွေ့နေရသည်။ မွတ်စလင်မ်တို့ အနေဖြင့် ကမ္ဘာအဝှမ်း နေရာအနှံ့အပြားတွင် ကာဖိရ်တို့နှင့် ယုံကြည်ခြင်း ခြားနားဆန့်ကျင့်ဖက်တို့၏ ထိုးနှိပ်မှုကို ခံနေရပါသည်။ ဤအဖြစ်နှင့် မွတ်စလင်မ်အများစုနှင့် အနည်းစု ဒေသအသီးသီးနှင့် ကြုံနေခြင်းဖြစ်သည်။နေရာတိုင်းတွင် မွတ်စလင်မ်တို့သည် ပစ်မှတ်ဖြစ်နေသည်။ ဤသို့ဖြစ်ရပ်များတွင် မွတ်စလင်မ်မဟုတ်သော သူတို့၏ နှိပ်ကွပ်မှုကို ကြုံနေရသကဲ့သို့ အချို့နေရာများတွင် အားအင်ရှိသော မွတ်စလင်မ်အုပ်စုက အားအင်နည်းပါးသော အတွေးအခေါ်မတူသော သူတို့ကို နှိပ်ကွပ်နေသည်ကို တွေ့ရပါသည်။ ဤသို့ပြုရာတွင် အသုံးချခံနေရသည် လည်းရှိသည်။

အီမာန်ရှင်များနှင့် စပ်လျဉ်း၍ ကျမ်းတော်မြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ်က အကြိမ်ကြိမ် လမ်းညွှန်ပြသ တော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည်အီမာန်ကိုလက်ကိုင်ပြုသောသူတို့နှင့်အတူရှိသည်။(၈း ၁၉) ။အလ္လာဟ်အရှင်မြတ်သည် အီမာန်ကိုလက်ကိုင်ပြုသူဖက်မှာ အကာအကွယ် ပေးသည်၊( ၂၂ း၃၈ )။ အလ္လာဟ်အရှင်မြတ် သည် ဘယ်တော့အခါမှ ကာဖိရ်တို့ကိုအီမာန်ရှင်တို့အပေါ် လွှမ်းမိုးစေဖို့ အခွင့်အလမ်း ပေးမည်မဟုတ်ပါ။ ( ၄ း၁၄၁ ) ။

သို့ဖြစ်၍ ကျွန်ုပ်တို့အနေဖြင့် သိမြင်နားလည်အပ်သော အရာ သည် ဤဖြစ်ရပ်များသည် အလ္လာဟ်အရှင်ထံတော်မှ မွတ်စလင်မ်အတွက် သတိပေးချက် တစ်ရပ်ဖြစ်သည်။ ဤဖြစ်ရပ်များသည် ဤဖြစ်ရပ်များသည် အလ္လာဟ်ထံမှ ဖြစ်သည်။ လူတို့၏ စီမံဆောင်ရွက်ချက်ဖြစ်မဟုတ်သည်ကို သိမြင်အပ်ပေသည်။

သို့ရာတွင် ဤဖြစ်ပေါ်လာမှုနှင့်ပတ်သက်၍ မွတ်စလင်မ်အများ၏ စဉ်းစား တွေးခေါ်သတ်မှတ်မှုက တခြားစီဖြစ်နေသည်။ မွတ်စလင်မ်တို့က ''ဤသည် မွတ်စလင်မ်တို့ကို ရန်သူတို့က ဆိုးနှိမ့်နေသော လုပ်ကြံမှုတစ်ရပ်ဟု မွတ်စလင်မ် တတ်သိ ပညာရှင်ဆိုသူတို့နှင့်အတူ အစ္စလာမ်စာပေလောကသားတို့ကလည်း ဤသို့ ခံယူရေးဖွဲ့ကြသည်ကို တွေ့ရသည်။

ယင်းစွပ်စွဲချက်ကို အချို့က အနောက်တိုင်းလောကကို ပုံချသကဲ့သို့ အချို့လည်း အခြားသော အင်အားစုများကို တရားခံအဖြစ် ဖော်ပြနေကြသည်။ ဤသည် လွဲမှားသော သတ်မှတ်ချက် စွပ်စွဲချက်ဖြစ်သည်ကို သတိမမူကြပေ။ ဤသည် လူသားတို့၏ ပုံဖော်ချက် မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အစီအမံဖြစ် သည်ကို သိစေအပ်ပါသည်။ နဟ်နဗီ ခေတ်ကာလက သားတော်မောင်က မှားယွင်းသော ဆုံးဖြတ်ချက်ကို ချမှတ်သကဲ့သို့ ယခုခေတ် မွတ်စလင်မ်တို့က ဤအရေးသည် လောကီသားတို့၏ ထိုးနှိပ်ချက် အဖြစ်မြင်နေကြသည်။

နဟ်နဗီ၏ သားဖြစ်သူက ရေလွှမ်းမိုးပြီး မှန်တိုင်းကျခြင်းသည် လောကီ ဖြစ်ရပ်ကို ရှုမြင်သကဲ့သို့ ယခုခေတ်၏ မုန်တိုင်းကိုလည်း သတ်မှတ်ကြခြင်းဖြစ်သည်။ ဤဖြစ်ရပ်ကို အလ္လာဟ်အရှင်မြတ်ထံတော်မှ သတ်မှတ်ချက်ဟု ခံယူခဲ့လျှင် အလ္လာဟ်ထံတော်သို့ ချဉ်းကပ်အဖြေရှာကြမည်ဖြစ်သည်။ ဤသို့အားဖြင့် ဤဖြစ်ရပ်မှ လွတ်မြောက်စေဖို့ရန် မည်သည့်အစီအမံများ လုပ်သင့်သည်ကိုလည်း စီမံချက် ချမှတ်အဖြေရှာကြလိမ့်မည်။ သို့ရာတွင်ဖြစ်ရပ်ကို လူတို့၏လုပ်ကြံမှုဟု သတ်မှတ်ပြီး သည့်နောက်၊ သူတို့ သတ်မှတ်လိုက်သော လူမျိုးစုများနှင့် လူအဖွဲ့အစည်းဝင်တို့ကို အမုန်းပွားကာကလဲ့စားချေယူခြင်းမှအပ အခြားနည်းလမ်းမရှိပါ။ ဤသို့ အမုန်းစိတ် များပွားများလိုခြင်းဖြစ်သည်။

မွတ်စလင်မ်တို့သည် အလ္လာဟ်အရှင်မြတ်ကို အရာရာတိုင်းကို စီမံပြုလုပ် ဖယားချပေးသောအရှင်အဖြစ် အိမာန်ရှင်များအနေဖြင့် ခံယူထားကြစမြဲပါ။ အကယ်၍ ဤခံယူချက်ကို ခံယူထားသောသူတို့သည် တစ်စုံတစ်ခုသော ခက်ခဲလှသော ဖြစ်ရပ်များနှင့် ကြုံတွေ့ခဲ့ရသော် ယင်းအတွက် အလ္လာဟ် အရှင်မြတ်အထံတော်သို့ ချဉ်းကပ်ကာ ရိုကျိုးတောင်းခံမှုကို ပြုကြမည်ဖြစ်သည်။ သို့ရာတွင် ယနေ့ခေတ် မွတ်စလင်မ် အများစုသည် ဤသို့စဉ်းစားခြင်းမဲ့လျက် လူလူချင်းဖြစ်ရပ် အဖြစ်သတ်မှတ် အဖြေရှာရာမှ အမုန်းစိတ်ကို အဖတ်တင် ရရှိနေခြင်းဖြစ်သည်။

ကောင်းကင်ကျ ကျမ်းများကို လက်ခံသော လူအဖွဲ့အစည်းဝင်တို့တွင် ထူးခြားသော ဥပဒေတစ်ခုရှိသည်။ ယင်းဥပဒေသကို ယင်းလူ့အဖွဲ့အစည်းဝင်တို့ အချင်းချင်း ပျက်ပြားစေသော အခြေအနေဆိုးများ ပေါ်ထွန်းထွက်ပေါ်လာသော အခါ ယင်းသူတို့အပေါ်သို့ အလ္လာဟ်အရှင်မြတ်အထံတော်မှ သတိပေးချက် ပြစ်ဒဏ်များ ကျရောက်လာသည်။ ဤသို့အားဖြင့် ယင်းလူ့အဖွဲ့အစည်းဝင်များ နိုးကြားသတိဝင်လျက် သူတို့၏ အခြေအနေဆိုးများကို ပြုပြင်ကြမည်ဖြစ်သည်။

ယဟူဒီလူမျိုးစုဝင်တို့သည် သူတို့ခေတ်က အလ္လာဟ်ကို သက်ဝင် ယုံကြည်သူများဖြစ်ကြသည်။ ယင်းသူတို့၏ ပျက်ပြားလာသော အခြေအနေဆိုးများ ကို သိမြင်နိုင်ရန် သတိပေးချက်ပြစ်ဒဏ်များကို အလ္လာဟ်အရှင်မြတ် ကြိမ်ဖန်များစွာ ပြုခဲ့သည်။ အိန်ဂျီလ်ကျမ်းတွင် ယင်းဖြစ်ရပ်များနှင့် ပတ်သက်၍ ရှည်လျားစွာသော ဖော်ပြချက်များရှိသည်။ အီဆာနဗီမမွေးဖွားခင်က အကြောင်းချင်းရာများ ကို ဇဘုရ်ကျမ်း၊ ယာစီယာကျမ်း၊ ယရ်မီယာကျမ်းနှင့် ဟဇာကီအိုင်လ်ကျမ်းများတွင် ဖော်ပြထားသည် 'အီဆာနဗီပေါ်ထွန်း လာပြီးနောက် ယဟူဒီတို့အပေါ် ပြစ်ဒဏ်နှင့် ပတ်သက်၍ မသီနှင့်လုကာ အိန်ဂျီလ်ကျမ်းများတွင် တွေ့မြင်နိုင်ပါသည်။

ထာဝရဘုရားသည် မိမိတို့ကိုအမျက်တော်ထွက်၍မိမိအမွေတော်ကို ရွံရှာ တော်မူ၏။ သူတို့ကို တစ်ပါးအမျိုးသားတို့ လက်သို့အပ်တော်မူသဖြင့် မုန်း သော သူတို့သည် အုပ်စိုးကြ၏ ရန်သူတို့သည် ညှဉ်းဆဲ၍ သူတို့သည် ရန်သူတို့ အောက်တွင်

နိမ့်ချခြင်းကို ခံရကြ၏။ (ဆာလံကျမ်း ၁၀၆း၄၀)

ယဟူဒီတို့နှင့် အလ္လာဟ်အရှင်မြတ် စပ်ကြားပြဿနာများနှင့် ပတ်သက်ပြီး ကျမ်းတော်မြတ်ကုရ်အာန်တွင်လည်း အောက်ပါအတိုင်း ပါရှိသည်ကို တွေ့ရသည်။

ငါအရှင်မြတ်သည် ဣစရာအီလီမျိုးနွယ်တို့ထံ ကျမ်းတော်တွင်အားဖြင့် အသိပေးခဲ့သည်။ အသင်တို့သည် ပထဝီ မြေကြီးတွင် နှစ်ကြိမ်တိုင် ပဋိပက္ခပြုလျက် ကြီးမားသော ခေါင်းမာမှုကို ပြုမည်။ သို့ဖြင့် ပထမအကြိမ် မောက်မာခေါင်းမာမှု ပြုသောအခါ ငါအရှင်မြတ်သည် အသင်တို့အပေါ်တွင် အင်အားကြီးမားသော သူတို့ကို အပေါ်စီး အနိုင်ယူစေခဲ့သည်။ သူတို့သည် အသင်တို့၏ ပိုင်နက်သို့ ဝင်ရောက်လျက် ကျယ်ပြန့်စွာ ပြန့်ကျယ်သွားတော့သည်။ ဤသည် ကတိတစ်ရပ်ဖြစ်ပြီး ပြည့်ဝခဲ့လေပြီ။ ယင်းနောက် ငါအရှင်မြတ်သည် အသင်တို့အား အားအင်ကို ဖြည့်တင်းလျက် ဥစ္စာပစ္စည်းအားဖြင့်လည်း ကောင်း၊ မျိုးဆက်ပွားမှုအားဖြင့်လည်းကောင်း၊ အသင်တို့အား ကူညီခဲ့သည်။ အသင်တို့သည် ကောင်းမြတ်သော အပြုသဘော ဆောင်သော လုပ်ဆောင်ချက်များကို လုပ်ဆောင်ခဲ့ပါက ဤသည် အသင်တို့ကိုသာလျှင် အကျိုးဖြစ်ထွန်းမှုကို ဖြစ်စေမည်။မကောင်းသောလုပ်ရပ်များသည်လည်း အသင်တို့ကိုသာလျှင် ဆိုးယုတ်သောရလာဒ်ကိုဖြစ်စေပါသည်။ ကတိကဝတ်၏ ဒုတိယအကြိမ်သို့ ဆိုက်ရောက်လာသောအခါ အသင်တို့သည် မူလကအတိုင်း ခေါင်းမာမှုကို ပြုခဲ့ကြသည်။ ငါအရှင်သည် အသင်တို့၏ ရန်သူတို့ကို အသင်တို့အပေါ်သို့ အပေါ်စီးဖြစ်စေခဲ့သည်။ ရန်သူတို့သည် အသင်တို့၏ အခြေအနေအရပ်ရပ်ကို ဖျက်ဆီးပြီး၊ အသင်တို့၏ ဝတ်ကျောင်းတော်သို့ ပထမအကြိမ်ကဲ့သို့ ဝင်ရောက်ကာ ရရှိရာအရာမှန် သမျှကို ချေမှုန်းပစ်ခဲ့ပြီးဖြစ်သည်။ အသင်တို့၏ အရှင်သခင်သည် အသင်တို့အား သနားကြင်နာကောင်း ကြင်နာမည်ဖြစ်သည်။ ဤသည် အသင်တို့၏ လုပ်ရပ်နှင့် ဆက်နွယ်နေသည်။ ငါအရှင်မြတ်သည် ဂျဟန္နမ်ငရဲကို ဆိုးယုတ်သော ငြင်းပယ်သူတို့အတွက် အကျဉ်းထောင်ဖြစ်စေပါသည်။ (ဗနီအိစ်ရာအီလ်း၄–၈)

အထက်ပါ ဖော်ပြချက်များကို ထောက်ရှုလေ့လာကြည့်သောအခါ အလ္လာဟ်အရှင်မြတ်အထံတော်မှ ယဟူဒီလူမျိုးတို့ အပေါ် ကျရောက်လာသော

ပြစ်ဒဏ်များသည် လူသားတို့မှ တစ်ဆင့်ပေးခြင်းဖြစ်ကြောင်း သိရသည်။ ဥပမာ အားဖြင့် ဘီစီ၇၂၁ခုနှစ်တွင် ဆာမရီယာ ဖျက်စီးခံရပြီး ဣစရေလ်နိုင်ငံတော်ကြီး သည် ကျဆုံးခဲ့ရသည်။ ယဟူဒီထောင်ပေါင်းများစွာ အသတ်ခံခဲ့ရသည်။ ပါလစ္စတိုင်း ရှိ ဒေသအများအပြားမှ ယဟူဒီတို့နှင်ချခံရပြီး အခြားလူမျိုးတို့၏ သိမ်းယူခြင်းကို ခံခဲ့ရ သည်။ ဤယဟူဒီတို့ကို ပြစ်ဒဏ်ပေးခြင်းကို အလ္လာဟ်အရှင်မြတ်၏ မလာအေကာဟ် ကောင်းကင်စေတမန်တို့က လာရောက် ၍ ပြုခြင်းမရှိပါ။ ယင်းကို အာရှုရီယာဘုရင်ဆာဂုန်(SARGON II)က ပြုခြင်းဖြစ်သည်။ တစ်နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ စည်းစနစ်ဖယားအားဖြင့် ယင်းပြစ်ဒဏ်သည် ယဟူဒီတို့အပေါ် ကျရောက်လာခြင်းဖြစ်သည်။

ဘီစီ-၅၈၀တွင် ဂျေရုစလင်ရှိ ယဟူဒီတို့ အသတ်ခံရပြီး ကျွန်အဖြစ် သိမ်းသွင်းခံရသည်။ ဂျရုစလင်ရှိ ဗိုင်သွလ်မုကဒ္ဒစ်ကျောင်းတော်ကြီး မီရှို့ခံခဲ့ရသည်။ ဤပြစ်ဒဏ်ကိုလည်း မိုးကောင်းကင်အထပ်ပေါ်က အင်အားစုက လာရောက် ပြုမူကြသည်မဟုတ်။ ယင်းပြစ်ဒဏ်ကို ဘာဘီလုံဘုရင်နေဗုခဒ်(NEBUCHAD NEZZAR)က ပြုခဲ့ခြင်းကြောင့်ဖြစ်သည်။

ဘီစီ-၁၆၈တွင် ဗိုင်သုလ်မုကဒ္ဒစ်ကို တိုက်ခိုက်လျက် ယဟူဒီတို့ကို ကျွန်အဖြစ် ဖမ်းဆီးကာ ယဟူဒီတို့၏ ကျမ်းများကို မီးရှို့ဖျက်စီးခဲ့ကြမည်။ ဤအကြိမ်လည်း ယင်းဖျက်စီးမှုကို မမြင်ရသော အင်အားစုက ပြုခဲ့ခြင်းမဟုတ်ပါ။ ယင်းကို ဆီးရီးယားဘုရင် အင်တီအိုခုဂ်(Antiochus4)က ပြုခဲ့ခြင်းဖြစ်သည်။

ဘီစီ-၆၃တွင် အမည်မသိသော လူမျိုးတစ်မျိုးက ပါလစ္စတိုင်းသို့ ဝင် ရောက်လာပြီး ဗိုင်သုလ်မုကဒ္ဒစ်ကို သိမ်းယူပြီး ယဟူဒီလူမျိုးကို ကျွန်ပြုခဲ့ပြန်သည်။ ဤသည်လည်း သဘာဝအင်အားစုက ပြုသည်မဟုတ်။ အမည်မသိသော လူမျိုးဆို သူက ရောမလူမျိုး သူရဲကောင်းပွန်ပီ(Pompey)သာလျှင် ဖြစ်သည်။

ဤသို့ပင် ခရစ်တော်မွေးပြီး နှစ်ပေါင်း၇၀(ဘီစီ-၇၀)တွင် ဂျေရုစလင်မ်ရှိ ဗိုင်သုလ်မုကဒ္ဒစ် တိုက်ခိုက်ခံခဲ့ ရပြန်သည်။ (Dome of Rock)ကို ဖြိုဖျက်ခြင်းပြုကာ ယဟူဒီတို့၏ မှန်မြတ်လှသော မြို့တော်ကြီးသည် အမှိုက်သရိုက်ဘဝသို့ ရောက်ခဲ့ရ

သည်။ ယဟူဒီလူမျိုးတစ်သိန်းခွဲကျော်မျှ အသတ်ခံခဲ့ရသည်။ ကျန် ယဟူဒီတို့ကို ကျွန်အဖြစ် သိမ်းသွင်းခဲ့ရသည်။ ဤအကြိမ်သည်လည်း အလ္လာဟ်ထံမှ တိုက်ရိုက် ကျလာသော ပြစ်ဒဏ်မဟုတ်ဤဖျက်ဆီးမှုကို ရောမဘုရင်တိုက်တက်(Titus)ကို ပြုခဲ့ခြင်းဖြစ်သည်။ ဤတွင် ယဟူဒီတို့ ဖျက်ဆီးခြင်းခံရမှု စိမ်ကိန်းသည် ပြည့်မြောက်သွားသည်။ဤဖော်ပြပါ သမိုင်းဖြစ်ရပ်များနှင့် ပတ်သက်၍ ယဟူဒီတို့က ဤသည်ကွာစရေလ်၏ ရန်သူအင်အားစုက ပြုလုပ်ခဲ့သော လုပ်ကြံမှုဟု ဆိုကြစမြဲဖြစ်သည်။

ဤဖြစ်ရပ်များသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ ပြစ်ဒဏ်ဟု၍ မဆိုကြ မည်သို့မျှ မသက်ဆိုင်ဟု ဆိုကြသည်။ ဤသို့ပြောဆိုသုံးသပ်ခြင်းမှာ လူတို့၏စဉ်းစားသုံးသပ်မှုရှုဒေါင့်ကို အကြောင်းခံ၍ဖြစ်သည်။ သို့ရာတွင် ကျမ်းတော်မြတ်ကုရ်အာန်နှင့် သမ္မာကျမ်းနှစ်ခုလုံးက ဤသည် အလ္လာဟ်ထံတော်မှ ပြစ်ချက်ဟုဆိုကြခြင်းကရှိနေသည်။ ဤပြစ်ဒဏ်ကို အလ္လာဟ်အရှင်မြတ်က လူသားတို့အားဖြင့် ပြည့်မြောက်ဖြစ်စေခဲ့ခြင်းဖြစ်သည်။

ယဟူဒီတို့သည် ဖော်ပြပါ ဖြစ်ရပ်တို့ကို အလ္လာဟ်အရှင်မြတ်အထံတော် မှဖြစ်သည်ဟု လက်ခံခဲ့ပါက သူတို့သည် သူတို့၏ မှားယွင်းသော လုပ်ရပ်များကို သိမြင်အောင် ပြုလုပ်ကြလျက် အလ္လာဟ်အရှင်မြတ်ထံတော်တွင် သောင်ဗဟ် သံဝေရကြောင်း လျှောက်ထားမည်ဖြစ်သည်။ ဤသို့အားဖြင့် သူတို့တွင် သက်ဝါဟ် အလ္လာဟ်သိစိတ်များရှိလာပြီး အလ္လာဟ်အရှင်မြတ် ၏ လမ်းညွှန်ချက်နှင့်အညီ ဘဝတည်ဆောက်ကြမည်ဖြစ်သည်။ သို့ရာတွင် ဤသို့မဟုတ်ဘဲ သူတို့၏ ရန်သူတို့၏ လုပ်ရပ်အဖြစ် ခံယူလိုက်သောအခါ သူတို့တွင် ခေါင်းမာမှုနှင့် ဒေါသစိတ်များ ပွားများလာခဲ့ရတော့သည်။

ကျွန်ုပ်တို့အနေဖြင့်သတိထား သိမြင်နားလည်သင့်သောအချက်သည်ကား အလ္လာဟ်အရှင်မြတ်သည် လူအဖွဲ့အစည်းဝင်တို့၏ ဆိုးယုတ်နိမ့်ကျလာသော အခြေအနေများကို ပြုပြင်ရန်နှင့် ဆုံးမရန် ကောင်းကင်တမန်များကို စေလွှတ်အပြစ် ပေးသည်မဟုတ်ပါ။ ယင်းကို အလ္လာဟ်အရှင်မြတ်၏ စနစ်ဇယားအားဖြင့်

ဖြစ်ထွန်းလာစေခြင်းဖြစ်ပြီး ယင်း၏ တစ်ကယ်တန်းပြစ်ချက်ကို ဆုံးမမှု သည် ကန့်လန့်ကာနောက်တွင် ကျန်ရှိပြီး ယင်းကန့်လန့်ကာနောက်မှ ဖြစ်ရပ်များကို အသိတရားရှိသော ဉာဏ်ပညာနှင့် ပြည့်စုံသောသူတို့သည်သာလျှင် သိမြင်ကြခြင်းဖြစ်သည်။ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်၏ စနစ်ဇယားအားဖြင့် ပေါ်ထွန်းဖြစ်ပေါ်မှုကို မြင်၍ နိုးကြားသောအသိ ဝင်လာသည်။ ယင်းအသိအားဖြင့် သူတို့၏ ဆိုးယုတ်သော အခြေအနေများကိုကုစားရန် ကြိုးစားတော့သည်။ ဤသို့ မဟုတ်ဘဲ လူတို့အချင်းချင်း၏ဖြစ်ရပ်ဟုသိမြင်နားလည်ကြသော သူတို့ကမူ အခြားသူတို့၏ လုပ်ကြံမှုဟု စွပ်စွဲကာ အမုန်းပွားမှုနှင့် ရန်ညိုးရန်စကို ကြီးပွားအောင် လုပ်ကြခြင်းဖြစ်သည်။

မွတ်စလင်မ်တို့သည် ယနေ့ခေတ်ကာလတွင် ကြုံတွေ့နေရသောဖြစ်ရပ်များနှင့်ခံစားရမှုများကို ရန်သူတို့၏ ထိုးနှိပ်ချက် လုပ်ကြံမှုအဖြစ် နားလည်ကြသည်။ ဤသို့ ထင်မြင်တွေးခေါ်လာခြင်းကြောင့် သူတို့၏လက်တွေ့ဘဝသည် ဟန်ချက်မညီသော အခြေအနေသို့ရောက်ရှိနေခြင်းဖြစ်သည်။ အခြေအနေအရပ်ရပ်ကို ကိုင်တွယ်ဖြေရှင်းနိုင်သောနည်းလမ်းမှန်နှင့် ကောင်းမြတ်သော ချဉ်းကပ်မှုများ တို့အားဖြင့် အဖြေရလဒ်ကောင်းများကို ရှာဖွေတွေ့ရှိနိုင်သော စွမ်းအား အခြေခံများကို ရှာဖွေရန် အရေးကြီးလှသည်။

ပြဿနာရပ်များကို ညှဉ်းပမ်းနှိပ်စက်မှုနှင့် လုပ်ကြံမှုအသွင်ဖြင့် ရှုမြင်ခြင်းကြောင့် သူတို့အဖို့ သူတို့၏ အမှားကို ရှာဖွေတွေ့ရှိခြင်းမရှိပါ။ အခြားသူတို့ကိုသာလျှင် ဖြစ်ရပ်များအတွက် တရားခံအဖြစ် စွပ်စွဲကြသည်သာရှိသည်။ ယင်းကြောင့် သူတို့၏ စဉ်းစားတွေးခေါ်မှုသည် အစ္စလာမ်၏ဒဿနရှုဒေါင့်မဟုတ်တော့ပဲ မျက်မှောက်ခေတ်၏ နိုင်ငံရေးပုံစံနှင့် ရောနှောသွားရတော့သည်။စင်စစ်အားဖြင့်ဆိုရသော် ကျွန်ုပ်တို့၏ တွေးခေါ်မှု၏ အဆုံးမှတ်သည် အာခိရတ်သာလျှင် ဖြစ်ရပါမည်။ သို့ဖြစ်၍လည်း အမြင်လွဲခဲ့ရခြင်းကြောင့် ကျွန်ုပ်တို့သည်လက်တွေ့စွမ်းဆောင်ခြင်းမဲ့သော လူအဖွဲ့အစည်းအဖြစ်သို့ ရောက်ရှိနေရခြင်းဖြစ်သည်။ လက်တွေ့စွမ်း ဆောင်မှုဟူသည် မိမိ၏ ကိုယ်ကိုတာ ဝန်ပေးခြင်းဖြင့် ပေါက်ဖွားလာစေခြင်းပင်ဖြစ်သည်။ လက်တွေ့စွမ်းဆောင် ခြင်း ဖြစ်သည်။ လက်တွေ့စွမ်းဆောင်ခြင်းမဲ့သော သူတို့သည်

အခြားသူတို့ထံ တောင်း ခံခြင်းကိုသာ ပြုလုပ်လေ့ရှိသည်။ မိမိကိုယ်တိုင် ထမ်းဆောင်ရမည့်တာဝန်ကို မသိကြပါ။

ဤသို့သော သူတို့၏ လူ့အဖွဲ့အစည်းသည် စနစ်တကျစုစည်းထားသော အင်အားစုမဟုတ်ပဲ လူမျိုးရေးပုံစံဖြင့် တောင်းဆိုမှု များကို ပြုသော သူများဖြစ်လာကြသည်။ အဘယ်ကြောင့်ဆိုသော် ယင်းသူတို့သည် ဝန်းကျင်ရှိ လူများစုကို သူတို့အား နှိပ်စက်နေသော ရန်သူများအဖြစ် မြင်လာကြ၍ဖြစ်သည်။ သူတို့၏ စုရပ်အမှတ်က လူမျိုးစုသာသာအဆင့်ထက် မကျော်လွှား နိုင်တော့ပါ။ ဤအခြေအနေနှင့် စဉ်းစားတတ်မှုကို အကြောင်းပြု၍ မွတ်စလင်မ် တို့တွင် အချင်းချင်း လူမျိုးစုပုံစံဖြင့် တစ်ဦးကိုတစ်ဦး မယုံမသင်္ကာဖြစ်နေပုံက အခြား လူ့အဖွဲ့အစည်း ထက် များပြားနေသယောင်ရှိနေသည်။ ဤသို့ဖြစ် နေရခြင်းမှာ အခြားသူတို့ကို မကောင်းမြင်ရှုဒေါင့်ဖြင့် ရှုမြင်ခြင်းကြောင့်ပင်ဖြစ်သည်။ အခြားသူတို့ထံတစ်ခု တစ်ခုသော အပြစ်ကို ရှာဖွေမတွေ့သောအခါ အချင်းချင်း မယုံမသင်္ကာသော အမြင်ဖြင့် ရှုမြင်ကြခြင်းဖြစ် သည်။

ဤမှားယွင်းသောတွေးခေါ်တတ်မှုကြောင့် မွတ်စလင်မ်လူ့အဖွဲ့ အစည်း ဝင်တို့သည် အကြီးမားဆုံးသော ဆုံးရှုံးမှု အနေဖြင့် ဒါအ်ဝါဟ် ဖိတ်ခေါ်မှုအစီအစဉ်များ ပေါ်ထွက်ကွန့်မြူးလာခြင်းမရှိ ဖြစ်နေသည်။ ဤဒါအ်ဝါဟ်သည် မွတ်စလင်မ် လူ့အဖွဲ့အစည်းဝင်တို့၏ အကြီးမားဆုံးသော တာဝန်ဖြစ်သည်။ အခြားသူတို့ကို အလ္လာဟ်အရှင်မြတ်၏ ဒီန် ဖတ်သို့ ဖိတ်ခေါ်သူ ဒါအီတို့အဖို့ရာတွင် ပထမအနေဖြင့် အခြားသူတို့ ချစ်တတ်ကရုဏာရှိမှသာလျှင် ဖြစ်မည်။

သို့ရာတွင် အခြားသူတို့ကို ညှဉ်းပမ်းနှိပ်စက်သူနှင့်လုပ်ကြံမှုတွင် ပါဝင်သောသူအဖြစ် မှတ်ယူပြီးနောက် မွတ်စလင်မ်တို့တွင် အခြားသူတို့ကို ဆန့်ကျင်ဖက်ရန်သူဟူသောအမြင်သည် ဖြစ်ပေါ်လာရခြင်းဖြစ်သည်။ ဤသို့ သတ်မှတ်ထားမှု၏ နောက်ဒါအ်ဝဟ် ဖိတ်ခေါ်မှုကဲ့သို့ ချစ်တတ်ခြင်းနှင့် ကရုဏာထားရှိခြင်းအား ဖြင့်ပြုရသော အလုပ်ကို အမုန်းစိတ်ဖြင့် မည်သို့ပြုလုပ်၍ရနိုင်ပါမည်နည်း။

အခန်း ( ၃ )

# တွေးခေါ်တတ်မှုကို နိုးကြားအောင်ပြုရေး

ကျမ်းတော်မြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်မှာ

အကယ်၍သာ နဗီတမန်တော်များ ပွင့်ခဲ့ကြ လေသောမြို့ရွာဒေသများ၌ မှီတင်းနေထိုင်ကြကုန်သောသူတို့သည် ''အီမာန်''ယုံကြည်ခြင်းတရား ထားရှိကြ၍ သက္ကဝါထားရှိပြီးပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ခဲ့ကြပါမူ ငါအလ္လာဟ်အရှင်မြတ် သည် ထိုသူတို့အဖို့ မိုးကောင်းကင်မှလည်းကောင်း၊ ပထဝီမြေမှလည်းကောင်း၊ အရင်းအမြစ် မင်္ဂလာအဖြာဖြာတို့ကို မုချ ဖွင့်ပေးတော်မူမည်ဖြစ်သည်၊သို့ရာတွင် ယင်းသူတို့သည်နဗီတမန်တော် အသီး သီးတို့အား မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ် ခဲ့ကြကုန် ၏။ ( ၇ း၉၆)

ဤဖော်ပြပါအကြောင်းကို ယဟူဒီတို့အကြောင်းဖော်ပြရင်းက

ထိုမှတပါးအကယ်၍သာ ယင်းသူတို့သည် ''တောင်ရာတ်''''ဣန်ဂျီလ်'' ကျမ်းများနှင့်တကွအလ္လာဟ်အရှင်မြတ်ထံမှနဗီတမန်တော် မုဟမ္မဒ်မှ တဆင့် ကျ ရောက်လာ သော ကုရ်အာန်ကျမ်းတော်မြတ်ကိုပါ အတည်ပြု လိုက်နာကြပါသော် မုချဧကန်ထိုသူတို့သည် မိမိတို့ အထက်မှလည်းကောင်း၊မိမိတို့၏ခြေဖျားအောက်မှ လည်းကောင်းခဲဘွယ်ဘောဇဉ်များကို ဖေါဖေါသီသီ စားသုံးကြ လတ္တံ့။ ထိုသူတို့တွင် ဖြောင့်မတ်မှန်ကန်သော လမ်းကို လိုက်သော လူတစ်စုသည်လည်း ရှိကြပေသည်။ သို့ရာတွင် ထိုသူတို့အနက် အများစု၏ပြုမူချက်တို့ကား ဆိုးရွား ချေသတည်း။( ၅ း ၆၆ )

ရစူလ်တမန်တော်တစ်ပါးကို လက်ခံခြင်းအားဖြင့် ကြီးမားလှသော အကျိုးဗရကာသ်များရရှိမည်ဖြစ်ကြောင်း ကောင်းချီးမင်္ဂလာသတင်းကို ဘာကြောင့် ပေးခဲ့ရပါသနည်း။ လူများစုက နားလည်သဘောပေါက်ကြသည်မှာ ကလ်မာဟ် အားဖြင့် ဖွင့်ဟခြင်းအားဖြင့် ကြီးမားလှသော ရတနာသိုက်ကြီးသည် ပွင့်ထွက် လာသည်။

သူတို့အမြင်တွင် ပုံပြင်ဒဏ္ဍာရီတွင် မြင်တွေ့ရသကဲ့သို့ မြင်ကွင်းများမျက်စိ

ပေါ်ထွန်းလာခြင်းဖြစ်သည်။ ဤသို့ နှုတ်အားဖြင့် ဖွင့်ဟခြင်းဖြင့် ဖော်ပြပါကဲ့သို့ ဖြစ်နိုင်ပါလျှင် ယနေ့ လူဦးရေအားဖြင့် သန်းပေါင်း၂၀၀၀ ဝန်းကျင်တွင်ရှိသော မွတ်စလင်မ်တို့သည် အထွန်းပေါက်ဆုံးဖြစ်မည်မှာ အမှန်ပင် သို့ရာတွင် မျက်မှောက် မွတ်စလင်မ်တို့အတွက် မိုးကောင်းကင်၏ တံခါးသည် ပွင့်မလာ၊ ပထဝီမြေကြီး၏ ဗရိကာသ်အဖြာဖြာလည်း ဖြစ်ထွန်းမလာပေ။

စင်စစ်အားဖြင့် သိမြင်သင့်သည့်အချက်သည်ကား **ကလေမဟ်သျှဟာဒဟ် ၏ ဆောင်ပုဒ်သည် လူတို့၏ တွေးခေါ်မှု ဆိုင်ရာကို ပြောင်းလဲဖြစ်ထွန်းစေသော တော်လှန်သောစကားရပ်ဖြစ်သည်**။တမန်တော်မြတ်ခေတ်ကာလက တမန်တော်မြတ် ၏ ယူဆောင်လာခဲ့သော အစ္စလာမ်သဝဏ်ကို လက်ခံလာသူတို့ သည် တွေးခေါ်မှု ဆိုင်ရာကို တော်လှန်ခဲ့ကြသူများဖြစ်ကြသည်။ ဤအကြောင်း တရားကို လွယ်ကူစွာ သိရှိနားလည်စေဖို့ရန်မှာ ဤဖော်ပြပါ ကျမ်းတော်မြတ် ကုရ်အာန်၏ လမ်းညွှန်ချက် ကျရောက်လာချိန်တွင် ရှိနေကြသော ယဟူဒီများနှင့် အာရပ်လူမျိုးစုဝင်တို့ အီမာန် သက်ဝင်လာခြင်း၏ အဓိပ္ပာယ်က မည်သို့ဆောင်သည် ကို သိရန်လိုအပ်သည်။

ယနေ့ ကျွန်ုပ်တို့အနေဖြင့် တမန်တော်မြတ်မုဟမ္မဒ် ﷺ ၏ နာမတော်ကို ဖွင့်ဟပြောဆိုစဉ် ကျွန်ုပ်တော်တို့၏စိတ်ကူးတွင်နှစ်ပေါင်း(၁၄၀၀)ခန့်က ပေါ်ထွန်းခဲ့သော တမန်တော်မြတ် ပုဂ္ဂိုလ်ထူးကို ခံစားတွေ့မြင်ရသည်။ သို့ရာတွင် တမန်တော်မြတ် ပေါ်ထွန်းစဉ်ကာလက တမန်တော်မြတ်ကို လူတို့က အဗ်ဒုလ္လာဟ်၏သား မုဟမ္မဒ် ﷺ အဖြစ်နှင့်သာ သိရှိကြသည်။ ယနေ့ ကျွန်ုပ်တော်တို့ ရှုမြင်နေရသော အတိတ်သမိုင်း ကြောင်းသည် ထိုစဉ်က အနာဂတ်ကားချပ်တွင် ပုန်းအောင်းနေပြီး ထွက်မလာ သေးပါ။ ထိုစဉ်က တမန်တော်မြတ်ကို လူတို့သည် သာမန်လူသားတစ်ဦးထက် ပို၍ မမြင်နိုင်ပါ။

သို့ရာတွင် ယဟူဒီတို့နှင့် အာရပ်မုရှ်ရိက်တို့အတွက်မှု ဤဖြစ်ရပ်က တစ်မျိုးဖြစ်နေသည်။ ယဟူဒီတို့အဖို့ရာတွင်သမိုင်းတွင်ရစ်သော ယုံကြည်ချက် တစ်ရပ်ကို ယုံကြည်ကြ၍ ဖြစ်သည်။ ဤသူတို့ယုံကြည်နေသော ယုံကြည်ချက်တွင်

မူဆာနစီ၊ ဒါဝူးဒ်နစီနှင့် စိုလိုင်မာန်နစီတို့ကဲ့သို့ ကျော်ကြားလှသော နစီများ ပါဝင်ကြသည်။ သို့ဖြစ်၍ ယင်းသမိုင်းကြောင်းက သက်သေခံသော ယုံကြည်ချက်ကို ယုံကြည်နေရ၍ ဂုဏ်ယူဝင့်ကြွားစွာရှိနေသည်။

ဤကဲ့သို့ပင် အာရေဗျရှိ မုရှ်ရိက်တို့လည်း ဖြစ်ပြန်သည်။ သူတို့သည် သူတို့၏ ယုံကြည်ချက်ဆိုင်ရာကို အီဗ်ရာဟီမ်နစီနှင့် အိစ်မာအီလ်တို့၏ အစဉ်အဆက်နှင့် ဆက်နွှယ်နေသည်ဟု ဆိုကြသည်။ သူတို့သည် ကာဗာကျောင်းတော်ကြီးကို အမွေ ဆက်လက်လက်ခံရရှိသူနှင့် အီဗရာဟိမ်နစီနှင့် အိစ်မာအိလ်နစီ တို့၏အစဉ်အဆက်နှင့်ဆက်နွှယ်နေသည်ဟုဆိုကြသည်။ သူတို့သည် ကာဗဟ် ကျောင်း တော်ကြီးကို အမွေဆက် လက်ခံရရှိသူနှင့် အိဗ်ရာဟိမ်နစီ၏ နောက် လိုက်ဟု ဆိုကြခြင်းဖြစ်သည်။ ဤသူတို့၏ ဖော်ဆိုထုတ်ဆိုချက်က ရှည်လျားလှသော သမိုင်းကြောင်းဖြင့် သက်သေထုတ်ပြနိုင်စွမ်းရှိနေသည်။

ဤသို့သောအခြေအနေတွင်အစ္စလာမ်၏ ရှေ့ဆောင်ပုဂ္ဂိုလ် တမန် တော်မြတ် မုဟမ္မဒ် ﷺသည် သူ၏ သမိုင်း၏ စဦးနေရာတွင်ပင် ရှိပါသေးသည်။ ဤကဲ့သို့ပင် ယဟူဒီတို့နှင့် မဂ္ဂာဟ်သားမုရှ်ရိက်တို့သည် သူတို့ သမိုင်း၏ အဆုံးသတ်ချိန်သို့ ရောက်ရှိနေပြီးဖြစ် သည်။ ဤသို့သော် အခြေအနေတွင် နှစ်ပေါင်း(၁၄၀၀)အလျှင် ကာလက ယင်းသူတို့အဖို့ အစ္စလာမ်၏ တမန်တော်မြတ်ကို ယုံကြည်ခြင်းနှင့် တမန်တော်မြတ်မုဟမ္မဒ် ﷺနှင့်အတူ လျှောက်လှမ်းခြင်းသည် လွယ်ကူသော ကိစ္စမဟုတ်ပါ။ သူတို့သည် တည်မြဲတည်ရှိနေသော အခိုင်အမာ ယုံကြည်ချက်ကို စွန့်၍ တည်ဆောက်၍ မပြီးသေးသော ယုံကြည်ချက်တစ်ရပ်ကို တည်ဆောက်ရမည့်အခြေအနေတွင် ရှိနေသည်။ လက်ငင်းအကျိုးဖြစ်ထွန်းလျက် ရှိနေသော မှန်ကန်မှုဟု သတ်မှတ်ခံရသော ယုံကြည်ချက်ကို စွန့်၍ သေခြာရေရာခြင်း မသတ်မှတ်ရသေးသော ယုံကြည်ချက်ကို ခံယူရမည့်ပုံဖြစ်နေသည်။ မြင့်မားသော အဆင့်မှဆင်း၍ မြင့်မားသောအဆင့်ကို မရောက်သေးသောအရာကို တွေးခေါ်ရမည့် ပုံ ဖြစ်နေသည်။ ကန့်လန့်ကာနောက်ကွယ်တွင် ပုံးလျှိုးနေသောအနာဂတ်ကို ရှုမြင် ရန်ဖြစ်ပြီး လက်အားဖြင့် စမ်းသပ်ကိုင်ကြည့်၍ရသော ရုပ်ဘုရားများကို ပစ်ပယ်၍

မမြင်ရသော အရှင်ကို ရယူရန်ဖြစ်နေသည်။

ဤလူသားတို့ ကြုံတွေ့ရသော ဘဝ၏ ယုံကြည်ချက်ဆိုင်ရာဖြစ်ရပ် ဥပမာသည် အခန်းတစ်ခုမှ ထွက်ပြီး နောက်အခန်းတစ်ခုကို ဝင်ရောက်ခြင်းမတူပါ။ ယင်း၏ ဥပမာပေးချက်သည် မြေလျောင်လူပ်ခြင်းပမာဖြစ်နေသည်။ ဤဖြစ်ရပ်သည် လူတို့တွင် အသိစိတ်ဆိုင်ရာတော်လှန်ရေးကြီး ဖြစ်နေသည်။ အသိစိတ်အားဖြင့် စဉ်းစားတွေးခေါ်မှု ပြုပြီးသကာလ အရာတစ်ခုကို စွန့်ပြီး၊ ဆင်ခြင်တတ်သော အသိအားဖြင့် အရာတစ်ခုကို ရယူခြင်းပင်ဖြစ်သည်။ ဤနေရာတွင် လူတွင်နိုင်မာသော ဆုံးဖြတ်ချက် စွမ်းအားရှိနေသည်။ သူ၏စိတ်တွင် ခံစားရမှုသည် တုန်လှုပ်ဖွယ်ရာ ဖြစ်နေသည်။ သူသည် စွန့်လွှတ်စွန့်စားမှု တံတားတစ်ခုကို ကျော်ဖြတ်ပြီး တစ်ဖက်သို့ ကူးယူရသည်။ ဤသို့ ပြုမူဆောင်ရွက်ခြေင်းကြောင့် သူ၏ ဘဝတစ်ခုလုံးသည် တုန်ခါ လှုပ်ခါသွားရပုံက ကြီးမားလှသော မုန်တိုင်းကြီးက သစ်ပင်ကြီးကို အမြစ်ကစ နုတ်ပစ် လိုက်သည်အလား ဖြစ်သည်။

ဤဖော်ပြပါ ပုံစံအားဖြင့် လူတစ်စုသည် တော်လှန်သော အမြင်ဖြင့် သဘောတရားတစ်ခုကို ဆွဲကိုင်ခြင်း ပြုလာလျှင် ယင်းအုပ်စုဝင်တို့သည် သဘာဝမဟုခေါ်ဆိုသော သဘာဝလောကကြီး၏ စနစ်ဖယားအသွင် ဖြစ်လာတော့ သည်။

ဤသို့အားဖြင့် ဤလောကမြေပြင်တွင် ဆန်းသစ်သော လူသားမျိုးနွယ်တစ်စု ရှင်သန်ပေါ်ထွန်းလာခြင်း ဖြစ်တော့ သည်။ ယင်းပေါ်ထွန်းလာသော လူ့အဖွဲ့အစည်းဝင်တို့သည် သူတို့၏ဝန်းကျင်ကို အံ့သြဖွယ်ရာ အခြေအထိ ဆန်းသစ်သော ရလဒ်ကို ဖြစ်ထွန်းစေမှုကား မိုးကောင်းကင်ကပင်လျှင် တစ်ခါကမျှ မကြုံဘူး မမြင်ဘူးခဲ့ရသော မြင်ကွင်းကမ္ဘာကို ဖန်တီးရယူနိုင်ခြင်းပင် ဖြစ်တော့သည်။

တမန်တော်မြတ်(ﷺ)သည် အာရေဗျတိုက်နယ်ဒေသတွင် အစ္စလာမ် ဒေသနာတော်ကို လွှင့်ထုကြေညာနေချိန်တွင် အခြားသော ဘာသာတရားများသည် ရှေးယခင်ကတည်းက လူတို့အတွက် အဆန်းမဟုတ်သော သမားရိုးကျ ကျင့်စဉ်အဖြစ် ရပ်တည်လျက်ရှိနေသည်။ သူတို့၏ အခြေခံအုတ်မြစ်သည် ခိုင်ခံ့သော သိုင်ယမာတွင် ကြီးမားလှသော တန်ဖိုးအံ့ဖွယ်များတည်ရှိသည်။ ယင်းကိုနုတ်

အခြေပေါ်တွင် ရှဲမြဲစွာ ရပ်တည်လျက် ရှိနေ သည်။ အစ္စလာမ်သည် ထိုစဉ်ကလူတို့အတွက် အစမ်းဖြစ်နေသည်၊ အခြားဘာသာတရားတို့ကမူ ခိုင်မြဲသော အခြေရှိသော အဖွဲ့အစည်းInstitution အဖြစ် ရပ်တည်နေပြီဖြစ်သည်။

ဤသို့သောအခြေတွင် အစ္စလာမ်ကို ယုံကြည်ချက်တစ်ရပ်အဖြစ် ပေါ်ထွန်းလာသည့်ဖြစ်ရပ်ကို လက်ခံခြင်းသည် မိမိကိုယ်ကိုတန်ဘိုးမဲ့သော အဆင့်သို့လျှော့ချခြင်းနှင့် တူနေသည်။ အခြား ယုံကြည်ချက်များကို လက်ခံခြင်းဖြင့် သူတို့အတွက် တန်ဘိုးနှင့် အကျိုးခံစားရမှုသည် မြဲမြဲနေပါသေးသည်။ ယင်းသည်လူ့အဖွဲ့ အစည်းတွင် ဂုဏ်သရေ ရှိခြင်းကို လျော့မသွားစေပါ။ သို့ရာတွင်ထိုစဉ်ကအစ္စလာမ်ကို လက်ခံလာခြင်းသည် လူ့အဖွဲ့ အစည်း အတွင်း လုံးဝ အသိအမှတ်မပြုရသေးသော အစုအဝေးမှ တစ်ဦးအဖြစ်ရောက်ရတော့သည်။ ယင်းသူသည် ခိုင်မြဲသော ဂုဏ်ယူဝင့်ကြွားရသော ယဉ်ကျေးမှု အစုအဝေးမှ ထွက်ရပြီး အခြေခံမရှိသော အစုတစ်ခု၏ မည်သည့် ဂုဏ်သရေမရှိ၊ ယဉ်ကျေးမှုမဲ့နေသောသူ အဖြစ်သို့ ရောက်ရှိခြင်းဖြစ်သည်။

ဤသို့သော် အခြေအနေအရပ်ရပ်တွင် အစ္စလာမ်ကို လက်ခံပြီး ကလိမဟ် သျှိုင်ဟိဗဟ်ကို နှုတ်မှ မြွက်ဆိုခြင်းသည် တော်လှန်ရေးတစ်ရပ်ကို ဆင်နွှဲသည်နှင့် တူလှသည်။ အစ္စလာမ်၏ အသံသည် လက်ခံသူ၏ စိတ်ကူးယဉ် ကမ္ဘာကြီးကို တုန်ခါလှုပ်ပစ်ခဲ့သည်။ သူ၏ခံစားရသော အာရုံအားလုံးသည် နိုးကြားလာခဲ့သည်။ သူ့တွင် ကိုယ့်ကိုယ်ကို ပြန်လည်ဆန်းစစ်ဖို့ရန် အမြင်သည် ပေါ်ထွန်းလာခဲ့သည်။ သို့ဖြစ်၍လည်း ယင်းသူတို့သည် ရည်ရွယ်ချက်ကြီးမားမှု ကို စွဲကိုင်လျက် အရာတစ်ခုကို စွန့်နိုင်ခဲ့ခြင်းဖြစ်သည်။ ဤသို့ပင် ကြီးမားလှသော ရည်ရွယ်ချက် အသိကြောင့်ပင်လျှင် နောက်ထပ် အရာတစ်ခုကို လက်ခံလာခြင်း ဖြစ်ပေသည်။

ဤသို့အားဖြင့် ယင်းသူတို့သည် မူလကရှိခဲ့သောမှန်းတီးမှုစိတ်ဓာတ်ကို ခွဲခြမ်းစိတ်ဖြာနိုင်ခဲ့ကြသည်။ အခွင့်ထူး ခံရမှုနှင့် လတ်တလော အကျိုးအမြတ်ကို ဥပေက္ခာပြုနိုင်ခဲ့သည်။ သူတို့သည် မိသားစု၊ လူမျိုးစုနှင့်လူ့အဖွဲ့အစည်း ဝန်းကျင်နှင့် အဆက်ဖြတ်ခံရမည့် အန္တရာယ်ကို ရင်ဆိုင်နိုင်စွမ်းရှိသည်။ သူတို့သည် ကျဉ်း

မြောင်းလှသောသပ်က်လိဒ်လမ်းကြောင်းဖြစ်သော မျက်စိပိတ်လျှောက် လုပ်နေမှုကိုသူတို့ကိုယ်ကိုသူတို့ ယင်းနေရာမှဖယ်ထုတ်နိုင်ခဲ့သည်။ ထိုမှတစ်ဖန် သိမြင်တတ်သောခံစားရမှုဖြင့် ရှင်သန်သော ယုံကြည်ချက်နယ်မြေသို့ ခြေချနိုင်ခဲ့ သည်။

အစ္စလာမ် စဦးခေတ်က မွတ်စလင်မ်တို့အဖို့ အီမာန်ယုံကြည်ချက်ဟူသည် တွေးခေါ်မှုဆိုင်ရာ၏ တော်လှန်ရေးကြီးတစ်ရပ်တွင် ပါဝင်ခြင်းပင်ဖြစ်သည်။ ယင်းအီမာန်ယုံကြည်ချက် ဝန်းကျင်ကမ္ဘာမှ ပေါ်ထွန်းထွက်ပေါ်လာသော လူတို့သည် တော်လှန်ရေး သမားများဖြစ်ကြသည်။ ယနေ့ခေတ်ကာလတွင်မူ မွတ်စလင်မ်တို့အတွက် အီမာန်ဟူသည် အသက်မဲ့သော ယုံကြည်ချက် ဖြစ်နေသည်။ သို့ဖြစ်၍လည်း ယင်းအသက်မဲ့ ယုံကြည်ချက်မှ ပေါက်ဖွားလာသော သူတို့သည် အသက်မဲ့သောသူများ အသွင်ရှိနေကြခြင်းဖြစ်သည်။ သို့ဖြစ်၍လည်း ယင်းသူတို့တွင် တွေးခေါ်မှုဆိုင်ရာတွင် အသက်မပါသကဲ့သို့ လက်တွေ့ လုပ်ဆောင်ချက်တွင်လည်း အသက်မဲ့နေရခြင်းဖြစ်သည်။

မြတ်တမန်၏ ဟဒီးဆ်သြဝါဒတစ်ရပ်ရှိသည်။ တမန်တော်မြတ်က မိန့်တော်မူသည်မှာ''အစ္စလာမ်သည်မထင်ရှားသော အခြေမှ စတင်ပြီး ယင်းနောက်ပိုင်းတွင် အစ္စလာမ်သည် လူမသိသော မှုလကဲ့သို့ဖြစ်သွားလိမ့်မည်။'' ဤဟဒီးဆ်ကို သေချာစွာစဉ်းစားသုံးသပ်သည့်အခါ အစ္စလာမ်စဦးခေတ်ကလူတို့ အစ္စလာမ်ကို ချဉ်းကပ်တွေ့ရှိရသည့်အလားနောက်ပိုင်းခေတ် တွင်လည်း အစ္စလာမ်၏ စစ်မှန်သော သိမြင်မှုသည် ရှားပါးသွားလိမ့်မည်။ ယင်းအသိကိုမူလကကဲ့သို့ပင် ရှာဖွေသောသူတို့သာ တွေ့ရမည်ဖြစ်သည်။ ယနေ့ခေတ်ကာလကို သုံးသပ်ကြည့်ပါ။ ဤဖော်ပြပါ ဟဒီးဆ်ကဲ့သို့ဖြစ်နေသည်။

ယနေ့ခေတ်ကာလတွင်ယုံကြည်ချက်တစ်ရပ်သည် ကျမ်းတော်မြတ်ကုရ်အာန် အရ ထိန်းသိမ်းထားသော ဒီန် ဖြစ်ပြီး နောက်ထပ်ဒီန်ယုံကြည်ချက်သည် ယခုမွတ်စလင်မ်တို့ စပ်ကြားတွင်ရှိနေသော အနေအထားဖြစ်နေသည်။ ပထမတွေ့ရသော ဒီန်ကို ကျမ်းလာဒီန်ဟု ခေါ်ရမည်ဖြစ်ပြီး နောက်ထပ်တစ်ခုကိုမူ လူ့အဖွဲ့အစည်းက ပုံဖော်ထားသော ဒီန်ဟု ဆိုလျှင် မှန်ကန်လိမ့်မည်။

ပထမတွေ့ ရသော ဒီနှံဖြစ်သော ကျမ်းလာဒီနှံတွင် အလ္လာဟ် အရှင်မြတ်၏ လမ်းညွှန်ချက်တရားနှင့် တမန်တော်မြတ်၏ဩဝါဒတော်အားဖြင့် ထိန်းသိမ်းထားသော အနှစ်များရှိနေသည်။ ယင်းဒီနှံသည် ယနေ့ခေတ် ကာလတွင် တမန်တော်မြတ်ကို ကိုယ်စားပြုသောသဝဏ်ဖြစ်သည်။ သို့ရာတွင်ယင်းဒီနှံသည်မွတ်စလင်မ် လူ့အဖွဲ့အစည်း ဝင်တို့စပ်ကြားတွင်ရှိနေသော အခြေအနေက နှစ်ပေါင်း ၁၄၀၀အလျင်က တမန်တော်မြတ်ခေတ်၏ အစဦး အချိန်ကဲ့သို့ပင် လူသိနည်းနေသည်။

လူ့အဖွဲ့အစည်းက ပုံဖော်ထားသောဒီနှံသည် ယနေ့အချိန်အခါတွင် ခိုင်မာသောအဖွဲ့အစည်း ဖြစ်နေပြီဖြစ်သည်။ တမန်တော်မြတ်၏ခေတ်ဦးကာလက ယဟူဒီတို့၏ ပုံစံအတိုင်းဆိုရပါမည်။ ယနေ့ခေတ်ကာလတွင် မွတ်စလင်မ်တို့၏ လှုပ်ရှားမှုများသည် ဤဒုတိယပုံဖော်ထားသော ဒီနှံအသွင်ဖြင့် လှုပ်ရှားနေခြင်းဖြစ်သည်။ မွတ်စလင်မ်တို့သည် အရောင် အမျိုးမျိုး၊ အသွင်အမျိုးမျိုး၊ စိတ်ဓာတ်အမျိုးမျိုးဖြင့် တစ်ကျောင်းတစ်ဂါထာဖြစ်နေသည်။ ဤလှုပ်ရှားမှု၏ အခြေအနေသည် မည်သည့်ပုံစံနှင့်မျှ ထင်ပေါ်လာခြင်းမရှိသည်ကိုမှ တွေ့မြင်နိုင်သည်။

ယနေ့ခေတ်ကာလတွင်မွတ်စလင်တို့အတွင်း အတိတ်ကာလက ယဟူဒီတို့တွင်တွေ့ရှိခဲ့ရသော အစဉ်အလာများ ပေါ်ထွန်းလာသည်ကို တွေ့ရသည်။ ယနေ့အစ္စလာမ်ဟူသည် ကျန္နာ အလှူငွေကောက်ခံမှုနှင့် အဖွဲ့အစည်းအတွင်း နေရာရမှုအတွက် လွယ်ကူသော နေရာဖြစ်သည်။ အစ္စလာမ်ကို အကြောင်းပြု၍ လူများကို အစုအဝေးပြု၍ ခေါင်းဆောင် ကြီးများကို ပုံဖော်၍ ရသည်။ အစ္စလာမ်ကို ဗန်းပြပြီး အဖွဲ့အစည်းများ တည်ဆောက်၍ရသည်။ အစ္စလာမ်ကို အကြောင်းခံပြီး ဘွဲ့ထူးဂုဏ်ထူးများကို ဖန်တီးယူ၍ ရသည်။ ဤသို့အားဖြင့် အစ္စလာမ်သည် ကုန်တိုက်ကြီး အသွင်ဖြစ်နေသည်။ ယင်းကုန်တိုက်ကြီးတွင်ဒုက္ခမခံ၊အပင်ပမ်းမခံရဘဲ လောကကြီးတွင်ရှိသော အရာများကို လွယ်ကူစွာယူ၍ရနိုင်သည့် အလားဖြစ်နေသည်။

တစ်ဖက်တွင် ဤသို့သောအခြေအနေများ ရှိပြီး နောက်တစ်ဖက်တွင်

ကျမ်းလာဒီန်ဟုခေါ်သည့် အုပ်စုတွင်ရှိသူများသည်ကား ဘုံပျောက်နေသယောင် ရှိနေသည်။ အကယ်၍ တစ်စုံတစ်ဦးသည် ကျမ်းလာဒီန်ကို ခံယူခဲ့သည်ရှိသော် ယင်းသူသည် သူ၏ပတ်ဝန်းကျင် လူ့အဖွဲ့အစည်းတွင် အထီးကျန်ဘဝသို့ ရောက်နေပြီဟု ခံယူကြမည်ဖြစ်သည်။ ယင်းသူတို့ ပေးဆပ်ရမည့် အနေအထားက တမန်တော်မြတ်၏ အစ ကနဦးခေတ်က မွတ်စလင်မ်တို့ကဲ့သို့ပင်။ ယင်းသူတို့ကို အခမ်းအနား ကြီးများသို့ ဖိတ်ကြားခံရမည် မဟုတ်တော့။ ထိုမှတစ်ဆင့် အဆင့်အတန်းမရှိဟု ချောင်ပိတ်ခံရမည်ဖြစ်သည်။ ကုလားထိုင် ကြီးများအနားသို့ ကပ်ခွင့်ရကြတော့မည်မဟုတ်။ ကျမ်းတော်မြတ်ကုရ်အာန်ကို အလွန်လိုက်နာ လိုက်စားမှုန်းသိရသော်လည်း ကုရ်အာန်နှင့် စပ်လျဉ်း၍ ပြုလုပ်သော ဟောပြောပွဲသို့ စင်ပေါ်တင်ခံရမည်မဟုတ်ပါ။ တမန်တော်မြတ်၏ ဟဒီးဆ် ဘာသာရပ်ကို ကျွမ်းကျင်သော ပုဂ္ဂိုလ်ဖြစ်နေပါလျက်နှင့် ရွေးချယ်မည့် ပုဂ္ဂိုလ်စာရင်းတွင် ပါဝင်ခွင့်မရနိုင်ပါ။ အစ္စလာမ့် ရေးရာနှင့် ပတ်သက်၍ နှံ့စပ်စွာသိမြင်သော ပညာရှင်ဖြစ်နေပါလျက် ဒီန်နှင့် ပတ်သက်သော ပြဿနာရပ်အဖြေရှာရာတွင် သူ့ထံချဉ်းကပ်မည်မဟုတ်ပါ။ မိမိဘဝတာကို အလ္လာဟ်နှင့်ရစူလ်အတွက် စွန့်လွှတ်စွန့်စား ပြုလုပ်ထားပါလျက်နှင့် မည်သည့် ဘွဲ့ထူးဂုဏ်ထူးမျှ ချီးမြှင့်ခံရမည်မဟုတ်ပါ။

ဤသို့ အဖက်ဖက်မှ ပိတ်ဆို့ခံခြင်း၏ အကြောင်းရင်းက ယင်းသူသည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်တော်ကုရ်အာန်နှင့် တမန်တော်မြတ်၏ ဟဒီးစ်သြဝါဒကို အခြေခံသောကြောင့်ပင်ဖြစ်သည်။ ယနေ့အဖွဲ့အစည်းပုံစံဖြင့် လှုပ်ရှား နေသောဘာသာတရားအုပ်စုဝင်(Institutionlized Religion)တို့အတွင်း ကုရ်အာန်နှင့် ဟဒီးစ်အခြေခံသူတို့သည် သူစိမ်း ကဲ့သို့ဖြစ်နေသည်။ ယနေ့လူတို့သည် အပေါ်ယံအားဖြင့် တည်ဆောက်ထားသော အရာကိုကျော်၍ အတွင်းကျကျ နက်နဲသော သဘောတရားဖြင့် တည်ဆောက်မှုကို လက်လှမ်းမမီဖြစ်နေသည်။ ပုံစံအားဖြင့် လူတို့၏ သာသနာကို မြင်ရပြီး အလ္လာဟ်အရှင်မြတ်၏ ဒီန်သည် ပျောက်ကွယ်နေသည်။

ယနေ့ အလ္လာဟ်အရှင်မြတ်၏ ဒီန်ကို ရှင်သန်အောင်ပြုလုပ်ဖို့ရန်အတွက် ကရိုင်းဘုတ်ကစားရာတွင် အလယ်တွင် ထားသော အဝိုင်းကလေးများကို တစ်ချက်တည်းနှင့် အနိုင်ကစားနိုင်သော မာစတာစထရုတ်(Master Stroke) များကဲ့သို့ ပုဂ္ဂိုလ်များ လိုအပ်ပါသည်။ ကရိုင်းဘုတ် လေးထောင့်သစ်သားပြား အလယ်တွင် ထည့်ထားသော ဖယ်သီးများကို စဦးရိုက် ထုတ်သူသည် တော်လျှင် တစ်ချက်တည်းနှင့် အပေါက်လေးပေါက်အနီးသို့ ဖယ်သီးများကို ရောက်စေနိုင်ပါသည်။ ဤသို့ အားဖြင့် ပွဲအမြန်ပြီးပြတ်နိုင်ပါသည်။ ယနေ့ခေတ်တွင် အလ္လာဟ်အရှင်မြတ်၏ ဒီန်ကိုပြန်လည်ရှင်သန်နိုင်စေဖို့ရန် ဤကဲ့သို့သော ထူးချွန်လှသည့် မာစတာစထရုတ်(Master Stroke)လိုအပ်နေခြင်း ဖြစ်ပါသည်။

ဤကဲ့သို့သော ပုဂ္ဂိုလ်မျိုးသည် သမရိုးကျ ဖြစ်နေသော လူတို့ပုံဖော်သည့် ဒီန်တွင် စုပုံနေသော သူတို့ကို သူတို့တုန့်ဆိုင်းနေသော စုရပ်များမှ တုန်လှုပ်စွာဖြင့် ဖယ်ရှားစေကာ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်တော်ကုရ်အာန်နှင့် တမန်တော်မြတ်၏ ဟဒီးစ်တို့ဖြင့် တည်ဆောက်ထား သောဒီန်ဘက်သို့ ရောက်ရှိအောင် ပြုနိုင်ခြင်းပင်ဖြစ်သည်။ တမန်တော်မြတ်သည် ဤသို့ပင် တုန့်ဆိုင်းနေသော လူအစုအဝေးကြီးကို လှုပ်ရှားကာ လမ်းမှန်သို့ ရောက်အောင်ပြုနိုင်ခဲ့သည်။

ဤသို့သော နည်းစဉ်ကို အသုံးပြုလျက် အစ္စလာမ် ကိုပြန်လည်ရှင်သန် အောင်ပြုခြင်းကို ဆန်းသစ်သောပုံဖော်မှုဒီန်(သဂျ်ဒီဒ်ဒီန်)ဟု ခေါ်ပါသည်။ ဤပုံဖော်မှုကို ဆောင်ရွက်နိုင်လျှင် တမန်တော်မြတ်၏ ဒီန်ကို ပြန်လည်ရှင်သန်အောင် ပြုခြင်းပင်ဖြစ်ပေလိမ့်မည်။ တမန်တော်မြတ်သည် သူ၏ခေတ်ကာလက ရှင်သန်လျက်ရှိနေသော ရှေးဟောင်းယုံကြည်ချက်များပေါ်တွင် တည်ဆောက် ထားသော အဆောက်အဦးကိုဖြိုဖျက်၍ အလ္လာဟ်အရှင်မြတ်၏ ဒီန်ကိုရှင်သန် အောင်တည်ဆောက် ပြနိုင်ခဲ့သည်။ယနေ့ကျွန်ုပ်တို့အနေဖြင့် အစ္စလာမ့် ခြေခံပေါ်တွင် တည်ဆောက် ထားသော ပုံစံနှင့် ယှဉ်တွဲသည့် အလ္လာဟ်အရှင်မြတ်၏ စစ်မှန်သော ဒီန်ကို ပြန်လည်၍ ရှင်သန်အောင် ပြုလုပ်ရပါမည်။

ဤသို့ပြုလုပ်နိုင်မှသာလျှင် လူတို့တွင် ရှိနေသော တုန့်ဆိုင်းမှုများ

အခြေအနေကို ပြောင်းလဲပြီးလျှက် ရှင်သန်မှု ကိုပြုနိုင်မည်ဖြစ်သည်။ ပုဂ္ဂိုလ်စွဲနှင့် အစုအရုံးပုံစံများဖြင့် ပုံမှက်နေသော အနေအထားမှလည်း အလ္လာဟ်အရှင်မြတ်ဘက်သို့ မျက်နှာလှည့်နိုင်မည်ဖြစ်သည်။ အစ္စလာမ်၏ ယုံကြည်ချက်ဆိုင်ရာ၏ အဓိကမကျသော ကိစ္စရပ်များကို အမှန်းတင် ခိုက်ရန်ဖြစ်ပွားမှုများကို ရှောင်ကြဉ်လာစေမည်။ ထိုမှ အဓိက ကျသော ပြဿနာရပ်များကို နားလည်လာမည်ဖြစ်သည်။ တန်ခိုးတော်နှင့် အုံ့ဖွယ်ရာဖြစ်စဉ်များကို ယုံကြည်ချက် ထားရှိသူတို့သည် စစ်မှန်သော အမှန်တရားပေါ်တွင် ဒီန်ကို တည်ဆောက်နိုင်မည်ဖြစ်သည်။ အသက်မပါသော အုံ့ဖွ နည်းဖြင့် ကျင့်ကြံမှုကို ဒီန်ဟု မှတ်ထင်သူများသည် ရှင်သန်သော ဒီန်၏ အနှစ်သာရများကို သိမြင်လာမည်။

ယနေ့အထိ မတင်မကျဖြစ်နေသော ဒီန်နှင့်စပ်လျဉ်းသည့် အမြင်များသည် ဘဝဆိုင်ရာ၏ လိုအပ်ချက်များကို ဖြည့်တည်းပေးသောလက်တွေ့ ဆောင်ရွက်ချက် ဖြစ်လာရပါမည်။ ဒီန်၏ဘေးထွက် ကျင့်စဉ် အချို့ကို အဓိကကျသော အသွင်ဖြင့် မှတ်ယူသော သူတို့သည် စစ်မှန်သောဒီန်၏ ဝန်းကျင်သို့ ဝင်ရောက်လာကြမည်ဖြစ်သည်။ ဤအချက်တွင် ယနေ့မျက်မှောက် အကြီးမားဆုံးသော မှားယွင်းမှုကို ပြင်ဆင်မှုလည်း ပြုလုပ်နိုင်မည်ဖြစ်သည်။

ဤအချက်သည်ကား **မျက်မှောက်ကမ္ဘာရှိ မွတ်စလင်မ်တို့သည် မွတ်စလင်မ် မဟုတ်သူတို့၏စက်ကွင်းအတွင်းဆန့်ရုံပိတ်ဆို့ခံနေရသည်**ဟူသော ထင်မြင်ချက်ပင် ဖြစ်သည်။ဤထင်မြင်ယူဆချက်ကြောင့်မွတ်စလင်မ်တို့သည် အခြားသူတို့၏အမြင်တွင် **ညှင်းပမ်းနှိပ်စက်သူနှင့် အကြမ်းဖက်သူများ**အမြင်ဖြင့် ရှုမြင်ခံနေရခြင်းဖြစ်သည်။ မွတ်စလင်မ်တို့တွင်လည်း အခြားသူတို့ကို ဆန့်ကျင်ဘက်အမြင်ဖြင့် ရှုမြင်လာရုံမက ယင်းသူတို့နှင့် မည်သို့ရင်ဆိုင်တိုက်ခိုက်ရမည်ဟူသော အသိသည် ဝင်ရောက်လာခြင်းဖြစ်သည်။ ထို့ကြောင့်လည်း မွတ်စလင်မ်တို့ကို ဆန့်ကျင်တိုက်ခိုက်နေမှုကို ကာကွယ်ရမည့် နည်းစဉ်ကဲ့သို့သော စကားရပ်များသည်သာလျှင် နှစ်သက်သော စကားရပ်ဖြစ်ရခြင်း ဖြစ်နေသည်။

ဤသည် စိတ်ဓာတ်ရေးရာ ခံစားမှုကို ဖြစ်စေသော စကား ဖြစ်နေသည်။

ဥပမာအားဖြင့် တမန်တော်မြတ်တို့၏ ဒေသနာပြန့်ပွားမှုကို ဖော်ပြရာတွင် စစ်မက်ဆိုင်ရာအမြင်၊ နိုင်ငံရေးဆိုင်ရာအမြင်ဖြင့် တင်ပြခြင်းကို လိုလာနေကြသည်။ မွတ်စလင်မ်မဟုတ်သူတို့ကို ညှင်းပမ်းနှိပ်စက်သူ များအဖြစ် ဖော်ပြလျက် သူတို့ကို ဆန့်ကျင်မှုများပြုရန် ညှိနှိုင်းဖြေရှင်းမှု(Adjustment) အသွင်ဖြင့် ပြဿနာကို မဖြေ ရှင်းဘဲ ခိုက်ရန်ဖြစ်ပွားမှုနှင့် ပဋိပက္ခဖြစ်စေသော အသုံးအနှုန်းကို ပြောဆိုခြင်း။ ယနေ့မျက်မှောက်တွင် ဤနည်းလမ်းကို ကျော်ပြီး အာခိရသ်၊ ဒါအ်ဝဟ် ဖိတ်ခေါ်မှုနှင့် ဆိတ်ငြိမ်သော လှုပ်ရှားမှုအကြောင်း ပြောသူတို့ကို အများက သံသယ မျက်စိဖြင့် ရှုမြင်နေကြသည်။ ဤသည်လုပ်ကြံမှုတစ်ရပ်ဖြစ်၍ သူတို့အတွင်း ရန်သူတို့ဖက်မှ စိမ့်ဝင်လှုပ်ရှားနေသည်အထိ မြင်လာနေပြီဖြစ်သည်။

အကယ်၍ ဒီန်၏ ဖြစ်စဉ်ကို အမျိုးသားနိုင်ငံရေးပုံစံမှ ဖယ်ရှားစဉ်းစားလာပြီး ဒီန်သည် အစဉ်ထာဝရ အခြေခံ အားဖြင့် အာခိရသ်ကို ဦးတည်နေသည်ဟူသော အမြင်ရှိလာလျှင်မူ အထက်ဖော်ပြပါ ထင်မြင်ယူဆချက် မှားယွင်းနေမှုများသည် အလိုအလျောက် ပျောက်ကွယ်သွားနိုင်ပါသည်။ အစ္စလာမ်ကို နိုင်ငံရေးရာပုံစံဖြင့်ပုံဖော်မှုသည် အလ္လာဟ်အရှင် မြတ်၏ပကတိအရှိတရားပေါ်တွင် ရပ်တည်ကာ သက်ရှင်ရပ်တည်ကြသော သူတို့အဖို့လိုအပ်ခြင်းမဲ့သော အစွမ်းမရှိသော အရာဖြစ်သည်။

ယနေ့ခေတ်ကာလတွင် ဤအတွေးအမြင်နှီးနှောမှုတော်လှန်ရေးသည် မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့ အတွက် အရေးအကြီးဆုံး လိုအပ်ချက်ဖြစ်နေသည်။ လက်တွေ့ကျသော လှုပ်ရှားမှုကို စတင်နိုင်စေရန် အတွက် လူ့အဖွဲ့အစည်းတွင် သမရိုးကျ မွတ်စလင်မ်တို့၏ ရပ်တည်နေမှုကို ကျမ်းတော်မြတ်ကုရ်အာန်နှင့် တမန်တော်မြတ်၏ ဟဒီးစ်ပေါ်တွင် ရှိနေသော အစ္စလာမ့်ဘောင်အတွင်းသို့ ဆွဲခေါ်ရပ်တည်အောင် ပြုရမည် ဖြစ်သည်။ ဤသို့ရပ်တည်လာမှသာလျှင် ယင်းသူတို့တွင် ရဗ်ဘာနီအသိအမြင်သစ် အလ္လာဟ်အရှင်မြတ်၏ စေခိုင်းမှု အရည်အချင်းများ ပေါ်ထွန်းလာမည် ဖြစ်သည်။ ဤစဦးပျိုးထောင် ပေးရမည့် လုပ်ငန်းစဉ်အခြေအနေကို စတင်ခြင်းတွင် ကြီးမားသော အစီအစဉ်ချမှတ်ခြင်းသည်

စဉ်းစားခြင်းမဲ့သော ဉာဏ်ပညာမဲ့သောသူတို့၏ လုပ်ရပ်သာလျှင် ဖြစ်သည်။

အချုပ်သဘောအားဖြင့် ဆိုရလျှင် ကျွန်ုပ်တို့ဖြစ်စေလိုသော အရာအားလုံး သည် ဤတွေးခေါ်မှုတော်လှန်ရေးမှရရှိမည့် အစွန်းထွက်ပစ္စည်း (By product) ပင်ဖြစ်သည်။ ကျွန်ုပ်တို့မျှော်လင့်ထားသော ရလဒ်များ၊ တွေ့မြင်လိုသော မြင်ကွင်း များသည် ယင်းအတွေးအခေါ် တော်လှန်ရေးမှတစ်ဆင့် ပေါက်ဖွားလာမည် ဖြစ်သည်။ ယင်းတော်လှန်ရေးကြီးသည်အရာရာကိုကြောက်ရွံ့နေရသော အနောက် အဖွဲ့ သံဆူးကြိုး ကိုဖယ်ရှားပစ်မည်ဖြစ်သည်။ ထိုမှတစ်ဆင့် ပညာရေးအဆင့် မြင့်မားတိုးတက်ရေးသည် ရုပ်လုံးပေါ်ပေါက်လာမည်ဖြစ်သည်။ ဤအတွေးအခေါ် တော်လှန်ရေး သည် လူတစ်ဦးချင်းတွင် အားသစ်လောင်းခြင်းကို ဖြစ်စေသည်။

ဤသို့အားဖြင့် နယ်ပယ်အသီးသီးတွင် အောင်မြင်မှုများကို ဆွတ်ခူး ရရှိလာသည်။ ဤအတွေးအခေါ် တော်လှန်ရေးကြီးသည် လူတို့တွင် ခွန်အား အပြည့်ကို ဖြစ်စေသည်။ ဤသို့အားဖြင့် မထင်မှတ်နိုင်သော အောင်မြင်မှုကို ရယူနိုင်ခြင်း ရှိလာသည်။ ဤတွေးခေါ်မှု တော်လှန်ရေးကြောင့် ရဗ်ဘာနီအသိ ပေါ်ထွန်းလာပြီး မည်သူမျှ ဖြိုဖျက်၍မရနိုင်သော စိမ်ကိန်းများကို ချမှတ် အကောင် အထည်ဖော်နိုင်သောအရည်အချင်းရှိလာသည်။ဤအတွေးအခေါ်တော်လှန်ရေး သည် လူ့အဖွဲ့အစည်းနှင့် ပထဝီမြေများကို သိမ်းကြုံးယူနိုင်စွမ်း ရှိနေခြင်းကြောင့် အဖက်ဖက်တွင် တိုးတက်သော သန့်စွမ်းသော လူ့အဖွဲ့အစည်း တစ်ရပ်ကို ကွန့်မြူး ပေါ်ထွန်းလာစေတော့သည်။ အကျဉ်းချုံး၍ ဖော်ပြရသည်ရှိသော် ဤတွေးခေါ်မှု တော်လှန်ရေးကြီးသည် မည်သည့်နေရာတွင် အခြေပြုပါစေ။ ယင်းနေရာသည် သဘာဝအနေအထားအရ ဖြစ်ပေါ်လာမည်မှာ လူတို့၏ ခြေဖဝါးအောက်တွင် စားရေရိက္ခာနှင့် သယံဇာတ များအလျှံပယ် ပေါ်ထွန်းလာမည်။ သူတို့၏ အထက်မှာ လည်း မထင်မှတ်သော ပေးကမ်းမှုများ ရှိလာသည်။ အလ္လာဟ်အရှင် မြတ်သည် ယင်းသူတို့အတွက် လောကီလောကုတ္တရာနှစ်ဌာန စလုံးကို ပေးအပ်လိုက်မည် ဖြစ်သည်။

အတိတ်ကာလကယုံကြည်ချက် ဆိုင်ရာ၏ တုန့်ဆိုင်းမှုကို ဖျက်သိမ်း

ပစ်ရန်အတွက် အလ္လာဟ်အရှင်မြတ်သည် တမန်တော်တစ်ဦးနှင့် နောက်ထပ် တမန်တော်တို့ စပ်ကြားတွင် ကျင့်သုံးမှုဆိုင်ရာ၏ ကွာဟမှုကို ပြုလုပ်ထားသည်။ တမန်တော်အားလုံး၏ လူသားလောကကြီးအတွက် ဆောင်ယူခဲ့သော ဒီန်လမ်းညွှန်ချက် သည် တစ်မျိုးတည်း ဖြစ်သော်ငြားလည်း ယင်းတို့၏ ရှရီအတ် ကျင့်သုံးမှု ဆိုင်ရာသည် မတူညီကြချေ။ ဤမတူညီမှုသည်လည်း အလ္လာဟ်အရှင်မြတ်၏ ဟစ်မယ်နည်းစဥ်တစ်ခုဖြစ်ပေသည်။ ကျမ်းတော်မြတ် ကုရ်အာန်ကဖော်ပြသည်မှာ-

အို-နဗီတမန်တော် အသင်သည်ထိုသူတို့၏စပ်ကြားဝယ် အလ္လာဟ် အရှင်မြတ်က ထုတ်ပြန် ချမှတ်တော်မူသည့်တရားတော်နှင့်အညီ စီရင်ဆုံးဖြတ် ပါလေ။ လည်းကောင်းအားဖြင့် အသင်သည်မိမိထံရောက်ရှိလာသောမှန်ကန်သော ကျမ်းတို့ကိုစွန့်၍ ယင်းသူတို့၏အလိုဆန္ဒများကိုမလိုက်လေနှင့်။ ငါအရှင်မြတ်သည် အသင်တို့အနက်အသီးသီးတို့ အဘို့တရား ဓမ္မသတ်တစ်မျိုးနှင့်ထင်ရှားလှစွာ သော လမ်းစဥ်တမျိုးကို သတ်မှတ် ပြဋ္ဌာန်းပေးတော်မူခဲ့သည်။
အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါမူအသင်တို့အားလုံးကို သာသနာဝင်တမျိုးတည်း ဖြစ်စေတော်မူခဲ့မည်မှာဓကန်မလွဲပင်။ သို့ရာတွင် ထိုအလ္လာဟ်အရှင်မြတ်သည် မိမိ ပြဋ္ဌာန်း ပေးသနားတော်မူသည့် တရား လမ်းစဥ် နှင့်စပ်လျဥ်း၍ အသင်တို့အားစမ်းသပ်တော်မူခြင်းငှာထိုကဲ့သို့ သာသနာဝင်တမျိုး တည်း ဖြစ်စေတော်မမူခဲ့ချေ ။
သို့ဖြစ်ပေရာအသင်တို့သည်ကောင်းမြတ်သောလုပ်ငန်း ဆောင်တာများကိုသူထက် ငါသာအောင် လျင်မြန်စွာ ပြုလုပ်ကြလေကုန်။ (၅း၄၈)

ငါအရှင်မြတ်သည် သာသနာဝင်အုပ်စုတိုင်း အဖို့ ကိုးကွယ်ဆည်းကပ်ရန် ပညတ်တရားတစ်ခုကို သတ်မှတ်ပြဋ္ဌာန်း၍ပေးတော်မူခဲ့ရာယင်းတို့သည်ယင်းပညတ် တရား နှင့်အညီ ကိုးကွယ်ဆည်းကပ် လိုက်နာသူများ ဖြစ်ခဲ့ကြကုန်၏။
သို့ဖြစ်ပေရာ ဤသူတို့သည် ယင်းအရေး ကိစ္စ၌ အသင်နှင့်ငြင်းခုံခြင်းကို မပြုကြ ရာချေ။ အသင်သည် မိမိအားဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်ဘက်သို့ ယင်းသူတို့အား ဖိတ်ခေါ်ပါလေ။ ဓကန်မလွဲအသင်တို့သည်ဖြောင့်မတ် မှန်ကန် သောတရားလမ်းစဥ်ပေါ်၌ တည်ရှိပေသည်။ (၂၂း၆၇)

ထို့မှတပါး ယုံကြည်သူအသီးသီးတို့၌ မျက်နှာမူရာအရပ်တခုကျစီရှိ၏။ ထိုသူ တို့သည် ဝတ်ပြုရာ၌မိမိတို့ဘာသာတရားနှင့်အညီ ထိုမျက်နှာမူရာဘက်သို့

မျက်နှာမူလေ့ရှိကြကုန်၏။ သို့ဖြစ်လေရာ အသင်တို့သည် ကောင်းမြတ်သောအမှုကိုဆည်းပူးရာ၌ သူ့ထက်ငါသာအောင် လုံ့လဝီရိယ စိုက်ထုတ်ကာ အဆောတလျင်ပြုလုပ်ကြကုန်လော့။ အသင်တို့သည် မည်သည့်နေရာ၌မဆို ရှိကြအံ့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ အားလုံးတို့ကို တဌာနတည်း၌ စုရုံးတော်မူအံ့။ မုချဧကန် အလ္လာဟ်အသျှင်မြတ်သည် အရာခပ်သိမ်းတို့ အပေါ်ဝယ်စွမ်းဆောင်နိုင်တော် မူသော အရှင်မြတ် ဖြစ်တော်မူလေသတည်း။ (၂း၁၄၈)

ဤနည်းနှင်နှင် ငါအရှင်မြတ်သည် အသင်တို့ကို ဖြောင့်မတ်သော တရားမျှတသော အမြင့်မြတ်ဆုံးသောသာသနာဝင်များအဖြစ် ပြုတော်မူခဲ့လေပြီ၊ ယင်းကဲ့သို့ပြုတော်မူခြင်းမှာ အသင်တို့သည် လူခပ်သိမ်းတို့အဘို့ အသိသက်သေများဖြစ်စေအံ့သောငှာလည်းကောင်း။ ထို့ပြင်ရစူလ်တမန်တော် မုဟမ္မဒ်သည်လည်း အသင်တို့အဘို့ အသိသက်သေ ဖြစ်စိမ့်သောငှာလည်းကောင်း။ပြုခြင်းပင်ဖြစ်သည်။

ဝင်စစ် ငါအသျှင်မြတ်သည် အသင် နဂိုမူလက မျက်နှာမူခဲ့ဘူးသည့် ကစ်ဗ်လဟ်ကို ထားရှိတော်မူခဲ့ခြင်းအကြောင်းမှာ ရစူလ်တမန်တော်၏ အမိန့်ကို လိုက်နာသောသူနှင့် မိမိတို့ခြေဖနောင့် ဘက်သို့ ပြန်လှည့်သွားသူတို့ကို ခွဲခြား သိတော်မူရန်သာဖြစ်ချေသည်။(၂း၁၄၃)

စစ်အားဖြင့်ဆိုရသော် အလ္လာဟ်အရှင်မြတ်၏ ရှရီအသ်ကျင့်စဉ်ဆိုင်ရာ၏ ကွဲပြားမှုသည် လူတို့၏ ဉာဏ်ရည် ဆင့်ကဲတိုးတက်လာမှု အနေအထားပေါ်တွင် တည်ဆောက်ထားသော စနစ်ဇယားဖြစ်သည်။ တစ်နည်းဆိုရသော် ရှရီအသ်သည်ရိုးရိုးအနေအထားမှသည် ဆင့်ကဲတိုးတက်လာပြီး ပြီးပြည့်စုံသော အနေအထားသို့ရောက်ရှိသည်။ ဤသည်ရှရီအတ် ၏ကွဲပြားမှုအကြောင်းရင်းခံဖြစ်သည်။ ဤဖော်ပြချက်သည် အကြောင်းခံမဲ့သော ဖော်ပြချက်တစ်ရပ် ဖြစ်သည်။ ကျမ်းတော်မြတ် ကုရ်အာန်က ရှရီအတ်၏ ပြောင်းလဲလာမှုသည် အခြေအနေကြောင့် ဖြစ်သည်။ ဆင့်ကဲတိုးတက်လာမှုကြောင့် မဟုတ်ဟု ဆိုထားသည်။ ရှရီအတ်သည် သူ၏ အခြေခံ အရှိတရားအားဖြင့် ဒီန်ဆိုင်ရာယုံကြည်ချက်ကို ရှင်သန်စွာ ဖော်ကျူးခြင်းပင် ဖြစ်သည်။

သို့ရာတွင် လူတို့တွင် ယင်းရှရီအတ်ကို မျိုးဆက်တစ်ခု ပြီးတစ်ခု လက်ဆင့်ကမ်းကျင့်သုံးနေရာမှ ယင်းရှရီအတ်၏ အနက်သဘောရုပ်သည်

ပျောက်ကွယ်သွားရသည်။ ယင်းသည် ခြောက်သွေ့သော ပုံသေကားချပ်ဖြစ်လာပြီး ယင်းကားချပ်သည် လူတို့၏ စိတ်ပိုင်းဆိုင်ရာဆက်သွယ်မှုကို ဖျက်သုဉ်းစေသည်။ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် ယင်းကားချပ်ကို ပြောင်းလဲပစ်သည်။ ဤသို့ပြုခြင်းကြောင့် လူတို့၏ ဆင်ခြင်မဲ့ သော လေ့နံမားထစ်ပုံစံ လှုပ်ရှားနေမှုကို ရပ်တံ့သွားစေရေးပင်။ ဤသို့အားဖြင့် လူတို့သည် ရှင်သန်သော အသိနှင့် သစ်လွင်သော ရှရီအတ်အားဖြင့် ဘ၀တည်ဆောက်နိုင်ရန် ဖြစ်သည်။

ဤသို့သော အခြေအနေရောက်ရှိလာသော အခါ လူတို့တွင် အသိတရားအားဖြင့် အလ္လာဟ် အရှင်မြတ်ကို နာခံသူများနှင့် တုန့်ဆိုင်းသော လေ့နံမားထစ်ပုံစံ ဆည်းကပ်သူများကို ကွဲပြားစွာ ဆန်းစစ်ယူနိုင်တော့သည်။

မိုင်သုလ် မုကဒ္ဒတ်စ်မှ ကအ်ဘာကျောင်းတော်ဘက်သို့ ကိဗ်လာအဖြစ် သတ်မှတ်ခြင်းသည် ဤဖော်ပြပါ အချက်အတွက် ရှရီအတ် ပြယုဂ်တစ်ခု ဖြစ်သည်။ ဤသို့ပြောင်းလဲဖြစ်ထွန်းလာမှုနှင့် ပတ်သက်၍ ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြသည်မှာလည်း မှတ်သားထိုက်သည်။ ဤသို့အားဖြင့် တမန်တော်မြတ်၏ နောက်လိုက်ကောင်းတို့သည် မည်သူတို့ဖြစ်သနည်း၊ နောက်ပြန်လှည့်ကြည့်ကြသူတို့ မည်သူတို့ဖြစ်ကြသနည်း။ ဤသည် ဆန်းစစ် စကာချခြင်းတစ်ခုဖြစ်သည်။ အမှန်တရားကို လိုက်နာသူတို့က အဘယ်သူများဖြစ်ပြီး ခေတ်နောက်ပြန်ဆွဲသော ရှေးဟောင်း တက္ကလိဒ်ဝါဒီတို့က မည်သူတို့ဖြစ်ကြသနည်း။ ယင်းရှေးဟောင်း နောက်ပြန်ဆွဲတို့သည် သူတို့၏ ရှေးဟောင်း အယူတွင် စွဲကပ်လျက်ရှိနေသည်။ စစ်မှန်သော အရှိတရားကို စွဲကိုင်သူတို့သည် တက္ကလိဒ်လုပ်ဆောင်မှုကို စွန့်လွှတ်ကာ ချက်ချင်းအားဖြင့် စစ်မှန်သော အမိန့်ကို တည်ဆောက်ကြမည် ဖြစ်သည်။

အခန်း ( ၄ )

# အစ္စလာမ်၏ ဒအ်ဝါဟ်ဖိတ်ခေါ်မှု

မိုးရာသီရောက်လာလျှင် လေအေးနှင့်အတူ မိုးတိမ်များ ကောင်းကင်တွင် လှုပ်ရှားနေတတ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ မလာအေကဟ်တို့က ဆိတ်ငြိမ်သောအသံဖြင့် ကြွေကြော်ချက်ကို လွှင့်ထုနေခြင်းဖြစ်သည်။ အဘယ်သူသည် မိမိ၏ မျိုးစေ့ကို မြေကြီးအတွင်း မြှုပ်နှံကာ အလ္လာဟ်အရှင်မြတ်၏ စနစ်ဖယားကို အားကိုးယုံကြည်စွာ အပ်နှံပါမည်နည်း။ ယင်းမြှုပ်နှံမှု၏ အကျိုးဆက်အဖြစ် အဆပေါင်း ၇၀၀ကို ပြန်လည်၍ ပေးအပ်မည်ဖြစ်သည်။ ဤကဲ့သို့ပင်ဒီန်နှင့် စပ်လျဉ်းပြီးလည်း အစီပွာယ်ဆောင်ပါသည်။ အလ္လာဟ်အရှင်မြတ်သည် ယခုအခါ အရာအားလုံးကို ဒီန်လှုပ်ရှားမှုအတွက် စုပုံထားသည်။

နှစ်ပေါင်းရာနှင့် ချီပြီး ကြုံတွေ့ခဲ့ရသော အခက်အခဲများနောက် ခေတ်၏ဖြစ်ထွန်းလာမှုသည် ကျွန်ုပ်တို့ဖက်မှ အခြေခံအားဖြင့် သက်သေခံနေပါသည်။ ဤပေးအပ်ထားသော ပေးကမ်းမှု အခွင့်အရေးကို အကောင်အထည်ဖော်နိုင်စေဖို့ရန် အလ္လာဟ်အရှင်မြတ်၏ ဘန္ဒာနခံတော်တို့ နိုးကြားစွာရပ်တည်လျက် မိမိတို့ကိုယ်ကို အလ္လာဟ်အရှင်မြတ်၏ ဒအ်ဝဟ်ဖိတ်ခေါ်မှု အစီအစဉ်ကို ပေးအပ်ရန် လိုအပ်နေသည်။ ယင်းတာဝန်ကို ထမ်းဆောင်သူတို့အတွက် အလ္လာဟ်အရှင်မြတ်၏ ကတိတော်က ရှိနေသည်။ ဤသည်ကား ယင်းတာဝန်ကို ထမ်းဆောင်လှုပ်ရှားသူကို အလ္လာဟ်အရှင်မြတ်က အဆပေါင်း(၇၀၀)နှင့် ညီမျှသော ယင်းထက်ပင် များပြားသော အကျိုးရလဒ်ကို အာခေရသ်တွင် ပြန်လည်ပေးဆပ်မည်ဖြစ်သည်။ အလ္လာဟ်အရှင် မြတ်က အလိုရှိပါက ဤဒွန္နယာလောကကြီးတွင်လည်း ပေးဆပ်မည်ဖြစ်သည်။

အစ္စလာမ်သမိုင်းသည် ကြီးမားလှသော ဖြတ်ကျော်မှုနှစ်ရပ်ကို ဖြတ်ကျော်ခဲ့ပြီး ဖြစ်သည်။ ယခုအခါ သမိုင်း၏ တတိယဖြတ်ကျော်မှုသည် စတင်နေပြီး

ဖြစ်သည်။ ဤတတိယဖြတ်ကျော်မှုကို မည်သူတို့လုပ်ဆောင်ကြမည်ကို ကျွန်ုပ်မသိနိုင်ပါ။ ယခုအခါ ဤတာဝန်ရယ်ထက် ကြီးမားသော တာဝန်သည်မရှိပါ။ ဤလုပ်ဆောင်ရမည့် လက်တွေ့လှုပ်ရှားမှု တွင် မိမိ၏စွမ်းအားကို အသုံးချ မည့်သူကား မည်သူများဖြစ်ကြသနည်း။ လုပ်ဆောင်ချက်တွင် မိမိတို့၏ ဥစ္စာဓနကို ထည့်ဝင်မြှုပ်နှံမှုထက် ကြီးမားသော မြှုပ်နှံမှုရှိမည်မဟုတ်ပါ။

## အစ္စလာမ်ဟူသည်အဘယ်နည်း

အစ္စလာမ်ဟူသည် သောင်ဟီဒ်ယုံကြည်ချက်ကို ခေါ်ဆိုခြင်းဖြစ်သည်။ သစ်တပင်၏ အရင်းအမြစ်သည် အစေ့ဖြစ်သကဲ့သို့ အစ္စလာမ့်အရင်းအမြစ်သည် သောင်ဟီဒ်ဖြစ်သည်။ ကျန်အရာများအားလုံးသည် သောင်ဟီဒ်မှ ပေါက်ပွားလာသော အသွင်ရှိကြသည်။ အချို့သည် သောင်ဟီဒ်၏ ရုပ်လုံးဖော်မှုဖြစ်ပြီး အချို့သည် သောင်ဟီဒ်၏ လိုအပ်ချက်ဖြစ်သည်။ သောင်ဟီဒ်၏သဘောအဓိပ္ပာယ်ကား အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားသူတို့သည် အလ္လာဟ်နေရာတွင် ဝင်ရောက်နိုင်စွမ်းမရှိဟု လက်ခံခြင်းဖြစ်သည်။

သို့ရာတွင် သောင်ဟီဒ်သဘောတရားသည် ဂါထာမန္တန်မဟုတ် ယင်းကို နှုတ်မှဖော်ပြရုံဖြင့် ရရှိသည်ဟု မထင်ပါနှင့်။ ယင်းသည် အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်းပြီး မိမိကိုယ်တိုင် ဆန်းစစ်ခံယူထားမှုဖြစ်သည်။ ဤသောင်ဟီဒ် သဘော တရားအားဖြင့် မိမိကိုယ်ကို ဆန်းစစ်ရပါမည်။ အလ္လာဟ်အရှင်မြတ်သည် အစဉ် ထာဝရရှိနေသောစွမ်းအားရှင်ဖြစ်ပြီး လူသားနှင့်တကွအရာအားလုံးသည် အလ္လာဟ် အရှင်မြတ် ၏ ပေးကမ်းမှုကို ခံယူရသောသူများဖြစ်ကြသည်။ မည်သည့် ယင်းသူသည် သောင်ဟီဒ်သဘောတရားကို သိမြင်လေပြီးဖြစ်သည်။ ဤသည် ပင်လျှင် သောင်ဟီဒ်ဖြစ်သည်။

သောင်ဟီဒ်သို့မဟုတ် တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်ကို အီမာန်ယူလက်ခံခြင်းသည် လူတို့၏ သိမြင်မှုဆုံးဖြတ်ချက်ပင် ဖြစ်သည်။ လူသည် သူ့အားပေးထားသော အခွင့်အရေးကို အသုံးပြု၍ အမှန်တရားကို ငြင်းဆိုနိုင်ခွင့်

ရှိနေသည်။ ယင်းအခွင့်အရေးကို ရယူရရှိနေပါလျက် အမှန်တရားကို လက်ခံခြင်း ဖြစ်ပေသည်။ သို့ဖြစ်၍ အီမာန်ဟူသည် အမှန်တရားကိုလက်ခံခြင်း၏ ဒုတိယ ဖွင့်ဆိုချက်ဖြစ်နေပြန်သည်။ ဤသို့အမှန်တရားကို လက်ခံအတည်ပြုခြင်းသည် လောကတွင် ရှိနေသော ကောင်းမြတ်သောလုပ်ဆောင်ချက်ကုသိုလ်၏ အမြင့်ဆုံး အဆင့်ကိုရယူခြင်းပင် ဖြစ်သည်။

ဤသောင်ဟီဒ်ဟူသော ယုံကြည်ချက်သည် လောကရှိ အရာအားလုံးတို့ ကလက်ခံထားသော ယုံကြည်ချက်ဒီန် ဖြစ်သည်။ ပထဝီမြေကြီးနှင့် ပထဝီဝန်းကျင်ရှိ အရာအားလုံးသည် အလ္လာဟ်အရှင်မြတ်၏ စည်းစနစ်ဖယားကိုလက်ခံ ကျင့် သုံးနေကြသည်။ ပျားတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက်ကို တစ်စိုက်မတ်မတ် လျှောက်လှမ်းကျင့်သုံး နေကြသည်။ သို့ရာတွင် ယင်းသူတို့သည် ယင်းတာဝန်ရပ်များကို အသိစိတ်ဖြင့် လုပ်ဆောင်ကြခြင်း မဟုတ်ပါ။ သူတို့သည် အလ္လာဟ်အရှင်မြတ်က သူတို့အပေါ်ဖန်ဆင်းပြဋ္ဌါန်းထားသော အနေအထားပေါ် မူတည်၍ လှုပ်ရှားကျင့်ကြံနေကြခြင်းဖြစ်သည်။

လောကကြီး တစ်ခုလုံးတွင် လူသားသည်သာလျှင် မိမိတို့ကို ပေးထားသော အသိစိတ်ကို အသုံးပြု၍ လုပ်ဆောင်မှုနှင့် အသိတရားအားဖြင့် အလ္လာဟ်အရှင်မြတ်၏ နာခံမှုကို ပြုကျင့်ကြခြင်း ဖြစ်သည်။သဘာဝလောကကြီးရှိ အရာမှန်သမျှသည် တစ်သမတ်တည်း အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက် တရားကို လိုက်နာနေကြသည်။ ဤသို့သောလိုက်နာမှုပြုရာတွင် ဖန်ဆင်းခံတို့အနက် လူသားတို့ကိုသာလျှင် ကိုယ်ပိုင်ဆုံးဖြတ်ရွေးချယ်ခွင့် ပေးထားသည်။ လူသားမှအပ အခြားအရာမှန်သမျှသည် ဤသို့ အလ္လာဟ့်အမိန့်လိုက်နာခြင်းသည် သူတို့အတွက် ပြဋ္ဌာန်းချက် မလုပ်မနေရတာဝန်ဖြစ်နေသည်။

ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသည်မှာ ပထဝီမြေကြီးနှင့်တကွ သဘာဝ လောကကြီးရှိ အရာမှန်သမျှသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံ ဦးညွှတ်ခြင်း ပြုနေကြသည်။ သို့ရာတွင် လူသားက အလ္လာဟ်အရှင်မြတ်ကို စိဂ်ျဒါဦးညွှတ်ရန် ပထဝီ မြေကြီးကို ခေါင်းချလိုက်သောအခါ သဘာဝ လောကကြီး

တစ်ခုလုံးအဖို့အံ့ဩဖွယ်ရာမြင်ကွင်း ဖြစ်စေသည်။အကြောင်းမှု သဘာဝလောကကြီး ရှိအရာမှန်သမျှအဖို့ ပြဌာန်းချက်အတိုင်း ပြုလုပ်ဆောင်ရွက်ရသော်လည်း၊ လူသားတို့အဖို့မူ ယင်းတာဝန်ကို မိမိအသိအမြင်နှင့် မိမိတို့၏ လုပ်ပိုင်ခွင့်ကို အသုံးပြုကာ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် စိဂ်ျဒါ ဦးချကာ လမ်းညွှန်ချက်တရားကို လိုက်နာကျင့်သုံးခြင်း ဖြစ်သည်။

လူသားတို့အားဖြင့် ဤလောကကြီးတွင် အသိအမြင်နှင့် လုပ်ပိုင်ခွင့် ဆိုင်ရာ၏ အသုံးချမှုသည် ပေါ်ထွန်းလာရသည်။ ဤသည်ပင်လျှင် လူတို့၏ အမြင့်မားဆုံးသော တန်ဘိုးဖြစ်သည်။ လူသားသည် အဖိုးမဖြတ်နိုင်သော သက်ရှိ အဖြစ် သဘာဝလောကကြီးတွင် မိမိအသိအမြင်အားဖြင့် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ကိုယ်ပိုင်ဆုံးဖြတ်ချက်ဖြင့် နာခံသူဖြစ်လာရသည်။

သဘာဝလောကကြီး၏ စာမျက်နှာတွင် ကိန်းဂဏာန်းတို့စပ်ကြားတွင် 'သုည'ဟူသော အရေးကြီးသည့် ဂဏာန်းတစ်ခုကို တိုးမြှင့်ခြင်းဖြင့် မူလအခြေကို တိုးမြှင့်ပေးလိုက်ခြင်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ တည်ရှိမှုရှေ့မှောက် တွင် မိမိသည် မည်သည့်တန်ဘိုးမျှ မရှိသူအဖြစ် ဖော်ပြသည်။ ဤသို့ လောကကြီးတွင် 'မုဂါဟိဒ်'အဖြစ်ရပ်တည်ခြင်း သည် ဖြစ်ပေါ်ထွန်းတောက်လာရသော အဖြစ်အပျက် များတွင် အကြီးမားဆုံးသော ဖြစ်ရပ်ဖြစ်ပေသည်။ ဤကြီးမားသော ဖြစ်ရပ်အတွက် အလ္လာဟ်အရှင်မြတ်ထံတော်မှာ ကြီးမားသောဆုလဒ်နှင့်သာထိုက်တန် မည်ဖြစ် သည်။ ဤအကြီးမားဆုံးသော ဆုလဒ်သည် 'ဂျန္နသ်'ပင် ဖြစ်သည်။ ဂျန္နသ်သည် မည်သည့်ကျင့်ကြံမှု၏ တန်ဘိုးမဟုတ်ပါ။ အလ္လာဟ်အရှင်မြတ်၏ နာခံတော်တို့တွင် မည်သည့်ဖန်ဆင်းခံကမျှ မပေးနိုင်သောအရာကို လူသားနာခံတော်က အလ္လာဟ် ထံတော်သို့ ပေးအပ်ခြင်းပင် ဖြစ်သည်။ သို့ဖြစ်၍လည်း အလ္လာဟ်အရှင်မြတ်သည် မည်သည့်ဖန်ဆင်းခံတို့ကိုမျှ မပေးသော ဆုလဒ်ကိုပေးခြင်းဖြစ်သည်။

## ဂျန္နသ်ဟူသည့် အဘယ်အရာနည်း

ဂျန္နသ်သည်အလွန်မှပင် အံ့ဖွယ်ရှုမငြီးသော လောကကြီးတစ်ခု ဖြစ်သည်။ ယင်းလောကကြီးကို အလ္လာဟ်အရှင်မြတ်က သူ၏ထူးခြားသော နာခံတော်

ဘန်ဒါတို့အတွက် ဖန်ဆင်းသတ်မှတ်ထားခြင်းဖြစ်သည်။ ဂျန္နသ်တွင် အလ္လာဟ် အရှင်မြတ်၏ ဆွိဖသ်ဂုဏ်တော်အပေါင်းသည် အလွန်ပေါ်လွင်ထင်ရှားစွာဖြင့် ထွန်းတောက်လျက်ရှိသည်။ဂျန္နသ်နှင့် စပ်လျဉ်း၍ ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြရာတွင် ဂျန္နသ်တွင် ကြောက်ရွံ့ခြင်းနှင့် ဝမ်းနည်းကြေကွဲမှုသည်ရှိမည်မဟုတ် ဟု ဆိုထား သည်။ ဤသည်စဉ်းစား၍မရနိုင်သောသစ်လွင်လှသော ဆွိဖသ် တစ်ရပ်ဖြစ်ပေသည်။

ကမ္ဘာပေါ်တွင် မည်ရွေ့မည်မျှ ကြီးမားလှသော အာဏာပိုင်ပုဂ္ဂိုလ်ဖြစ်စေ၊ ကြွယ်ဝချမ်းသာလွန်းအားကြီးသော သူကြွယ်ဖြစ်စေ၊ ဝမ်းနည်းကြေကွဲမှုနှင့် စိုးရိမ် ကြောင့်ကြမှုကို သူတို့၏ဘဝခရီးမှဖယ်ထုတ်ပပျောက်နိုင်ခြင်းမရှိပေ။ ကျမ်းတော်မြတ် ကုရ်အာန်တွင် ဖော်ပြထားသည်မှာ ဂျန္နသ်တွင် ဝန်းကျင်တစ်ခုလုံး စလာမ် မရှိသော လောကဘုံကြီးဖြစ်ကြောင်း သိမြင်နိုင်သည်။ ဂျန္နသ်သားတို့သည် အခြား သူတို့ အတွက် ငြိမ်းချမ်းသာယာမှုနှင့် ကောင်းမြတ်သော ဖြစ်ထွန်းမှုမှအပ ဘာမျှမရှိကြ။

ဟဒီးစ်ကျမ်းဂန်တွင် ဂျန္နသ်သားတို့ စားသုံးသောက်သုံးရမည့် အရာများ သည် အညစ်အကြေးများအဖြစ် စွန့်ထွက်လာမည်မဟုတ်။ ဤသို့မဟုတ်ဘဲ ယင်းကဲ့သို့ မစင်ကဲ့သို့ အရာများအစား မွှေးကြိုင်သော ရနံ့ရှိသည့် လေများအဖြစ် သာလျှင် ထွက်လာမည်ဖြစ်သည်။ သို့ဖြစ်လေရာ ဂျန္နသ်တွင် အညစ်အကြေးများ၊ မစင်များကို တွေ့မြင်ရမည်မဟုတ်၊အညစ်အကြေးများသည် မွှေးကြိုင်သော လေငွေ့ အသွင် ပပျောက်သွားမည်ဖြစ်သည်။

ဟဒီးစ်ကျမ်းများတွင် ဖော်ပြထားသည်မှာ ဂျန္နသ်တွင် လူတို့အိပ် စက်ခြင်းမရှိသော်လည်းသူတို့၏စိတ်ကဖြစ်စေလိုသော အာသာဆန္ဒသည် ပြည့်ဝမည် ဖြစ်သည်။ အဓိပ္ပာယ်ကား ဂျန္နသ်သားတို့သည် အိပ်စက်ခြင်းကို လိုလားမည်မဟုတ် ဘဲ ဂျန္နသ်၏စည်းစိမ်ကို ခံစားလိုကြမည်ဖြစ်သည်။ ဂျန္နသ်တွင် မရေတွက်နိုင်သော နှစ်ပေါင်းများစွာခံစားမှုအပေါင်း ရရှိမည်ဖြစ်သည်။ ဂျန္နသ်ဝန်းကျင်နှင့် ဂျန္နသ်တွင် နေထိုင်ရမှုသည် အံ့ဖွယ်အတိဖြစ်နေမည်။

အထူးခြားဆုံးသော ခံစားရမှုက ဂျန္နသ်တွင် အလ္လာဟ်အရှင်မြတ်ကို

ရှုမြင်နိုင်မှု အခွင့်အရေးပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် မဖော်ပြ မရေတွက်နိုင်သော ကောင်းချီးအဖြာဖြာကို ပိုင်ဆိုင်သော အရှင်ဖြစ်၏။ အလ္လာဟ် အရှင် မြတ်သည် မရှိသည်မှ ရှိလာအောင်၊ အရာအားလုံးကို ဖန်ဆင်းထားသော ဖန်ဆင်းရှင် ဖြစ်သည်။ စကြဝဠာအပေါင်း၏ ဖန်ဆင်းရှင်ဖြစ်၏။ အရှင်မြတ်သည် နေမင်းကြီးကို အလင်းဆောင်ကာ တောက်ပစေသည်။ အရှင်မြတ်သည်သာလျှင် သစ်ပင်များကို စိမ်းလန်းစိုပြေစေပြီး ပန်းမလ်တို့ကို ရနံ့ဖြင့် မွှေးကြိုင်စေသည်။

ဤလုပမှု အဝဝကို ဖန်ဆင်းသော အရှင်၏ အလုသည် ဘယ်ရွေ့ဘယ်မျှ လုပတည်ရှိမည်ကို မဖော်ပြနိုင်ပါ။ ဤသည်ကို စိတ်အားဖြင့် မှန်းဆရာတွင်လည်း မလွယ်ကူပါ။ ဤကဲ့သို့သော တင့်တယ်မှုအဝဝသည် ရှိနေပြီး အလ္လာဟ်အရှင်မြတ် ကို မြင်တွေ့ဖူးမြော်ခွင့်ရသော အခွင့်နှင့် ခံစားရမှုကို မည်သူက ဖော်ပြနိုင်မည်နည်း။

## မုအ်မင်န်တို့၏ဘဝ

တန်ဘိုးမဖြတ်နိုင်သော ဂျန္နသ်သည် လျှော့ဈေးဖြင့်ရမည်မဟုတ်သည်ကို သိစေအပ်ပါသည်။ ဂျန္နသ်သည် အလ္လာဟ်အရှင်မြတ်၏ စစ်မှန်သောဘန္ဒာ နားခံတော်အဖြစ် အစစ်ဆေးခံလုပ်ဆောင်နိုင်သောသူတို့၏ ရှပ်အတွက် ခံစားရမှုဝေစု ဖြစ်သည်။ မိုအ်မင်န်စစ်မှန်သော ယုံကြည်သူအဖြစ်ရောက်ရှိစေပါရန် လောကီတာဝန်အချို့နှင့် အစ္စလာမ်၏ အမာလီယာသ်ဟု ခေါ်သည့် ဝတ်ပြုကျင့်စဉ် အချို့ကို ပေါင်းစပ်၍ရမည်ဟုမထင်လိုက်ပါနှင့်။

မိုအ်မင်န်ဟူသည် အစ္စလာမ်သည်သာလျှင် လူ၏ဘဝတစ်ခုလုံးဖြစ် သွားရသည်ကို ဆိုပါသည်။ အစ္စလာမ်သည် လူ၏လက်ဖဝါးသက်သက်မဟုတ်၊ လက်တစ်ချောင်းလုံးကို အဓိပ္ပာယ်ဆောင်သည်။ အကြင်လူသည် အစ္စလာမ်ကို သူ၏ဘဝအတွက် မထင်မရှားသော အနေအထားလောက်သာ သတ်မှတ်လျှင် ယင်းသူသည် အစ္စလာမ်ကို ရှုတ်ချသူသာလျှင်ဖြစ်သည်။

ဤကဲ့သို့ပင်လူသည် မိမိကိုယ်ကိုအလ္လာဟ်အရှင်မြတ်၏ တပ်မတော် သားပမာ မှတ်ဆိုကြမည်ဖြစ်သော်လည်း တစ်ကယ်တန်းပဋိပက္ခဖြစ်နေပါက သူတို့

အနေဖြင့် ရင်ဆိုင်ဖြေရှင်းနိုင်မည်မဟုတ်ပါ။ဤသူတို့၏လုပ်ဆောင်မှုသည် အစ္စလာမ်၏ ကျင့်စဉ်မဟုတ်။ ဤသည် အစ္စလာမ်ကို အသုံးချနေသော နိုင်ငံရေးပုံဆောင်မှုဖြစ်သည်။

ပထမဖော်ပြသောသူတို့သည် ဒီန်ကိုအဖိုးနည်းအောင်ပြုသော တရားခံများဖြစ်သလို ဒုတိယဖော်ပြသောသူတို့သည် ဒီန်ကို ပြင်ဆင်သော တရားခံများဖြစ်ကြသည်။ ဤသူတို့သည် အလ္လာဟ်အရှင်မြတ်က မကြိုက်နှစ်သက်သောသူ ဖြစ်ကြပြီး သူတို့သည် အလ္လာဟ်အရှင်မြတ်က ရွံရှာသောသူများ သာလျှင်ဖြစ်ပေသည်။ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ဆုလာဘ်ရမည်ဟု မထင်ပါနှင့်။

မိုအ်မင်န်ဟူသည် ယင်းသူ၏နှလုံးသားအသွင် အစ္စလာမ်သည် မှန်တိုင်းကြီးအသွင်ဝင်ရောက်ကာ အလ္လာဟ်အရှင် မြတ်သည် ယင်းသူနှင့် အနီးကပ်ဆုံး တွင်ရှိပြီး အလ္လာဟ်အရှင်မြတ်နှင့် ဆက်သွယ်မှုရှိနေရပါမည်။ မိုအ်မင်န်၏အားလပ်ချိန်သည် မလာအေကာဟ်တို့နှင့်ပြည့်နေရပါမည်။ သူ၏နှုတ်များကို အစ္စလာမ်က စွဲကိုင်ထားသည့်အသွင် ရှိရပါမည်။ သူ၏ လက်နှင့်ခြေကို အလ္လာဟ်အရှင်မြတ်၏ သံဆူးကြိုးက ချည်နှောင်ထားသည့်အသွင်ရှိရပါမည်။

ယင်းသူတို့သည်သည် ကယာမသ်နေ့ ဟရှရ်လွင်ပြင်သို့မရောက်မီ အလျှင်ရောက်နေသကဲ့သို့ ခံစားနိုင်ရပါမည်။ ကာဖရ်တို့ သေပြီးနောက်ခံစားရမှုသည် မိုအ်မင်န် တို့အဖို့ ဤလောကီတွင်ခံစားနေရသကဲ့သို့ဖြစ်ရပါမည်။ အခြားသူတို့သည် အလ္လာဟ်အရှင်မြတ်က ဂိုင်ဗ်အကွယ်မှ ထွက်လာမှ ရရှိမည့်အရာကို မိုအ်မင်န် တို့သည် ဂိုင်ဗ်အကွယ်မှ ရယူမည်ဖြစ်သည်။ ဤကဲ့သို့ပင် အခြားသူတို့ ကေယာမသ်နေ့မှ ကေယာမသ်မြင်ကွင်းကို တွေ့ရမည်ဖြစ်သော်လည်း မိုအ်မင်န်တို့ကမူ ယင်းမြင်ကွင်းကို မျက်မှောက်တွင် ရှုမြင်ပြီးသားဖြစ်မည်။

## အစ္စလာမ်၏ ဖိတ်ခေါ်မှု

တောက်လောင်နေသောမီးသည် သူ၏အခြေအနေကို သက်သေပြရန် မီးတောက်များကို လွှင့်လေ့ရှိသည်။ ဤကဲ့သို့ ပင် ရေခဲသည်လည်း အေးမြမှုဖြင့်

သက်သေထူလေ့ရှိသည်။ ဤဖော်ပြပါဥပမာကဲ့သို့ပင် မိုဇ်မင်နိသည်လည်း သက်သေ သာဓကအနေဖြင့် ပထဝီမြေကြီးပေါ်တွင် အစ္စလာမ့်ဖက်သို့ဖိတ်ခေါ်မှု ဒါဝသ်အားဖြင့် သက်သေဖြစ်သည်။ လူသားတစ်ဦးတွင် အစ္စလာမ်တည်းဟူသော အလ္လာဟ်ထံ တော်မှ လိုင်းခတ်မှုဖြစ်လာသောအခါ ယင်းသူသည် အမှန်ပင်လျှင် သူ့ဝန်းကျင်ကို ဒါဝသ်ဖိတ်ခေါ်မှုအသံကို ပေးမည်ဖြစ်သည်။ ဤသည် ယင်းသူအတွက် အစ္စလာမ် ၏ဖိတ်ခေါ်မှု ဒါဝသ်၏အစဦးပင် ဖြစ်တော့သည်။

အစ္စလာမ်၏ဖိတ်ခေါ်မှုဒါဝသ်သည် လူသားတို့တွင် တော်လှန်ရေးအမြင် ရှုမြင်တတ်မှုကို ပေးသည်။ ဤသူတို့သည် လူမျိုးစုအသွင် စုစည်းမှုအတွက် ကြိုးပမ်းခြင်းမဟုတ်ပါ။ အစ္စလာမ်၏ဖိတ်ခေါ်မှုဒါဝသ်သည် လူတို့၏နာဖ်စ်ကို ပြုပြင်သည့် တော်လှန်ရေးတစ်ရပ်ဖြစ်သည်။ ဤသည် လူသားတို့၏ နဖ်စ်ဝန်းကျင် တွင်သာဝင်ရောက်ကာပြုပြင်ပြောင်းလဲမှုကို ဖြစ်စေသည်။ နဖ်စ်သည် လူတစ်ဦးချင်းစီ တွင်ရှိသည်။ သို့ဖြစ်၍ အစ္စလာမ်၏တော်လှန်ရေးအမြင်သည် လူတစ်ဦးစီတွင် ဝင်ရောက်ခြင်း ဖြစ်သည်။ လူ့အဖွဲ့အစည်း တစ်ခုလုံးသည် နဖ်စ်တစ်ခုတည်းဖြင့် တည်ရှိသည်မဟုတ်။ သို့ဖြစ်၍ လူတစ်ဦးချင်းကို အဓိကမထားဘဲ လူ့အဖွဲ့အစည်းကို ပြုပြင်လိုသော လုပ်ရပ်သည် ကောင်းကင်ကြီးကို မြားပစ်သည်နှင့် တူလှသည်။

ဖြစ်လေ့ဖြစ်ထရှိသည်မှာ လူ့အုပ်စု တစ်ခုတွင် လူမျိုးရေးအခြေအနေ သို့မဟုတ် ပထဝီအနေအထားအရ ယဉ်ကျေးမှုဆိုင်ရာတို့ လူတို့အတွင်း ထကြွလာသောအခါ၊ ယင်းသူတို့တွင် စိတ်ဓာတ်တစ်ရပ် ပေါ်ထွန်းလာလေ့ ရှိသည်။ ဤသို့သော အခြေအနေများပေါ်တွင် ပေါ်ထွန်းလာသော လှုပ်ရှားမှုသည် မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့အတွင်းလည်း ဖြစ်နိုင်ချေရှိသည်။ သို့ရာတွင် ယင်းကို အစ္စလာမ့်လှုပ်ရှားမှုဟု အမည်မတပ်နိုင်ပါ။ ဤသို့ပင် ယင်းမွတ်စလင်မ် အဖွဲ့ အစည်းအုပ်စုသည် အခြားသူတို့နှစ် တစ်စုံတစ်ခုသော ပြဿနာဖြစ်လာလျှင် ဆန့်ကျင်ဘက်ကို ဂျိဟာဒ်(သို့မဟုတ်) အခြားအစ္စလာမ့်ရေးရာ ခေါင်းစဉ်တပ်၍ လှုံ့ဆော်လျှင် ဤသည်လည်း မှားယွင်းသော လုပ်ရပ်ဖြစ်မည်။

ဤသို့ အစ္စလာမ်ကို အသုံးချသော သူတို့သည် ပြစ်ဒဏ်နှင့် ထိုက်တန်

လှသည်။ ယင်းသူတို့ကို အစ္စလာမ့်ဘွဲ့ထူးဂုဏ်ထူးများပေးခြင်းလည်း မထိုက်ပါ။ ဤသို့သော် အစ္စလာမ်ကို အမှီဆိုးပြု၍ ပေါ်ထွန်းလာခဲ့သော လှုပ်ရှားမှုများကို မျက်မှောက်ကမ္ဘာတွင်အများအပြားတွေ့ရသည်။ ယင်းသူတို့သည်မရှုမလှ အရေးနိမ့်ခြင်းနှင့်သာ ကြုံခဲ့ရသည်။ အကြောင်းမူ ဤသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့မှောက်တွင် တန်ဘိုးမဲ့သော လုပ်ရပ် ဖြစ်နေ၍ပင်။သတိပြုရမည့်အချက်သည်ကား ပေါ်ထွန်းလာလေ့ရှိသော လှုပ်ရှားမှုများသည် အားလုံးလိုသည် လူမျိုးရေးနှင့် အမျိုးသားရေး လှုပ်ရှားမှု မဟုတ်ပါ။

အစ္စလာမ့်လှုပ်ရှားမှုဟူသည်ကား ဂျန္နသ်ဘက်သို့ ဖိတ်ခေါ်သည့် လှုပ်ရှားမှုဖြစ်သည်။ ဂျန္နသ်သည် အလ္လာဟ်အရှင်မြတ်၏ လှပပြီးပြည့်ဝသော ခံစားမှုကို ပေးသည့် ကမ္ဘာကြီးဖြစ်သည်။ ယင်းကမ္ဘာတွင် နေခွင့်ရရှိမည့် သူတို့သည် အလ္လ❖ METRO ဘဟ်အရှင်မြတ်က သတ်မှတ်ပေးသော ကိုယ်ကျင့်တရားနှင့် ပြည့်စုံသော သူဖြစ်ရပါမည်။ ယင်းသူတို့သည် လူသားလောကကြီးတွင် လူဖြစ်ခြင်း၏ မြင့်မားသော အရည်အချင်းကို သက်သေခံသူများ ဖြစ်ကြသည်။ ယင်းသူတို့သည် လူတို့၏ လက်တွေ့ကမ္ဘာတွင် မြင့်မားသော အဆင့်ရှိသူဖြစ်ရမည်။ ဤသို့မဟုတ်ဘဲ နိုင်ငံရေးရာနှင့် စီးပွားရေးရာကို အကြောင်းပြုခြင်း သက်သက် မဖြစ်စေရပါ။

ယနေ့ကမ္ဘာတွင် ဤသည်ပင်လျှင် မှတ်ကျောက်ဖြစ်နေသည်။ ဂျန္နသ်တွင် နေထိုင်ခွင့် အရည်အချင်းနှင့် ပြည့်ဝသော သူတို့သာလျှင် ရွေးချယ်ကာ ဝင်ခွင့် ရရှိမည်ဖြစ်သည်။ ကျန်လူတို့သည်ကား အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ်နှင့် ကင်းကွာသူဖြစ်ပြီး၊ ဂျန္နသ်နှင့် ဝေးလံသော နေရာသို့ ပစ်ချခြင်း ခံရမည်ဖြစ်ပြီး၊ ယင်းသူတို့သည် အစဉ်ထာဝရ ယင်းနေရာ၏ မှောင်မိုက်သော မြင်ကွင်းတွင် တဝဲလည်လည် သွားရောက်နေကြမည် ဖြစ်သည်။

ကမ္ဘာပေါ်တွင် လူသားတို့မှအပ အခြားသော အရာများသည် အလွန်မှပင် လှပလွန်းလှသည်။ စိမ်းလန်းစိုပြည် သော သစ်ပင်နှင့် နူးညံ့သိမ်မွေ့လွန်းလှသော ပန်းပွင့်တို့ကို ဂရုပြုလေ့လာကြည့်ပါ။ ပထဝီမြေကြီးနှင့် သဘာဝလောက၏ မြင်ကွင်းကို သုံးသပ်ကြည့်ပါ။ ယင်းမြင်ကွင်း၏ ဆွဲအားသည် ကြည့်ရှုသူတို့၏

အမြင်ကို သူတို့ဘက်သို့ ဆွဲသွားလိမ့်မည်။ လူသားလောကကြီးကိုမူ ညှင်းပမ်းနှိပ်စက်မှုနှင့် ညစ်ညမ်းမှုတို့နှင့် ပြည့်နေသည်။ ဤသို့ မတူညီသော မြင်ကွင်းဘာကြောင့် ဖြစ်နေပါသနည်း။

အကြောင်းကား လူသားမှအပ ကျန်သက်ရှိသက်မဲ့ သဘာဝလောကကြီးတစ်ခုလုံးသည် အလ္လာဟ်အရှင်မြတ် ၏ စနစ်ဖယားအားဖြင့် အလ္လာဟ်အရှင်မြတ်၏ သဘောတူညီမှုပုံစံဖြင့် လှည့်ပတ်လှုပ်ရှားနေကြခြင်းဖြစ်သည်။ ဤလှုပ်ရှားနေမှုသည် အလ္လာဟ်အရှင်မြတ် အလိုရှိသော ပုံစံပင်ဖြစ်သည်။ လူသားတို့ကိုမူ လွတ်လပ်စွာ ရွေးချယ်မှုနှင့် ဆင်ခြင်တတ်မှုကို ပေးထားရာ လူသားသည် ယင်းအခွင့်အရေးကို လွဲမှားသော သုံးစွဲမှုဖြင့် ကမ္ဘာကြီးကို ဂျဟန္နမ်ငရဲပမာ ဖြစ်စေခြင်း ဖြစ်သည်။

စင်စစ်အားဖြင့် သိမြင်အပ်သည်ကား ကောင်းမြတ်မှုအလုံးစုံ၏ အရှင်သခင်သည် အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်သည်ဟူသော အသိဖြစ်ရပါမည်။ အလ္လာဟ်အရှင်မြတ်၏ ဖြစ်စေလိုသော အခြေအနေကို ရပ်တန့်လိုက်သောနေရာမှာ ဂျဟန္နမ်သည် စတင်ခြင်းဖြစ်သည်။ ဤသို့ပင် အလ္လာဟ်အရှင်မြတ်၏ လုပ်ပိုင်ခွင့်ကို သတ်မှတ်ပြဋ္ဌာန်းလိုက်သော နေရာသည် ဂျန္နသ်ဖြစ်လာပါသည်။

အလ္လာဟ်အရှင်မြတ်သည် ဘာကြောင့်များ လူသားတို့ကို လွတ်လပ်ခွင့်ပေးကာလောကကြီး၏အလှကိုသူတို့၏မိုက်မဲသောလုပ်ရပ်ဖြင့်ဖျက်ဆီးခွင့်ပြုရပါသနည်း။ ယင်း၏ အဖြေကား ဤသို့သောအခွင့်အရေးပေးခြင်းမရှိလျှင် ဂျန္နသ်နှင့်ထိုက်တန်သူကို ဆန်းစစ်ယူရန် မဖြစ်နိုင်ပေ။ သို့ဖြစ်၍ ဂျန္နသ်နှင့်ထိုက်တန်သော ရွေးချယ်မှုအတွက် ဤသို့ ပြုရခြင်းဖြစ်သည်။

လောကကြီးရှိ အရာမှန်သမျှသည် အလ္လာဟ်အရှင်မြတ်၏ နည်းပေးလမ်းညွှန်ချက်ကို လိုက်နာလှုပ်ရှား နေကြသည်။ သေးငယ်သော ပရွက်ဆိတ်မှသည် စကြဝဠာကြီးတစ်ခုလုံးသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ကို သွေဖည်ခြင်းမရှိဘဲ လှုပ်ရှားနေကြသည်။ ထိုသို့လှုပ်ရှားနေခြင်းမှာ ယင်းအရာများများသည် လွတ်လပ်ခွင့်မရှိဘဲ၊ အမိန့်အမိန့်ဖြင့်ရပ်တည်နေရ၍ ဖြစ်သည်။အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို တစ်သဝေမတိမ်းလိုက်နာခြင်းမှအပ သူတို့အဖို့ အခြားနည်းလမ်းမရှိပေ။

အလ္လာဟ်အရှင်မြတ်သည် လွတ်လပ်စွာလှုပ်ရှားနိုင်ခွင့်ရရှိပြီးသကာလ အလ္လာဟ့် အမိန့်တော်ကို တစ်သဝေမတိမ်းနာသော ဖန်ဆင်းခံများ ဖြစ်စေလိုသည်။ မည်သည့်အတားအဆီး အချုပ်အနှောင် မပါဘဲ အလ္လာဟ်အရှင်မြတ်ကို နာခံစေလိုသည်။ ဤသို့သော ဆန်းစစ်မှုနှင့် ရွေးချယ်မှုပြုရန် ဤကြီးမားကျယ်ပြန့်လှသော ကမ္ဘာကြီးကို အရှင်မြတ်က ဖန်ဆင်းလိုက်ခြင်း ဖြစ်သည်။

ရှေးပဝေသဏီခေတ်မှ ယနေ့ခေတ်အထိ လူတို့၏တွေးခေါ်မှုကို နားမလည်နိုင်အောင်ဖြစ်စေသောပြဿနာသည် ကားလူတို့၏ ဆိုးယုတ်မှုပြဿနာ (Problem of Evil)ပင် ဖြစ်သည်။ ဒဿနပညာရှင်တစ်ဦးက မိန့်ဆိုသည်မှာ လူ့သမိုင်း တစ်ခုလုံးသည် ညှင်းပမ်းနှိပ်စက်မှုနှင့် မကောင်းမှု ဒုစရိုက်တို့၏ မှတ်တမ်း ဖြစ်နေသည်ဟု၏။ စင်စစ်အားဖြင့်လည်း လူသားတို့သည် သူတို့၏ အခွင့်အရေးကို လွဲမှားရက်စက်စွာ အသုံးချခဲ့ကြသည်။ ဤလွဲမှားရက် စက်သော ဖြစ်ရပ်များကို အလ္လာဟ်မြတ်က ဥပေက္ခာပြုရခြင်းမှာ မြင့်မြတ်သော အရည်အချင်းရှိပြီး မှတ်ကျောက်တင်ခံကာ ဂျန္နသ်တွင် ဝင်ရောက်ခွင့် ရရေးသည် ဤစိစစ်မှုမှဖြစ်ပေါ်လာ စေရန်ဖြစ်သည်။ကိုယ်ပိုင်ဆုံးဖြတ်ခွင့်နှင့် လွတ်လပ်ခွင့်ရှိနေပါလျက် လူသား၏ အရည်အချင်းတောက်ပမှုကို မလာအေကဟ် စေတမန်တို့က သက်သေခံမည် ဖြစ်သည်။ ယင်းသူသည် အခွင့်ထူးရပါလျက်နှင့် အလ္လာဟ် အရှင်မြတ်၏ နည်းလမ်း လမ်းညွှန်ချက်အတိုင်း ဘဝတည်ဆောက်ပါသည်။ ယင်းသူသည် အလ္လာဟ်အရှင်မြတ် အတွက် သူတို့၏ ရပိုင်ခွင့်ကို အဆုံးရှုံး ခံခဲ့ကြသည်။ လောကကြီးတွင် များပြောင်လှစွာသော မကောင်းမှု ဒုစရိုက်သည် တန်ဘိုးမဖြတ်နိုင်သော ကောင်းမြတ်မှု၏ ဖလှယ်ရသော တန်ဘိုးဖြစ်သည်။

ယင်း ကောင်းမြတ်သော ဘဝတည်ဆောက်မှု ဟူသည် လူသားတို့၏ လောကထဲမှ ကောင်းမြတ်သော ရှုပ်များကို ဆန်းစစ်ကာ အလ္လာဟ်အရှင်မြတ်၏ နာခံမှု အသိနှင့် အမြင်များကို ရယူခြင်းပင် ဖြစ်သည်။ ဤဆန်းစစ်မှုတွင် မိမိတို့၏ အသိအလိမ္မာ အားဖြင့် နားလည် သဘောပေါက်မှုမှ ဖြစ်ရပါမည်။ မလွဲမရှောင်သော အဖြစ်မျိုးဖြင့် နာခံသူ မဖြစ်စေရ။

ဤမြင့်မြတ်လှသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့သည်ကား သူတို့၏ ရရှိသော အခွင့်အရေးများနှင့် အမှန်တရားများ ကိုလက်မခံဘဲ နေထိုင်ခွင့်ရှိပါသည်။ သို့ရာတွင် ယင်းသူတို့သည် အမှန်တရားများကို လိမ်လည်သော စကားအဖြစ် ပစ်ပယ်ခြင်းမပြုခဲ့ပါ။ သူတို့သည် သူတို့၏ အတ္တကို လွှင့်ထုပိုင်ခွင့်လည်း ရှိခဲ့သည်။ သို့ရာတွင် ယင်းသူတို့သည်အလ္လာဟ်အရှင် မြတ်၏ မြင့်မြတ်မှုကို ခံယူကာ သူတို့၏အတ္တကို နောက်ဆုတ်ထားခဲ့ကြသည်။

သူတို့သည် သူတို့၏ခေါင်းဆောင်မှုကို လွှင့်ထုပိုင်ခွင့်လည်း ရှိခဲ့ကြသည်။ သို့ရာတွင် ယင်းသူတို့သည် မိမိကိုယ်ကို မိမိလက်ဖြင့် ဆွဲချခဲ့ကြသည်။ ထိုမှ အမှန်တရားကို လွှင့်ထုခြင်းဖြင့် ဝိတ်အမြိုက်ကို ရယူခဲ့ခြင်း ဖြစ်သည်၊ ဤကဲ့သို့သော ရှုပ်များကို ရွေးချယ်ခြင်းမပြုဘဲ ထားလျှင် မှန်ကန်ပါမည်လော။ ဤသို့သော အခြေအနေကောင်းကို ဖန်တီးယူရန် လွတ်လပ်သော ဝန်းကျင်ရှိဖို့ လိုအပ်သည်။ ထိုမှတစ်ဆင့် ယင်းပတ်ဝန်းကျင်ကို တည်ဆောက်နိုင်ဖို့ အတားအဆီးများကို ကြံ့ကြံ့ခံနိုင်ရပါမည်။ အစ္စလာမ်၏ ဒဿဝါဟ် ဖိတ်ခေါ်မှုသည် ဤကဲ့သို့သော မြင့်မြတ်လှသော ရှုပ်များကို ရှာဖွေရယူခြင်းပင်ဖြစ်ပါသည်။

## အစ္စလာမ့်တော်လှန်ရေး

ကမ္ဘာပေါ်တွင် နိုင်ငံရေးနှင့် ယဉ်ကျေးမှုတော်လှန်ရေးသည် အစ္စလာမ့် ဖိတ်ခေါ်မှု ဒါဝဟ်နှင့် ရည်ညွှန်းချက်မဟုတ်ပါ။ သို့ရာတွင် နိုင်ငံရေးရာနှင့် ယဉ်ကျေးမှုတော်လှန်ရေးသည် အစ္စလာမ့်ဒါဝဟ်ဖိတ်ခေါ်မှုကြောင့် ပြောင်းလဲဖြစ် ထွန်းလာရကြောင်းတွေ့ရမည်။ လူ့အဖွဲ့အစည်းတစ်ရပ်တွင် အလ္လာဟ် အတွက် အသက်ရှင်ရပ်တည်သူနှင့် အရှင့်အတွက် အသက်ကို စွန့်လွှတ်သူတို့ ပေါ်ထွန်းလာသောအခါ ယင်းအုပ်စုဝင်တို့သည် သဘာဝအားဖြင့် ယင်းအချိန် ကာလ၏ နိုင်ငံရေးရာနှင့် ယဉ်ကျေးမှုတိုးတက်ဖြစ်ထွန်းမှု၏ ဦးစီးအဖြစ် သတ်မှတ်ခံရစမြဲဖြစ်သည်။

အစ္စလာမ့်လူ့အဖွဲ့အစည်းနိုင်ငံတော်နှင့် အစ္စလာမ်၏စည်းစနစ်သည်

ယင်းသူတို့လက်ဝယ်သို့ အုပ်ချုပ်ရေးအာဏာ လက်ကိုင်ရရှိမှု ဖြစ်ထွန်းလာခြင်း ဖြစ်သည်။ ယင်းသူတို့သည် အလ္လာဟ် လမ်းညွှန်ချက် တရားရှေ့ မှောက်တွင် နာခံသူအဖြစ် လက်နက်ချကာ အလ္လာဟ့်အထိန်းအကွပ်အောက်တွင် လှုပ်ရှားသူများ ဖြစ်ကြသည်။ ယင်းသူတို့၏ ဖြစ်လိုရာသည် အလ္လာဟ်အရှင်မြတ် ဖြစ်စေလိုသည် သာရှိ၏။ ယင်းသူတို့၏ စိတ်ကူးယဉ်စိတ်ခံစားချက်နှင့် ခံစားရမှုများသည် အာခိရသ် သဘောတွင် အမြုပ်ခံလိုက်ကြ၍ ဤလောကဝေစုတွင် သူတို့အတွက် ဘာမျှ ရယူလိုစိတ်မရှိသည့်အသွင် ဖြစ်လာပါသည်။ အခြားသူတို့၏ ခံစားရမှုများကို သူတို့၏စိတ်တွင် တည်ဆောက်ပေးလေ့ရှိသည်။

ဤသို့သောလူ့အဖွဲ့အစည်းတည်ဆောက်ဖြစ်ထွန်းမှုသည် လောကီအကျိုး ကို စွန့်လွှတ်ကာ အာခေရသ်အတွက် အဓိကထားသော လှုပ်ရှားမှုကို ရှာကြံပြု လုပ်သူတို့မှ ဖြစ်ထွန်းပေါ်ပေါက်လာရခြင်းဖြစ်သည်။ ဤသည် ဆုပ္ပအကြမ်းဖက် မှုအားဖြင့် ဖြစ်ပေါ်လာခြင်းမရှိသည်ကို သတိပြုအပ်သည်။ ဤဆုပ္ပမှုကို အစ္စလာမ်ကို အသုံးချ၍ ပြုလုပ်လေ့ရှိကြသည်။ ယင်းသူတို့သည် သစ္စာတရားကို ဖန်းပြုပြီး မိမိတို့၏ အစုအဝေးအတွက် အကျိုးစီးပွား ရှာဖွေသူများ ဖြစ်ကြသည်။ ဤသို့သော လှုပ်ရှားဆုပ္ပမှုများဖြင့် မည်သည့်အကျိုးတရားများ ရယူနိုင်မည် မဟုတ်ဘဲ လူတစ်စု အကျိုးကို သယ်ပိုးခြင်းသာ ဖြစ်ပေသည်။

## တမန်တော် အန်ဘီယာတို့၏ လုပ်ဆောင်မှုတာဝန်

အစ္စလာမ်၏ လှုပ်ရှားမှုနည်းစဉ်သည် တစ်မျိုးတည်းသာရှိသည်။ ယင်းနည်းစဉ်သည်ကား သောင်ဟီးဒ် သဘောတရားကို လူသားတို့စပ်ကြား တင်ပြပို့ဆောင်ခြင်းပင် ဖြစ်သည်။ လူတစ်ဦးစီကို သောင်ဟီဒ် သဘောတရားတွင် ခိုင်မြဲသော ယုံကြည်မှုဖြစ်လာအောင်ပြုရေးသည်ပင်လျှင် လူသားတို့၏ သမိုင်း တစ်လျှောက် အန်ဗိယာတမန်တော်တို့ ထမ်းဆောင်ခဲ့ကြသော တာဝန်ရပ်ဖြစ် ပေသည်။ ယင်းသောင်ဟီဒ်သဘောတရားကို တင်ပြသူများနှင့် ယင်းအပေါ်တွင် ရပ်တည်သူတို့သည် သူခေတ်သူ့ကာလက အသက်စတေးခံခဲ့ကြရသည်။

သောင်ဟီဒ်သဘောတရားကို ဆွဲကိုင်လှုပ်ရှားသူ တို့သည် မီးတောင်ကိုဖြတ်ကျော်ခဲ့ရသည်။ ခန္ဓာကိုယ်အစိတ်အပိုင်းများ ဖြတ်ခံခဲ့ကြရသည်။ ဤသို့ဖြစ်ရခြင်းနှင့် အဖိနှိပ်ခံရခြင်း၏ အကြောင်းရင်းက ထိုစဉ်ကာလက ရှိရက်တဖက်ကိုးကွယ်မှုသည် လွှမ်းမိုးထိန်းချုပ်နေရ၍ဖြစ်သည်။ ထိုမှုသာမက နိုင်ငံရေးပုံစံသည်ပင်လျှင် ရှိရက်ပေါ်တွင် အခြေခံထားသည်ကို တွေ့မြင်နိုင်သည်။ အတိတ်ခေတ်က အုပ်ချုပ်မင်းလုပ်သူ ပဒေသရာဇ်တို့က သူတို့သည် နတ်ဒေဝတာတို့၏ အဆက်အနွယ်ဖြစ်သည်ဟု လိမ်လည်ခြိမ်းခြောက် သွေးဆောင်ကာ ပြည်သူတို့ကို အုပ်ချုပ်ထိန်းချုပ်ခဲ့ကြသည်။ ထိုမှုမကဘုရင်၏ကိုယ်ခန္ဓာတွင် ဘုရားသခင်စိမ့်ဝင်စားသယောင် လှည့်စားခဲ့ကြသည်။ ဤသို့ပြုလုပ်ရခြင်း၏ အဓိကရည်ရွယ်ချက်ကား သောင်ဟီးဒ်ကို တင်ပြသော ပုဂ္ဂိုလ်တို့က တစ်ပါးတည်းသော အရှင်ဝါဒကိုဖိတ်ခေါ်လေ့ရှိလာလျှင် ယင်းတင်ပြသောအရှင်သည် ဘုရင်ပဒေသရာဇ်တွင် ဝင်စားတည်ရှိနေသည်ဟု လှည့်ဖျားနိုင်ရန်ဖြစ်သည်။ ဤသို့အားဖြင့် ယင်းသူတို့၏ အုပ်ချုပ်ရေးကို မည်သူကမျှ တိုက်ခိုက်မရနိုင်အောင် ပြည်သူတို့ကို အယုံသွင်းခြင်းပင်ဖြစ်ပေသည်။ ထို့ကြောင့်လည်း သောင်ဟီးဒ်ကို တင်ပြသော ပုဂ္ဂိုလ်တို့ကို ရန်သူအဖြစ် သတ်မှတ်လျှက် နှိမ်နင်းချေမှုန်းပစ်ခြင်းပင် ဖြစ်သည်။

ဤအတိတ်က အစဉ်အလာကို အလ္လာဟ်အရှင်မြတ်က ဖျက်သိမ်းပစ်လိုက်သည်။ သို့ဖြစ်၍ နောက်ဆုံးတမန်တော်မြတ် မုဟမ္မဒ် ﷺနှင့် ဆွဟာဗီရောင်းရင်းရဲဘော် တို့ကို အောက်ပါအတိုင်း ဆုမွန်တောင်းခံရန် သွန်သင်ပြသခဲ့သည်။

ربنا ولا تحمل علينا إصرا كما حملته على الذين من قبلنا

''အို–အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုးတို့ကို ဖန်ဆင်းပြုစုပျိုးထောင်ပေးသောအရှင် ကျွန်တော်မျိုးတို့အပေါ်သို့ အတိတ်ကာလက လူတို့အပေါ်ထားရှိသော ဝန်ထုပ်မျိုးကို ချပေးခြင်းမရှိပါစေနှင့်။ ( ၂ း ၂၈၆ )

ဤဆုမွန်သည် အလ္လာဟ်အရှင်မြတ်၏ ဆုံးဖြတ်ချက်ကို ပေါ်လွင် စေပါ

သည်။ ဤသည်အနာဂတ်တွင် ဖြစ်ထွန်းလာမည့် တော်လှန်ပြောင်းလဲဖြစ်ထွန်းမှု အတွက် နိမိတ်လက္ခဏာပင်ဖြစ်သည်။ အနာဂတ်ခေတ်ကာလတွင် အာဏာချုပ်ကိုင်သူ တို့သည် ရှိရိတ်နှင့် ပေါင်းစည်းထားမှုကို ပြုလုပ်နိုင်မည်မဟုတ်ကြောင်းလည်း ပြဆိုနေသည်။ အနာဂတ်ခေတ်ကာလအုပ်ချုပ်ရေးစနစ်သည် နိုင်ငံရေးဆိုင်ရာ ယုံကြည်ချက်ဖြစ်မည်။ ဘာသာရေးဆိုင်ရာ ယုံကြည်ချက်မဟုတ်ဟူ၍လည်း သိမြင်နိုင်သည်။ ဤအလ္လာဟ်အရှင်၏ စနစ်ဖယားကို ဖြစ်ထွန်းလာမှုအတွက် ကျမ်းတော်မြတ်ကုရ်အာန်တွင် အောက်ပါအတိုင်း လမ်းညွှန်ပြသထားသည်ကို တွေ့ရသည်။

قاتلو هم حتى لا تكون فتنة ويكون الدين كله لله

မုရှိရိက်တို့နှင့် လုပ်ကြံသော ပြဿနာရပ်များ ကုန်ဆုံးပြီးပြတ်သည်အထိ တိုက်ခိုက်ပါလေ။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်၏ ဒီန်လမ်းညွှန်ချက်သည် အားလုံးအတွက် ဖြစ်သွားပါစေသတည်း။ ( ၈ း ၃၉ )

ဤဖော်ပြပါ ကျမ်းတော်မြတ်တွင် သုံးစွဲထားသော فتنة ၏ အဓိပ္ပာယ်က ဆန်းစစ်မှုအတွက် စမ်းသပ်ချက်ဖြစ်သည်။ فتن فلا ناعن رايه အဓိပ္ပာယ်က အဆိုပြုမှုကို မျက်နှာလွှဲပစ်ခြင်းဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်၏ ဖော်ပြချက်တစ်ရပ်တွင်မူဆာနဗီကို သူ၏ လူ့အဖွဲ့အစည်းဝင်တို့အနက် မျိုးဆက်သစ် လူငယ်တချို့မှအပ မည်သူကမျှ လက်ခံခြင်းမရှိခဲ့ပါ။ လူ့အဖွဲ့အစည်းဝင်တို့တွင် ဖာရိဘုရင်နှင့် လူ့အဖွဲ့အစည်း ခေါင်းဆောင်တို့သည် ဤသို့ ယုံကြည်လာမှုကို ထုတ်ဖော်ခြင်းဖြင့် ငြင်းပယ်နှိပ်စက်မည်ကို စိုးရိမ်နေကြခြင်းဖြစ်သည်။ (ယူနုစ် း၈၃) ဤအာယတ်တွင် يفتنهم ان ဟု သုံးစွဲထားသည်။ အဓိပ္ပာယ်က ငြင်းပယ်နှိပ်စက်အပြစ်ပေးခြင်းပင် ဖြစ်သည်။ သို့ဖြစ်လေရာ فتنة ၏ အဓိပ္ပာယ်ဆိုလိုရင်းသဘောက အင်္ဂလိပ်စကားအားဖြင့် Persecution ပင်ဖြစ်သည်။ အဓိပ္ပာယ်က မည်သည့်ယုံကြည်ချက်နှင့် သဘောတရားကို စွဲကိုင်ထားမှု အပေါ် အကြောင်းပြု၍ ငြင်းပယ်နှိပ်စက်ခြင်းပင်ဖြစ်သည်။

သို့ဖြစ်လျှင် ဤပြဆိုချက်တွင် ဖိသ်နာဟ်فتنة ဟူသည် ဘယ်အရာလဲ၊ ယင်းကို ကုန်ဆုံးသွားအောင်ပြုရေးကို အမိန့်ပေးထားသည်။ ဤသည် ရှိရိက်၏ ဖိသ်နာဟ်ပင်ဖြစ်သည်။ သို့ဖြစ်၍ ကျမ်းတော်မြတ်ကုရ်အာန်၏ သဖ်စီရ်ရှင်တို့က ဖိသ်နာဟ် فتنةကို ရှိရိက်ဟူ၍ ဖွင့်ဆိုဖော်ပြခြင်းဖြစ်သည်။

သို့ရာတွင် ဤဖော်ပြချက်သည် စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်လာသော ရှိရိက်ကို ဆိုခြင်းကို သဘောပေါက်ဖို့ လိုအပ်လှသည်။ ဤသို့ကြီးထွားလာသော ရှိရိက်သည် အတားအဆီးကို ဖြစ်ထွန်းစေသည်။ حتى لا تكون فتنه ၏အဓိပ္ပာယ် က حتى لا يفتن رجل عن دينه စဉ်ဆက် မပြတ်ကြီးထွားဖြစ်ထွန်းဖွံ့ဖြိုးလာသော ရှိရိက်ကို တိုက်ခိုက်ကာ အမြစ်ပျက် အောင်ပြုခြင်း၊ ဒီန်လမ်းညွှန်မှုတရား၏ ရှေ့မှောက်တွင် ရှိရိက်သည် အင်အားမဲ့ မှေးမှိန်လာပြီး သောင်ဟီးဒ်သည် ဒီန်လမ်းညွှန်ချက်တရားအဖြစ် ဤလောကကြီးတွင်တည်ရှိကာ ထိန်းချုပ်မှုအဖြစ် တည်မြဲနေရန် ဖြစ်ပေသည်။

ရှိရိက်သည် မူလအစဦးပိုင်းတွင် ဒဿနာသဘောတရား သက်သက်သာ ဖြစ်သည်။ အတိတ်ကာလက ယင်းရှိရိက်သည်ဖိသ်နာဟ်فتنةအဆင့်သို့ ဆင့်ကဲ ရောက်ရှိလာခဲ့သည်။ ဤသို့ဖြစ်ရခြင်းမှာ ရှေးယခင်ကာလက လူတို့၏ တွေးခေါ်မှုတွင် ရှိရိက်သည် လွှမ်းမိုးလျက်ရှိနေခြင်းကြောင့် ဖြစ်သည်။ လောကအမြင်ကို ရှုမြင်သုံးသပ်ရာတွင် ရှိရိက်ရှုဒေါင့်မှ ရှုမြင်ကြခြင်းဖြစ်သည်။ ဤရှုမြင်မှုသည် နိုင်ငံအုပ်ချုပ်ရေးယန္တရားကိုပင်လျှင် ထိန်းချုပ်ထားသည်။ လူတို့သည် နေနှင့်လကဲ့သို့သော သဘာဝလောကကြီး၏ အစိတ်အပိုင်းကို ကိုးကွယ်စရာအဖြစ် အမြင်ထားရှိကြသည်။ အုပ်ချုပ်မင်းလုပ်သော မင်းမျိုးမင်းနွယ်ဝင်တို့သည် ယင်းနတ်ဗြဟ္မာတို့၏ အဆက်အနွယ် သားသမီးအဖြစ် အယုံသွင်းကာ ကြောက်စိတ်မွေးစေခဲ့သည်။

သောင်ဟီးဒ်ကို မြွက်ဆိုသော ဒါအီတို့က ကိုးကွယ်စရာဟူ၍ အလ္လာဟ် အရှင်မြတ်တစ်ပါးတည်းသာရှိကြောင်း ကျန်လောကကြီး ရှိ အရာဝတ္ထုမှန်သမျှသည် အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းခံများဖြစ်ကြောင်း အလင်းပြဆိုသောအခါ

ယင်းအုပ်ချုပ်ရေး လူတန်းစားတို့ကလည်း သူတို့သည် နတ်ဘုရားများ၏ သားသမီးများဖြစ်ကြောင်း ပြန်လည်၍ ချေပပြောဆိုက ယင်းဒါဒီတို့ကို လုံးဝပျောက်သွားအောင် ချေမှုန်းလေ့ရှိခဲ့ကြသည်။

အာရေဗျနှင့်ဝန်းကျင်ဒေသအဝှမ်းတွင် သောင်ဟီဒ်ကို အခြေခံသော အစ္စလာမ်တော်လှန်ရေးကြီးသည် ပေါ်ထွန်းလာပြီး ရှိရ်က်ကိုအမြစ်မှစ၍ နှုတ်သိမ်းပစ်ခဲ့သည်။ ဤသို့အားဖြင့် ရှိရ်က်လွှမ်းမိုးမှုသည် မှေးမှိန်ပျောက်ကွယ်ခဲ့ရသည်။ ထိုမှတစ်ဖန် ရှိရ်က်သည် လူပုဂ္ဂိုလ်တို့၏ ကိုယ်ရေးကိုယ်တာ ယုံကြည်ချက်အဖြစ် ဘောင်ကျဉ်းလာခဲ့ရတော့သည်။ အတိတ် ကာလက ရှိခဲ့သော လူ့အဖွဲ့အစည်းပေါ် ထိန်းချုပ်ထားမှုသည် လက်လျှော့ခဲ့ရတော့သည်။ သို့ဖြစ်၍ ရှိရ်က်၏ အာဏာဆုပ်ကိုင်ထားမှုသည် ပျက်ပြုတ်လွင့်စင်သော အခြေသို့ရောက်ရှိခြင်း ဖြစ်သည်။ ရှိရ်က်ကိုဆွဲကိုင်၍ အာဏာရရှိအောင်ပြုရေးသည် မလွယ်ကူသော အခြေသို့ ရောက်ရှိခြင်း ဖြစ်တော့သည်။

ကမ္ဘာ့သက်ရှိသမိုင်း၏ စာမျက်နှာတွင် ဤပြောင်းလဲဖြစ်ထွန်းမှုသည် ပထမဦးဆုံး အကြိမ် ဖြစ်ရသည်ကိုလေ့လာ တွေ့မြင် နိုင်သည်။ ဤပြောင်းလဲဖြစ်ထွန်းလာမှု၏ အကျိုးဆက်နှစ်ရပ်သည် အလွန်ထင်ရှားသော အသွင်ဖြင့် ပေါ်ထွန်းလာတော့သည်။ယင်းအနက်တစ်ခုက ကိုးကွယ်ထိုက်သောအရှင်သည် တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်ဖြစ်ခြင်းနှင့် အလ္လာဟ်အရှင်မြတ်မှတစ်ပါး ကျန်အရာအားလုံးသည် အရှင်၏ဖန်ဆင်းထားသောဖန်ဆင်းခံများသာလျှင်ဖြစ်ခြင်း။ ဤသို့မြင်လာမှုကြောင့် လူသားတို့သည် သဘာဝလောကကြီးကို အထွတ်အမြတ်ထားပူဇော်ပသမှုသည် ပျောက်ပျက်ရတော့သည်။ယခင်ကမူ လူသားတို့သည် အံ့ဖွယ်ရာ သဘာဝဖြစ်စဉ်များကို ကြောက်ရွံ့ပြီး ပူဇော်ပသခြင်းဖြင့် အကာအကွယ်ယူခဲ့ကြသည်။ ယခုမူ ဤသဘာဝလောကကြီးသည် လူသားတို့အတွက် အသုံးချအသုံးပြုစရာအရာများ အဖြစ် မြင်လာကြသည်။ ( ၂ း ၂၉ )

خلق لكم ما في الأرض جميع

သို့ဖြစ်၍ လူသားတို့သည် ပထဝီမြေကြီးရှိ အရာဝတ္ထုများနှင့်

သဘာဝလောကကြီးရှိ အရာများကို စူးစမ်းလေ့လာမှု ပြု၏။ ယင်းနောက် အသုံးချနည်းများကိုလည်း ရှာကြံလာကြသည်။ ဤလူသားတို့၏ အတွေးအခေါ် ပြောင်းလဲဖြစ်ထွန်း လာမှုသည်ပင်လျှင် ဝတ္ထုပစ္စည်းများကို ကြောက်ရွံ့မှု ပပျောက်စေကာ စူးစမ်းမှုဖြင့် သိပ္ပံခေတ်ကို စတင်လိုက်ခြင်းဖြစ်သည်။

နောက်ထပ်ပြုပြင်ပြောင်းလဲလာမှုတစ်ခုက ပဒေသရာဇ်မင်းတို့၏ သက်ဦးဆံပိုင်စနစ်သည်အရှိန်လျော့နည်းလာတော့သည်၊ ဤသဘောတရား၏ သက်ရောက်မှုကြောင့်သမ္မတစနစ်သည် စတင်လာခြင်းဖြစ်သည်။ လူသားအားလုံးသည် အားလုံး တစ်ပြေးညီသော အနိမ့်အမြင့်မဲ့သော လူသားဝါဒအမြင်ရှိလာကြသည်။ အားလုံးတပြေးညီသော အနိမ့်အမြင့်မဲ့သော လူသားဝါဒအမြင်ရှိလာကြသည့် အလျောက် လူသားသည် လူသာလျှင် ဖြစ်သည်။ ကိုးကွယ်ရာအရှင်မဟုတ်မှန်း သိမြင်လာသောအသိကြောင့် ယခင်က မိမိကိုယ်ကို နတ်ဘုရားတို့၏ အရိုင်အာဝါသ ဘုရားသခင်၏ ဆွေတော်မျိုးတော်ဟူ၍ လိမ်လည်မှုသည်လည်း ယခုအခါ ပေါ်လွင် လာကြသည်။ ယင်းသူတို့အတွက် ပထဝီမြေကြီးသည် ကျဉ်းမြောင်းလာတော့သည်။

ဤတော်လှန်သော အသိအမြင်ကို ဖြစ်ထွန်းစေမှု တော်လှန်ရေးသည် အာရေဗျတိုက်နယ်ရှိ မဒီနာမြို့တော်မှ စတင်ခဲ့ခြင်းဖြစ်သည်။ ထိုမှတစ်ဖန် ဒမာစ်ကစ်မြို့၊ ဘဂ္ဂဒတ်မြို့၊ စပိန်၊ စီစလီကျွန်းဒေသမှ တစ်ဆင့် ထိုခေတ်ကာလက ကမ္ဘာကြီးဟု ဆိုအပ်သောဒေသအနှံ့သို့ရောက်ရှိသွားတော့သည်။ ဤသို့ဆန်းသစ်သောအမြင်၊ ဆန်းသစ်သောတော်လှန်ရေးဒဿနသည်များပြောက်လှစွာသော အခက်အခဲနှင့် အခမ်းအသပ်ကို ကျော်ဖြတ်ခဲ့ရသည်။သို့ရာတွင်ခရီးစဉ်ကမူ ပန်းတိုင်ဆီသို့ကျော်ဖြတ်နိုင်စွမ်းရှိခဲ့သည်။အတိုက်အခံပြုသော အင်အားစုများသည် သူတို့၏ကြိုးပမ်းမှုများကိုအောင်မြင်အောင်အတားအဆီးမပြုနိုင်ခဲ့၊ ယင်းရှေးဟောင်း ဝါဒီတို့သည် မူလကရှိခဲ့သော အခြေအနေဆီးကို ပြန်လှည့်စေပါရန်အမျိုးမျိုးကြိုးစားခဲ့သည်။အတိတ်ကရှိခဲ့သော ပဒေသရာဇ်သက်ဦးဆံပိုင်ဘုရင်များဖြစ်ကြသော နမရုဒ်နှင့်ဖာရိုတို့ကဲ့သို့သူတို့ဖို့ရာတွင် ယင်းသူတို့၏ အတိတ်နေရာဌါနီကို ပြန်လှည့်နိုင်စွမ်းမရှိတော့ပေ။

## မွတ်စလင်မ်ကမ္ဘာမှ အနောက်ကမ္ဘာသို့အလှည့်အပြောင်း

ဤခရီးဖြစ်ထွန်းသော တိုးတက်လာသောခေတ်ကြီးသည် မွတ်စလင်မ်ကမ္ဘာတွင်နှစ်ပေါင်း ၁၀၀၀နီးပါးရှိခဲ့သည်။ခရစ်သက္ကရာဇ်၁၆ ရာစုနှစ်သို့ရောက်သောအခါ အခြေအနေသည် တစ်မျိုးပြောင်းလဲလာခဲ့ရသည်။ မွတ်စလင်မ်တို့၏စည်းလုံးနေမှုနှင့် ညီညွတ်ခြင်းပျက်ပြားလာမှုကြောင့် ဘဂ္ဂဒတ်ရှိခေလာဖတ်စနစ်ဟုဆိုသော အဗ္ဗာဆီယာမင်းဆက်သည် ပျက်သုဉ်းခြင်းကို ရောက်ခဲ့သည်။ဤကဲ့သို့ပင် စပိန်နယ်မြေကို မွတ်စလင်မ်တို့ အုပ်ချုပ်နေမှုသည်လည်း လက်လွှတ်ဆုံးရှုံးခဲ့ရပြန်သည်။ ဤသို့အားဖြင့်တစ်ကွဲတပြားဖြစ်နေသော မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့ကိုဦး ဆောင်သူမရှိသောအခြေသို့ရောက်ရှိလာတော့သည်။ယင်းမွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့သည် ပညာရေးနှင့်သိပ္ပံဘာသာရပ်ဆိုင်ရာသုတေသနများကို စူးစမ်းမှုပြုခဲ့သည့် အစဉ်အဆက်လုပ်ဆောင်မှုကိုယခုတော့ထောက်ပံ့နေမည်သူမဲ့ခဲ့ရပြီးဖြစ်သည်။

သို့ဖြစ်၍တတ်သိပညာရှင်ကြီးသိပ္ပံပညာရှင်ကြီးများနှင့် ဒဿနပညာရှင်တို့သည် တစ်ဖြေးဖြေး အနောက်ဖက်ရှိ အီတလီနှင့် ပြင်သစ်နိုင်ငံဖက်သို့ ပြောင်းရွှေ့ကြတော့သည်။ ဥရောပတိုက်တွင်ယင်းတတ်သိပညာရှင်တို့ကို အထိုက်လျောက်အားပေးခြင်းကိုခံခဲ့ရသည်။ဤသို့အားဖြင့် ယခင်ကမွတ်စလင်မ်ကမ္ဘာတွင်ဖြစ်ထွန်းတိုးတက်သောသိပ္ပံနှင့်ဝိဇ္ဇာဘာသာရပ်ဆိုင်ရာသုတေသနပြုမှုများသည် ဥရောပတိုက်တွင်ဖြစ်ထွန်းလာခဲ့ရသည်။သို့ရာတွင်ဤတတ်သိပညာရှင်တို့သည် ဥရောပတိုက်သို့ရောက်ရှိပြီးနောက် သူတို့တွင်ပြောင်းလဲမှုများဖြစ်လာခဲ့ရသည်။ မွတ်စလင်မ်ကမ္ဘာတွင်ရှိစဉ်က ဤသိပ္ပံနှင့်ဝိဇ္ဇာဘာသာရပ်ဆိုင်ရာစူးစမ်းမှုများသည် အစ္စလာမ်နည်းပေးလမ်းညွှန်မှုအောက်တွင်ဖြစ်ခဲ့ရသော်လည်း ဥရောပတိုက်တွင်မူ အစ္စလာမ်နှင့်စပ်လျဉ်းသော အကြောင်းအရာများကို သူတို့အနေဖြင့် စိတ်ဝင်စားခြင်းမရှိ၊ သို့ဖြစ်၍ယင်းဘာသာရပ်ဆိုင်ရာ များကို အစ္စလာမ်ခွဲထုတ်ပစ်လိုက်ကြသည်။

ဤသို့ခွဲထုတ်ပစ်လိုက်ကြသော်လည်း ဥရောပတိုက်တွင် အစ္စလာမ်ရေးရာဒဿနအမြင်နှင့် အာရပိစာပေသည် ခရစ်ယာန်ဆိုင်ရာအယူအဆများကို

လွှမ်းမိုးနိုင်ခဲ့သည်။ **မာတင်လူသာ [ခရစ်သက္ကရာဇ် ၁၄၈၃–၁၅၄၆]** သည် အစ္စလာမ် သဘောတရားကို အကြောင်းပြု၍ ဥရောပတိုက်တွင်ပေါ်ထွန်းခဲ့သော ခရစ်ယာန်ပြုပြင်ပြောင်းလဲရေးခေါင်းဆောင်တစ်ဦးဖြစ်သည်။သူ၏ပြုပြင်မှုကို အကြောင်းပြု၍ခရစ်ယာန်ဘာသာတွင်ယခင်ကပုပ်ရဟန်း၏ချုပ်ကိုင်မှုသည် ပျက်ပြားခဲ့ရသည်။သို့ရာတွင် ဝိဇ္ဇာဘာသာရပ်နှင့် သိပ္ပံဘာသာရပ်ဆိုင်ရာတွေးခေါ်မှုနှင့် လှုပ်ရှားမှုများသည်ဘာသာရေးကိုအခြေမခံသောအမြင်ဖြင့် ပေါ်ထွန်းလာခြင်းဖြစ်တော့သည်။

ယနေ့မြင်ရသောခေတ်သစ်သိပ္ပံနှင့် ဒီမိုကရေစီစနစ်၏ အရင်းအမြစ်ဖြစ်ထွန်းလာမှုသည်အစ္စလာမ်တော်လှန်ရေးမှစတင်ခဲ့ခြင်းဖြစ်သည်။သို့ရာတွင်အနောက်တိုင်းသားတို့သည်ယင်းတို့ကို ဘာသာမဲ့သောအတွေးအမြင်မှ စသည်ဟု ဆိုကြခြင်းဖြစ်သည်။စင်စစ်အားဖြင့်ဆိုရသော်၊ အနောက်တိုင်းကမ္ဘာ၏ရုပ်ပိုင်း ဆိုင်ရာတိုးတက်မှုအလုံးစုံသည် အစ္စလာမ်၏ လောကီလူမှု ဘဝဆိုင်ရာသွန်သင်မှုများကို အခြေခံကြောင်းတွေ့မြင်နိုင်ပါသည်။ ဤသဘောကို ဥပမာအားဖြင့် ဖော်ပြရလျှင် အိုင်းစတိုင်း၏နူကလီယားသဘောတရားကို စစ်မက်တိုက်ခိုက်ခြင်းတွင် သုံးစွဲသကဲ့သို့ ကါလ်မာစ်၏သဘောတရားမှ စီးပွားရေးဆိုင်ရာပုံဖော်မှုကဲ့သို့သော အမြင်နှင့် သဘောတူညီပါသည်။

## ခေတ်သစ်ပြုပြင်ပြောင်းလဲမှုတော်လှန်ရေးတွင် အစ္စလာမ်၏ ပါဝင်ပတ်သတ်မှု

ခေတ်သစ်အနောက်တိုင်းကမ္ဘာ၏ ပြုပြင်ပြောင်းလဲမှုတော်လှန်ရေးသည် အစ္စလာမ်၏ပို့ချသော သွန်သင်ချက်မှ ပေါက်ဖွားခြင်းဖြစ်ပေသည်။ ယင်း၏ ဖြစ်ထွန်းလာမှု အစ္စလာမ်သဘောတရားအပေါ် လွှမ်းစွာမှုပင် မှီတင်းနေပါသည်။ ဤဖြစ်ထွန်းလာမှုတော်လှန်ရေးသည် အစ္စလာမ်အမြင်ဖြင့်ရှုမြင်ကြည့်လျှင် ယင်းသည် အလ္လာဟ်အရှင်မြတ်က ကျွန်ုပ်တို့ကို သွန်သင်ပြသသော ဆုမွန်ဒိုအာ၏ ပြည့်စုံမှုပင်ဖြစ်ပေသည်။

''အို–အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုးတို့ကို ဖန်ဆင်းပြုစု မျိုးထောင် ပေးသောအရှင် ကျွန်တော်မျိုးတို့အပေါ်သို့ အတိတ်ကာလက လူတို့အပေါ် ထားရှိသော ဝန်ထုပ်မျိုးကို ချပေးခြင်းမရှိပါစေနှင့်။'' ( ၂ း ၂၈၆ )

ဤတော်လှန်ရေး၏ ဖြစ်ထွန်းလာမှုကြောင့် ကျွန်ုပ်တို့၏ လူမှုဘဝ ဆိုင်ရာတွင် သက်ရောက်ပြုပြင် ပြောင်းလဲလာမှုများသည် အောက်ပါအတိုင်းဖြစ် ပါသည်။

(၁) ရှေးအခါက ပဒေသရာဇ်တုရင် အုပ်ချုပ်သူတို့သည် ပြည်သူတို့ကို သူတို့ သည် နေလနတ်တို့မှ ဆင်းသက်လာသော မျိုးဆက်ဖြစ်သည်ဟု လိမ်ညာအယုံသွင်း ၍ အုပ်ချုပ်ခဲ့ကြသည်။ သို့ဖြစ်၍လည်း အစ္စလာမ်မတိုင်ခင် ခေတ်လွန်ပိုင်းကာလတွင် သောင်ဟီဒ်သဘောတရားတင်ပြခြင်းသည် အုပ်ချုပ်သူတို့ကို နိုင်ငံရေးအရ အံတုသည့်အဖြစ်နှင့် ကြုံနေရသည်။ သို့ဖြစ်၍လည်း အုပ်ချုပ်မင်းလုပ်သူတို့၏ နှိပ်ကွပ်မှုကို ခံရတော့သည်။ အစ္စလာမ်၏ တော်လှန်ရေးအသိအမြင်များကြောင့် ဥရောပတိုက်တွင် ဒီမိုကရေစီ စနစ်အတွက် တော်လှန်သည့် အမြင်များရလာကြ သည်။ ဤသို့အားဖြင့် ပဒေသရာဇ်စနစ်၏ ချုပ်ကိုင်မှုသည် အစဉ်အမြဲအတွက် ဥရောပမှ ပျောက်ပျက်ခံခဲ့ရသည်၊ ယနေ့ခေတ်ကာလတွင် ဥရောပတိုက်သားတို့သည် ဘာသာရေးချုပ်ကိုင်မှု မပါဘဲ သူတို့၏ ကြိုက်နှစ်သက်သော ရွေးချယ်ရေးစနစ်ဖြင့် အုပ်ချုပ်ကြသည်။ ဤသို့အားဖြင့် သောင်ဟီးဒ်သဘောတရားကို တင်ပြမှုသည် မည်သည့် အတားအဆီးချုပ်ကိုင်မှု မပါရှိသော နည်းလမ်းကြောင့် သမိုင်းကြောင်းမှ ဖယ်ရှားပစ်ခြင်းပင် ဖြစ်တော့သည်။

(၂) ရှေးအခါက သဘာဝအင်အားစုများဖြစ်ကြသော နေ၊ လ၊ပင်လယ် သမုဒ္ဒရာစသည်တို့ကို အလွန်ထွန်းမြတ်သောအရာများအဖြစ် သတ်မှတ် ဆည်းကပ် ကြသည်။ အစ္စလာမ်တော်လှန်ရေးအမြင်ဖြစ်သော သောင်ဟီးဒ်၏ အခြေခံကြောင်း ဥရောပတိုက်တွင် သဘာဝလောကကြီး၏ ဖြစ်ပျက်ဖြစ်ထွန်းမှုများသည် တန်ခိုးရှင်၏ လုပ်ရပ်ဟုမမြင်တော့ပဲ သဘာဝလောက ကြီး၏ ဖြစ်စဉ်စနစ်ဖယားဟူသော အသိ အမြင်သည် ပေါ်ထွန်းလာခဲ့ရသည်။ ယခင်ကာလက ကိုးကွယ်ဆည်းကပ်နေရသော အရာများသည် ယခုသုတေသနဆန်းစစ်နေရသော အရာဝတ္ထုအဖြစ်သို့

ရောက်ရှိသွားတော့သည်။ ဤသို့အားဖြင့် သိပ္ပံနှင့် နည်းပညာပိုင်းဆိုင်ရာ တော်လှန်ရေးသည် ပေါက်ဖွားလာရခြင်းဖြစ်သည်။

ဤသို့အားဖြင့် များပြောင်လှစွာသော အင်အားစုများသည် လူတို့၏ အထိန်အကွပ်အောက်သို့ ရောက်ရှိလာတော့သည်။ ဤတော်လှန်သော အသိအမြင်ကြောင့်လျင်မြန်သော ယာဉ်ရထားများ၊ လျင်မြန်သော ဆက်သွယ်ရေးယန္တရားများသည် လူသားတို့၏ အသုံးအဆောင် ဖြစ်လာရသည်။ ဤပေါ်ထွန်း ဖြစ်ပေါ်လာမှုသည် လူသမိုင်းအတွက် ပထမဦးဆုံး အကြိမ်အဖြစ် ယုံကြည်ချက်တစ်ရပ်၏ ဖြန့်ချိအသိပေးမှုနှင့် ဒါအ်ဝဟ်နည်း စဉ်ကို နိုင်ငံတကာအဆင့်ဖြင့် ပြုလုပ်နိုင်သော အခွင့်အလန်းသည် ပေါ်ထွန်းလာခြင်းဖြစ်တော့သည်။ အလ္လာဟ်အရှင်မြတ်၏ ဒီးန်လမ်းညွှန်ချက်တရားသည် ဘောင်ခတ်ထားသော နယ်ပယ်ကို ကျော်လွှားပြီး နိုင်ငံတကာအဆင့်သို့ တိုးမြှင့်ပြုလုပ်နိုင်ခွင့်ကို ရရှိလာတော့သည်။

(၃) ဤအစ္စလာမ်တော်လှန်ရေး၏ ထိုးဖောက်ပေးသော အသိအမြင်များကြောင့် သဘာဝလောကကြီး၏ ဖုံးကွယ်နေသော မြင်ကွင်းများ ပေါ်ထွန်းလာခဲ့ရသည်။ ဤသည် သောဟ်ဟီဒ်သဘောတရားကို ကျယ်ကျယ်ပြန့်ပြန့် ပြသနိုင်သော အခြေအနေ ကောင်းကို ဖန်တီးပေးသကဲ့သို့ ဖြစ်နေသည်။ ဤတွေ့ရှိချက်များသည် ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသော သဘာဝဖြစ်စဉ် သာဓကများသက်သေလက္ခဏာများကို ကျယ်ပြန့်စွာရှုမြင်သုံးသပ်မှုအတွက် သဖ်ဆိရ် ဖွင့်ဆိုချက်ဖြစ်လာသည်။ ထို့ကြောင့် လူ့သမိုင်းတွင် ပထမဦးဆုံး အကြိမ်အဖြစ် သဘာဝဖြစ်စဉ် ဖြစ်ရပ်များသည် အတိတ်ခေတ်ကာလ သဘာဝလွန် ဖြစ်ရပ်သတ်မှတ်ချက်ကို ပြောင်းလဲပေးသောဖြစ်စဉ်အဖြစ် ရှုမြင်ရတော့သည်။ အစ္စလာမ်၏ စစ်မှန်သော ဖော်ပြရှင်းလင်းချက်များကို မျက်မြင်တွေ့ရသော ရှုမြင်ရချက် များအဖြစ် တင်ပြနိုင်ပြီး ဖြစ်သည်။

(၄) ဤအစ္စလာမ်တော်လှန်ရေး အသိအမြင်အားဖြင့် ပင်လျှင် လူ့သမိုင်းတွင် ပထမဦးဆုံးအဖြစ် ယထာဘူတနည်းကျ စဉ်းစားဆင်ခြင်သုံးသပ်သော သိပ္ပံနည်းကျစူးစမ်းသောဘာသာရပ်သည် ပေါ်ထွန်းလာသည်။ ဖြစ်ရပ်များကို

စဥ်းစားတတ်သောအမြင်ဖြင့် သုံးသပ်၍ရသောအသိကို ဖြစ်ထွန်းလာစေ တော့သည်။ သဘာဝလောကကြီးကို ရှုမြင်သုံးသပ်လေ့လာရသော အသိအမြင်သည် မှန်ကန်သောအချက်အလက်များကို စဥ်းစားသုံးသပ်မှုမှာ ပေါ်ထွန်းလာရသည်။

ယနေ့ ကမ္ဘာအဝှမ်းတွင် ဤအသိသည် ပြန့်ပွားလက်ခံလာနေကြပြီးဖြစ်သည်။ ဖြစ်ရပ်များကို ယုံကြည်ချက်သက်သက်ဖြင့် လက်ခံခြင်းမဟုတ်တော့ဘဲ ဆန်းစစ်တွေးခေါ် ဆင်ခြင်တတ်သော နည်းစဥ်သည် ပြောင်းလဲဖြစ်ထွန်းလာခဲ့ရသည်။ယခင်ကမူကြောက်ရွံ့သော မိရိုးဖလာအမြင်ဖြင့် လေ့နှံ့ခါးထစ်ယုံကြည်မှုရှိခဲ့သည်။ သို့ဖြစ်၍လည်း မိမိတို့ ယုံကြည်ရာ အယူဝါဒကို သမိုင်းကြောင်းအရလည်းကောင်း ဆင်ခြင်တတ်သော သိပ္ပံပညာအမြင်များဖြင့် သုံးသပ်နေကြပြီးဖြစ်သည်။ ဤသို့ ဆန်းစစ်လေ့လာမှုကြောင့် အစ္စလာမ်သည် သာလျှင် သမိုင်းကြောင်းနှင့် လူတို့၏ ဆင်ခြင်တတ်မှုပေါ် အခြေခံ၍ရသော ယုံကြည်ချက်ဖြစ်ကြောင်း သိမြင်လာရတော့သည်။

## အနောက်တိုင်း၏ မွတ်စလင်မ်ကမ္ဘာပေါ်သို့ လွှမ်းမိုးမှု

မွတ်စလင်မ်ကမ္ဘာသည် **ခရူးဆိတ်စစ်ပွဲ(အေဒီ ၁၀၉၅-၁၂၇၁)**တွင် ခရစ်ယာန် အနောက်တိုင်းကမ္ဘာကို စစ်ရေးအရ အနိုင်ယူ နိုင်ခဲ့ကြသည်။ ဤစစ်ပွဲ၏ အောင်မြင်ရမှု၏နောက်ပိုင်းတွင် အနောက်တိုင်းကမ္ဘာတွင် ပြုပြင်ပြောင်းလဲမှု စတင်နေကြပြီးဖြစ်သည်။ အနောက်တိုင်းလောကသားတို့ သူတို့၏ အရေးနိမ့်ဆုံးရှုံးရမှုသည် မွတ်စလင်မ်ကမ္ဘာကြီး၏ ပညာရေးနှင့် တွေးခေါ်မှုဆိုင်ရာ၏ အားသာချက်ကြောင့်ဖြစ်သည်ဟု မြင်တွေ့ခဲ့ရသည်။

သို့ဖြစ်၍ ခရူးဆိတ်စစ်ပွဲနောက်ပိုင်း အနောက်တိုင်းသားတို့သည် မွတ်စလင်မ်တို့၏ ပညာရေးနှင့်အရဗီစာပေဖက်သို့ ဦးလှည့်ခဲ့ကြသည်။ ယင်းနောက်ပိုင်း မွတ်စလင်မ်ကမ္ဘာတွင် ဖြစ်ပျက်ခဲ့ရသော စစ်ပွဲများကြောင့် တတ်သိပညာရှင်ကြီးများသည် ဥရောပတိုက်ရှိ နိုင်ငံများသို့ ရွှေ့ပြောင်းလိုက်ကြသောအခါ ဥရောပတိုက်တွင် ပညာရေးအခြေအနေသည် လျှင်မြန်သောအရှိန်ဖြင့်

တိုးတက်လာတော့သည်။ ဤသို့ ကြီးပမ်းမှု၊ စူးစမ်းမှုနှင့် လုံ့လကြောင့် ဥရောပတိုက်သည် မွတ်စလင်မ်ကမ္ဘာကို ကျော်လွှားပြီး မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့သည် နောက်ကျကျန်ရစ်ခဲ့ရသည်။

ယင်းနောက်ပိုင်းကာလတွင် ဥရောပတိုက်သားတို့သည် မွတ်စလင်မ်ကမ္ဘာအတွင်းသို့ ခြေကုတ်ဝင်ရောက်လာခဲ့ရာ ၁၉ရာစုနှစ်အတွင်း မွတ်စလင်မ်ကမ္ဘာတစ်ခုလုံးသည် ခရစ်ယာန်ဥရောပသားတို့၏ အထိန်းအကွပ် အောက်သို့ လုံးဝဥဿုံ အညံ့ခံရသည့်အခြေအနေသို့ ရောက်ရှိသွားတော့သည်။

ဤနိုင်ငံရေးအရ ဖြစ်ပေါ်လာသော အခြေအနေအရပ်ရပ်ကြောင့် ဖော်ပြပြီးဖြစ်သော အခြေအနေကောင်းများကို အစ္စလာမ်ဒါဝသ်ဖိတ်ခေါ်မှုဆိုင်ရာတွင် သုံးစွဲအသုံးချခွင့်မရှိအောင် ဖြစ်ရတော့သည်။ တစ်ချိန်က ခရူးဆိတ်စစ်ပွဲတွင် အရှုံးဖြင့် ပြန်လှည့်ခဲ့ရသော ဥရောပတိုက်သားတို့ မွတ်စလင်မ်တို့၏ ပိုင်နက်အတွင်းသို့ ဝင်ရောက်လာသည်ကို မြင်ရသော အခါ မွတ်စလင်မ်ကမ္ဘာတွင် အနောက်တိုင်းအပေါ် ဒေါသပုန်ထ မုန်းတီးမှုများ ပွားများလာခဲ့ကြသည်။ သို့ဖြစ်၍ မွတ်စလင်မ်ကမ္ဘာတွင် ဥရောပ ကိုလိုနီသမား ဆန့်ကျင်မှုနိုင်ငံရေးသည် အရှိန်ပြင်းစွာ လှုပ်ရှားလာခဲ့သည်။ ဤဆန့်ကျင်မှုဆိုင်ရာ နိုင်ငံရေးကို ပြုရာတွင် လူများစုက အစ္စလာမ်၏ ပံ့ပိုးမှုပြုခဲ့ကြသည်။

ဤအစ္စလာမ်ကို ရှေ့တန်းတင် ပံ့ပိုးမှုသည် ကိုလိုနီများကို တိုက်ခိုက်ပြီး ကိုလိုနီနယ်ချဲ့တို့ ပြန်သွားကြသောအခါ ယင်းဗျူဟာကို ဆက်ခံလာကြသော လက်ရှိအာဏာပိုင် ဆိုင် သူတို့ကို ဆန့်ကျင်ရာတွင် သုံးစွဲကာ အချိန်ဖြုန်းခဲ့ကြသည်။ ဤသို့သော အခြေအနေတွင် အခြေအနေကောင်းများစွာ လက်လွှတ်ဆုံးရှုံးခဲ့ရသည်။ တိုးတက်သော ကမ္ဘာကြီးတွင် မွတ်စလင်မ်တို့အတွက် များပြားစွာသော အခြေအနေကောင်းများကို အစ္စလာမ်၏အောင်မြင်မှုအတွက် အသုံးချနိုင်ခွင့်များ လက်လွှတ်ဆုံးရှုံးခဲ့သည်။အခြေအနေကောင်းများသည် မွတ်စလင်မ်တို့ကို ဒါအ်ဝဟ်ဖိတ်ခေါ်မှု အတွက် အသုံးချနိုင်ဖို့ ကြိုဆိုနေခဲ့သည်။ ဤအခြေအနေကောင်းများကို အသုံးပြု၍ ဒါအ်ဝဟ် ဖိတ်ခေါ်မှုကို ကျယ်ပြန့်စွာ ပြုလုပ်၍ ရနိုင်သည်။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်ကပေးခဲ့သော အခွင့်အရေးများနှင့် အခွင့်အလမ်းများကို မွတ်စလင်မ်တို့သည် မရေရာသော နိုင်ငံရေးတွင် ကုန်ဆုံးစေခဲ့သည်။ ထို့ကြောင့်ဒါဝသ် ဖိတ်ခေါ်မှုလုပ်ငန်းဖက်သို့ ဦးလှည့်ရန် အချိန်မပေးနိုင်ဖြစ်ရခြင်းဖြစ်၏။

## နိုင်ငံရေးရာတော်လှန်ရေး၏ အစ္စလာမ်အမြင်

နိုင်ငံရေးဆိုင်ရာတော်လှန်ရေးဟူသည် အစ္စလာမ် ရှုထောင့် အမြင်တွင် မည်သို့ခံယူထားရှိသည်ကို လေ့လာဖို့ လိုသည်။ အစ္စလာမ်အမြင်တွင် နိုင်ငံရေးရာတော်လှန်ရေးဟူသည် မှန်ကန်သော သစ္စဝါဒီတို့ မုသာဝါဒီတို့အပေါ် အောင်ပွဲခံခြင်းကို ခေါ်သည်။ 'الصف' ဤတော်လှန်ရေးကြီးသည် ကျမ်းတော်မြတ် ကုရ်အာန်၏ လမ်းညွှန်ဖော်ပြချက်အရ အလ္လာဟ်အရှင်မြတ်၏ ပေးကမ်းမှုနှင့် ပံ့ပိုးမှုဖြင့် အောင်ပွဲခံယူရသည်။ وما النصر الا من عند الله

ဤသို့ အလ္လာဟ်အရှင်မြတ်၏ ပေးကမ်းပံ့ပိုးမှု အတွက် အရေးကြီးဆုံး ပြဋ္ဌာန်းချက်သည်ကား ဒါဝသ်ဖိတ်ခေါ်မှုပင်ဖြစ်သည်။ မှန်ကန်သော သစ္စာဝါဒီတို့သည် ဒါဝသ်လုပ်ငန်းစဉ်တွင် မှန်ကန်သော သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်စတင်သောအခါ ယင်းလုပ်ဆောင်မှုဆိုင်ရာ၏ အတားအဆီး များကို ကျော်ဖြတ်ပြီး စရပ်သို့ ဝင်ရောက်ခြင်းဖြစ်သည်။ ယင်းပြုမူဆောင်ရွက်ချက်၏ အောင်မြင်မှုကြောင့် သစ္စာဝါဒီ(အဲဟ်လေ ဟက်)တို့သည် ဆုလာဘ်တော်အတွက် အဆင့်မှီလာသကဲ့သို့ မုသာဝါဒီတို့သည်လည်း ပြစ်ဒဏ်အတွက် ထိုက်တန်မှုကို ခံရတော့သည်။

ဤသို့သော အခြေအနေတွင် အလ္လာဟ်အရှင်မြတ်၏ စနစ်ဇယား သတ်မှတ်ချက်အတိုင်း အခြေအနေအရပ်ရပ် သည် စတင်ပြောင်းလဲလာတော့သည်။ ထို့မှတစ်ဖန် သစ္စာဝါဒီအဲဟ်လေဟက်တို့သည် ပြည့်ဝသော အခြေဖြင့် မုသာဝါဒီတို့ အပေါ်တွင် အပေါ်စီးရယူလွှမ်းမိုးခြင်းကို ရောက်ရှိလာတော့သည်။ **သစ္စာတရားကို အခြေခံသော ဒါအ်ဝဟ်လုပ်ငန်းစဉ်ကို ဦးထိပ်ထားဆောင်ရွက်ခြင်းမဲ့သော** မည်သည့် မွတ်စလင်မ်အုပ်စုဝင်တို့ကမျှ မွတ်စလင်မ်မဟုတ်သော သူတို့အပေါ်

အပေါ်စီး ရယူနိုင်မည်မဟုတ်ပါ။ ဤသည်အလ္လာဟ်အရှင်မြတ်၏ **စွန့်နည်း စဉ် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စွန့်နည်းကို မည်သူကမျှ** ပြောင်းလဲအောင်မပြုနိုင်ပါ။(အန်အာမ်း ၁၃၁)မွတ်စလင်မ်မဟုတ်သော လူ့အဖွဲ့အစည်းဝင်တို့က အပေါ်စီးရယူထိန်းချုပ်မှု သည် အလ္လာဟ်အရှင်မြတ် ဆန်းစစ်မှု ဥပဒေသအရ ဖြစ်ထွန်းလာရခြင်းဖြစ်သည်။ (ယူနွစ် ၁၄)

သို့ဖြစ်၍ အီမာန်ယုံကြည်သူတို့အတွက် အပေါ်စီးရယူမှုသည် ဒီးန်ကို ဖိတ်ခေါ်သော ဒါအ်ဝဟ်နည်းစဉ် ဥပဒေအရ သာလျှင် ဖြစ်ထွန်းလာရသည်။ အကယ်၍ မွတ်စလင်မ်တို့သည် ဒါအ်ဝဟ်ဖိတ်ခေါ်မှုဖြင့် မွတ်စလင်မ်မဟုတ် သောသူတို့ကို မချဉ်းကပ်လျှင် မွတ်စလင်မ်မဟုတ်သောသူတို့ကို အပေါ်စီးရယူလိုမှုကို မျှော်လင့်ချက်မထားသင့်ပေ။ ဒါအ်ဝဟ်တည်းဟူသော လုပ်ဆောင်မှုသည် အပေါ်စီး ရယူမှု၏ တန်ဖိုးဖြစ်သည်။ အကယ်၍ တန်ဖိုးတစ်စုံတစ်ရာ မပေးဆပ်လျှင် ရယူလို သော အရာကို မည်သို့ ရရှိမည်နည်း။

## မွတ်စလင်မ်ကမ္ဘာတွင် နိုင်ငံရေးလှုပ်ရှားမှု

ဟစ်ဂျရီ(၁၄)ရာစု စတင်ချိန်သည် ခရစ်သက္ကရာဇ် (၁၉)ရာစု ကုန်ဆုံး ချိန်ဖြစ်သည်။ (၁၄)ရာစု(ဟစ်ဂျရီ)သည် မွတ်စလင်မ်တို့အတွက် အရေးကြီးသော ထူးခြားမှုဖြစ်ရခြင်းမှာ ဤသည် အစ္စလာမ်တော်လှန်ရေးကြီး၏ နောက်ဆုံးအဆင့် ဟု ခေါ်ရမည့်ခေတ်ဖြစ်၍ပင်။ တမန်တော်မြတ်မှတစ်ဆင့် အလ္လာဟ်အရှင်မြတ်က ပို့ချလမ်းညွှန်သော လူသားတစ်ရပ်လုံးအတွက် ဟိဒါယသ်လမ်းညွှန်ချက်တံခါးကို ဖွင့်ပေးခဲ့သည်။ ဤတာဝန်ရပ်ကို ပြည့်စုံသော အခြေအထိ ရောက်စေနိုင်သော အခွင့်ထူးနှင့် လိုအပ်သောအရာများသည် ပြည့်စုံသောအခြေဖြင့် ကျွန်တော်တို့၏ ရှေ့မှောက်သို့ ရောက်ရှိနေပြီးဖြစ်သည်။

သို့ရာတွင် ကျွန်တော်တို့အတွက် သမိုင်းတစ်လျှောက်အကြီးမားဆုံးသော ဆုံးရှုံးကျဆင်းမှုအဖြစ် မွတ်စလင်မ်တို့၏ အသုံးမကျမှုကြောင့် ယင်းတမန်တော်မြတ် က ဖွင့်လှစ်ခဲ့သော တံခါးကြီးကို ကျွန်တော်တို့ မွတ်စလင်မ်အမည်ခံတို့က

ပိတ်ပစ်ခဲ့ကြသည်။ ဤတံခါးကြီးကို မွတ်စလင်မ်တို့အတွက် နှစ်တစ်ထောင်မျှ ကြိုးပမ်းလှုပ်ရှားမှုကို အကြောင်းပြု၍ ဖွင့်လှစ်ပေးနိုင်ခဲ့သည်။

ပြုပြင်ပြောင်းလဲရေးဆိုင်ရာတော်လှန်ရေးကြီးသည် ဥရောပတိုက်သားတို့ကို ထိုက်တန်သော အင်အားကို ပေးခဲ့သည်။ ယင်းဥရောပတိုက်သားတို့သည်လည်း သူတို့ရရှိသော အင်အားကို ထိုက်တန်စွာ အသုံးချအသုံးပြုခဲ့ကြသည်။ သူတို့သည် သူတို့၏ အမျိုးသားအကျိုးကို ပြည့်ဝသော တည်ဆောက်မှုကို ပြုခဲ့ကြသည်။

မည်သည့်လူမျိုး၊ မည်သည့်လူ့အဖွဲ့အစည်း မဆို ဤရရှိသော အခွင့်အရေးကိုထိုသူတို့ကဲ့သို့ပင်သုံးစွဲမည်မှာ အမှန်ပင်ဖြစ်သည်။ အနောက်တိုင်းသားတို့သည် အင်အားကြီးမားသော နိုင်ငံအဆင့်သို့ ရောက်ရှိလာသောအခါ ယင်းသူတို့တွင် ရှိသင့်ရှိအပ်သော အင်အားသည်လည်း လက်ဝယ်ပိုင်ဆိုင်နေပြီဖြစ်သည်။ သူတို့သည် ကုန်းလမ်းအားဖြင့်လည်းကောင်း ရေကြောင်းအားဖြင့်လည်းကောင်း၊ သူတို့၏ ပထဝီနယ်မြေကို ကျော်၍ သူတို့၏အသံကို စိုက်ထူခဲ့ကြသည်။ သူတို့၏ ယဉ်ကျေးမှုကို အခြားသူတို့အပေါ် ဖြန့်ချိခဲ့ကြသည်။ ဤသို့လုပ်ဆောင်ရာတွင် အတားအဆီးပြုကြသော သူတို့ကို ပြန်လည်ချေမှုန်းဖြစ်ခဲ့ကြသည်။ ငြင်းပယ်နှိပ်စက်ခဲ့ကြသည်။

ဤသို့ ဥရောပသားတို့နှင့် ထိတွေ့ခံစားရသော သူတို့တွင် အများဆုံးအားဖြင့် မွတ်စလင်မ်လူ့အဖွဲ့အစည်းဒေသနိုင်ငံ များပါဝင်ကြသည်။ ထိုစဉ်ကာလက ဥရောပတိုက်ပြင်ပတွင် နိုင်ငံများအဖြစ် မွတ်စလင်မ်တို့ ထိန်းချုပ်သော နိုင်ငံများသာရှိသည်။ အစ္စလာမ်တော်လှန်ရေးကြောင့် ပေါ်ထွန်းတိုးတက်လာခဲ့သော ဥရောပတိုက်ရှိ ဘာသာတရားကိုအခြေခံသောနိုင်ငံများနှင့် မွတ်စလင်မ်နိုင်ငံကို ပထမမိတ်ဆက် အဖြစ် ဆုံတွေ့ကြခြင်းဖြစ်သည်။ မွတ်စလင်မ်တို့အနေဖြင့် ဥရောပတိုက်သားနယ်ချဲ့တို့ကို မွတ်စလင်မ်တို့၏ မူလဂုဏ်ရည်နှင့် အခြေအနေအရပ်ရပ်ကို နှုတ်သိမ်းပြီး အောက်ကျနောက်ကျကျွန်းအဖြစ် သိမ်းသွင်းသူ အဖြစ်မြင်ကြသည်။

ဥရောပတိုက်သားတို့၏ ပြုပြင်ပြောင်းလဲမှုတော်လှန်ရေးကြီးကိုမှ မွတ်စလင်မ်တို့အနေဖြင့် သင်ခန်းစာယူ ခြင်းမရှိခဲ့။ ယင်းဖြစ်ရပ်ပြောင်းလဲမှုများသည် မွတ်စလင်မ်တို့၏ မျက်စိမှ မမြင်နိုင်အောင်ပျောက်ကွယ်ခြင်းဖြစ်ခဲ့ရသည်။ ဤသို့ဖြစ်ရခြင်းမှာ အခြေအနေတစ်ရပ်၏ အကောင်းမြင်ရှုဒေါင့်ကို မသုံးသပ်နိုင်၍ဖြစ်သည်။ ထိုမှတစ်ဖန် ဥရောပတိုက်သားတို့ကို သူတို့၏ နိုင်ငံရေးရာနှင့် စီးပွားရေးရာ တိုးတက်ရေးကို အဟန့်အတားဖြစ်စေသောရန်သူအဖြစ် မြင်လာခဲ့ကြသည်။

ဟစ်ဂျရီ (၁၄)ရာစုနှစ်သည် မွတ်စလင်မ်တို့အတွက် မျှော်လင့်ချက်ရောင်ခြည် ကို ပထမဦးဆုံးပေါ်ထွန်းလာစေခဲ့သော ရာစုနှစ်ဖြစ်သည်။ ဤရာစုနှစ်တွင် မွတ်စလင်မ်တို့အဖို့ မွတ်စလင်မ်မဟုတ်သူတို့ကို လွယ်ကူသောဖြစ်စဉ် ... ယူစ်ရန်ဖြင့် သာသနာ့ဖြန့်ချိရေး ဒါအ်ဝသ်လုပ်ငန်းကို ဆောင်ရွက်နိုင်ခွင့်ကို အလ္လာဟ်အရှင်မြတ်က ပေးခဲ့သည်။ ရှေးယခင်ကာလကမူ ဒါအ်ဝသ်လုပ်ငန်းကို ဆောင်ရွက်ရာတွင် သမိုင်းကြောင်းအရ ခက်ခဲသောဖြစ်စဉ်(အူစ်ရန်)အဖြစ်သာ ဆောင်ရွက်နိုင်ခဲ့သည်။ ထိုမျှမက လူသားတို့အနေဖြင့် သူတို့၏ ကိုယ်ပိုင်အသိအမြင်ဆင်ခြင်တတ်သော အသိအဖြစ် အစ္စလာမ် ယုံကြည်ချက်ကို အခြားသော ယုံကြည်ချက်များနှင့် နှိုင်းယှဉ်သုံးသပ်ဆန်းစစ်ပိုင်ခွင့်လည်း ရှိလာသည်။ ထိုမှတစ်ဖန် လူတို့၏ သိမှုစိတ်ကို စေစားဖွင့်လှစ်သောနည်းစဉ်များဖြင့် အစ္စလာမ်က တင်ပြခွင့်အပြည့်အဝ ရှိလာတော့သည်။

ဟိဂျရီဆယ့်လေးရာစုကာလသည် ကမ္ဘာပေါ်တွင် သွားလာလှုပ်ရှားမှုအတွက် သယ်ယူပို့ဆောင်ရေးအတွက် လျင်မြန်သော ယာဉ်ရထားများနှင့် လူထုဆက်သွယ်ရေးစနစ်များ ပေါ်ထွန်းလာသည်ကို တွေ့ရသည်။ ယင်းအရာများကို သိမ်းသွင်းအသုံးချ၍ အစ္စလာမ်၏ ဒါအ်ဝဟ်လုပ်ငန်းကို နိုင်ငံတကာအဆင့်မြင့် ဆောင်ရွက်နိုင်ခွင့်လည်း ရှိလာသည်။

ဤတိုးတက်သော နည်းစနစ်များကို ကျွန်ုပ်တို့ကိုး ပေးအပ်သော လူအဖွဲ့အစည်းဝင်တို့သည် ကံအားလျော်စွာ ကျွန်ုပ်တို့၏ ရန်သူနှင့် ပြိုင်ဘက်ဖြစ်နေသည်။ သို့ဖြစ်၍ ကျွန်ုပ်တို့သည် ယင်းသူတို့ကို သုံးသပ်ရာတွင် ရန်သူသဖွယ် ရှုမြင်ကြခြင်း

ဖြစ်သည်။ ထိုမှတစ်ဖန် အနောက်တိုင်းလောက၏ ဖြစ်ထွန်းလာမှု ပြောင်းလဲလာသော တော်လှန်ရေးရလဒ်ကို ကျွန်ုပ်တို့၏ အမြင်ရှုထောင့်က တိမ်းပါးသွားခဲ့ရသည်။ စင်စစ်အားဖြင့် ဤဖြစ်ထွန်းလာမှု အလုံးစုံသည် အလ္လာဟ်အရှင်မြတ်က ကျွန်ုပ်တို့အတွက် အခွင့်အလန်းအဖြစ် ပေးအပ်ခြင်းဖြစ်ပေသည်။ ယင်းအခွင့်အလန်းကို အသုံးချ အသုံးပြုခြင်းဖြင့် အနောက်တိုင်းလောကကြီးကို အစ္စလာမ်ဖက်သို့ ဖိတ်ခေါ်ကာ အောင်မြင်မှုကို ရယူနိုင်စွမ်းရှိသည်။

အကယ်၍သာ မွတ်စလင်မ်တို့သည် မှန်ကန်သော အကောင်းမြင်ရှုဒေါင့်ဖြင့် သုံးသပ်နိုင်စွမ်းရှိပြီး ပညာဂုဏ်ရည်အားဖြင့် လုပ်ဆောင်နိုင်ခဲ့လျှင် ဟီဂျရီ(၁၄)ရာစုသည်လည်း ဟီဂျရီ(၈)ရာစုနှစ်ကာလက မွန်ဂိုတာတာတို့ကို သိမ်းသွင်းနိုင်ပြီး အနိုင်ဆွတ်ခူးခဲ့သည့်ဖြစ်ရပ်ကဲ့သို့ သမိုင်းတွင် ပြန်လည်၍ဖြစ်လာမည်မှာ အမှန်ပင် ဖြစ်သည်။ ဟီဂျရီ(၈)ရာစုနှစ်ကာလက တာတာလူမျိုးတို့သည် အလုံးအရင်းဖြင့် အစ္စလာမ်အရိပ်အာဝါသသို့ ဝင်ရောက်လာသည် သမိုင်းအထောက်အထားက သက်သေခံနေဘိသည်။

## မျက်မှောက်ခေတ် အစ္စလာမ်ရေးရာ လှုပ်ရှားမှုများ

မျက်မှောက်လွန် ဟီဂျရီ(၁၄)ရာစုနှစ်ကာလတွင် မွတ်စလင်မ်ကမ္ဘာတွင် များပြောင်လှစွာသော အစ္စလာမ် လှုပ်ရှားမှု အဖွဲ့အစည်းများ ပေါ်ထွန်းလာခဲ့သည်။ အဖွဲ့အစည်းပုံစံများ ကွဲပြားရုံမှအပ အားလုံးလိုလိုပင် လှုပ်ရှားမှု ပြည့်ဝခြင်းမဲ့သော လှုပ်ရှားမှုအဖြစ် တွေ့ရသည်။ ယင်းအဖွဲ့အစည်းတို့တွင် တိကျသော ခံယူထားမှုနှင့် ရည်မှန်းချက်များ ပြည့်စုံခြင်းမရှိခဲ့ပါ။ မျက်မှောက်ခေတ်လွန် အစ္စလာမ်လှုပ်ရှားမှုများသည် အနောက်ကမ္ဘာကို အသိအမှတ်ပြုရာတွင် သူတို့ကို ရန်ပြုသော ရန်သူအဖွဲ့အစည်းနှင့် လူ့အဖွဲ့အစည်းအဖြစ် မြင်ကြသည်။ ဤအနောက်ကမ္ဘာသည် သူတို့အတွက် ပြိုင်ဘက်အဖြစ် သိမြင်ခြင်းလည်း ရှိသည်။ သူတို့မသိမမြင်၊ မျက်ကွယ်ပြုနေသော အချက်သည်ကာ အနောက်ကမ္ဘာသည် ခေတ်သစ်ခေတ်မှီသော အင်အားများကို ပိုင်ဆိုင်သည်ဟူသောအချက်ပင်ဖြစ်သည်။ ဤအနောက်ကမ္ဘာ သည် မွတ်စလင်မ်တို့အတွက် ကောင်းမြတ်သော အကျိုးရှိမှုကို ဖြစ်စေရုံမက

ယင်းသူတို့သည် အတိတ်ကာလက အစ္စလာမ်တော်လှန်ရေးက ပေါက်ဖွား သန္ဓေစင်ပေးလိုက်သော အဖွဲ့အစည်းဖြစ်ကြောင်းကိုလည်း မသိမမြင်ကြပေ။

သို့ဖြစ်၍လည်း မျက်မှောက်လွန်ခေတ်က အစ္စလာမ်ရေးရာ လှုပ်ရှားမှုအဖွဲ့အစည်းများသည် မျှော်လင့်ချက်ရှိသော အလားအလာကောင်းနှင့် အခွင့်အလမ်းများကို ရယူအသုံးချကာ အကျိုးအမြတ်ရအောင် မပြုနိုင်ခဲ့ပါ။ သူတို့သည် အနောက်ကမ္ဘာနှင့် ရင်ဆိုင်ဆန့်ကျင်မှုဖြင့် အချိန်ဖြုန်းခဲ့ကြခြင်းဖြစ်သည်။ ဤပြုမူခြင်းရလဒ်အနေဖြင့် အခြားသော လူ့အဖွဲ့အစည်းဝင်တို့သည် တိကျမှန်ကန်သော အစ္စလာမ်အသိအမြင်နှင့် ဆက်သွယ်ခွင့်မရရှိခြင်းပင်ဖြစ်သည်။ စင်စစ်အားဖြင့် မွတ်စလင်မ်တို့သည် အခြားလူ့အဖွဲ့အစည်းဝင်တို့အတွက် အစ္စလာမ်ရေးရာဖက်သို့ ဖိတ်ခေါ်သူ ဒါဘီများဖြစ်ကြသည်။ သို့ရာတွင် ကျွန်ုပ်တို့သည် ယင်းသူတို့ကို ဖိတ်ခေါ်ရမည့်(မဒ်အူ) အဖြစ် မမြင်ဘဲ ကျွန်ုပ်တို့နှင့် ပြိုင်ဘက်အဖြစ် မြင်နေကြခြင်းဖြစ်သည်။

အစ္စလာမ်ရေးရာ လှုပ်ရှားသူများသည် အာခေရသ်သဘော တရားကို မတင်ပြနိုင်ငံရေးစကားကိုသာ ပြောနေကြသည်။ သို့ဖြစ်၍လည်း ယင်းအဖွဲ့အစည်းက အခြားသူတို့ကို တင်ပြသော အစ္စလာမ်သည် လူမျိုးစုပြဿနာအသွင်ဖြစ်နေပြီး အလ္လာဟ်အရှင်မြတ်၏ ဒီနီလမ်းညွှန်ချက်တရားသည် ပျောက်ဆုံးနေသယောင်ဖြစ်နေသည်။ အမှန်အားဖြင့်ဆိုရသော် အစ္စလာမ်သည် အာခေရသ်ကို အဓိကထားကာ လူသားတို့ကို သူတို့၏ လုပ်ဆောင်မှု ကျင့်ကြံမှုများ၏ ရလဒ်ကို တင်ပြခြင်းသည် အဓိကဖြစ်၍ ဖြောင့်မတ်မှန်ကန်သောလမ်းကြောင်းကို ပြသတင်ပြရမည့်အစား ဖိတ်ခေါ်သူနှင့် ဖိတ်ခေါ်ခံ(ဒါဘီနှင့် မဒ်အူ)တို့ စပ်ကြား ပြိုင်ဘက်အဖြစ် ဆောင်ရွက်နေကြခြင်းဖြစ် သည်။

ဤအစ္စလာမ်လှုပ်ရှားမှုအဖွဲ့အစည်းများသည် မိမိတို့၏ အသိအမြင်ခေါင်းပါးမှုကြောင့် အနောက်ကမ္ဘာကို ရှုမြင်ရာတွင် အနောက်ကမ္ဘာ၏ လက်နက်အင်အားရှိမှုနှင့် အနောက်ကမ္ဘာ၏ ခေတ်မီသောနည်းစနစ်ပညာစွမ်းအားရှိမှုကို ခွဲခြားစွာ သုံးသပ်နိုင်ခြင်းမရှိဖြစ်နေသည်။ ဤအသိခေါင်းပါးမှုကြောင့်ပင်လျှင်

မွတ်စလင်မ်အဖွဲ့အစည်းများသည် ခေတ်မှီသော လူ့အဖွဲ့အစည်းဝင်တို့နှင့် ဆန့်ကျင်ရာတွင် စွမ်းအားလည်းမရှိ အခြေအနေကောင်းကိုလည်း မဖန်တီးနိုင်ဖြစ်နေသည်။ ဤအခြေအနေများကြောင့် နှစ်ပေါင်း(၁၀၀)ကာလအတွင်း အသက်နှင့်ဥစ္စာနေများကို အလဟဿအဆုံးအရှုံးခံနေခြင်းဖြစ်သည်။ ဤသို့သော လုပ်ဆောင်မှုကြောင့် အရှုံးများနှင့်သာ ရင်ဆိုင်ခဲ့ရတော့သည်။ ဤလွဲမှားသော ပြုမူဆောင်ရွက်လာမှုကြောင့် မွတ်စလင်မ်ကမ္ဘာတွင် (Paranoia)ဟုခေါ်သည့် လွဲမှားသော အတုအယောင်ဂုဏ်ရည်ရောဂါစွဲကပ်ခံနေရပြီးဖြစ်သည်။

**ဂုဏ်ဖော်ဝင့်ကြွားမှုမဟုတ်၊ တာဝန်သိမှုသာ ရှိသင့်သည်၊**

၁၉၈၀ခုနှစ်တွင် ပါကစ္စတန်နိုင်ငံ၏ ထိုစဉ်က သမ္မတဗိုလ်ချုပ်ကြီး ဇီယာအုလ်ဟက်က ကုလသမဂ္ဂ၏ အထွေထွေ ညီလာခံတွင် ကမ္ဘာ့မွတ်စလင်မ် သန်းပေါင်း(၁၀၀၀)ကျော်၏ ကိုယ်စားအဖြစ် တစ်နာရီခွဲကျော် မိန့်ခွန်းတစ်ရပ်ကို မြွက်ကြားခဲ့ သည်။ ယင်းမိန့်ခွန်း၏ အပိုင်းတစ်ပိုင်းကို ဖော်ပြလိုပါသည်။

''ယခုမွတ်စလင်မ်လူ့အဖွဲ့အစည်းတစ်ရပ်လုံးသည် အစ္စလာမ်၏ ဟိဂျရီခုနှစ်(၁၅)ရာစုသို့ ဝင်ရောက်နေပြီဖြစ်သည်။ မွတ်စလင်မ်တို့သည် သူတို့၏ ဘာသာတရား သူတို့၏ ကြီးမြင့်လှသော ယဉ်ကျေးမှုနှင့် သူတို့၏ အနှိုင်းမဲ့သော လူ့အဖွဲ့အစည်း နှင့် စီးပွားရေးရာ အဖွဲ့အစည်းများတွင် သူတို့၏ ဂုဏ်ရည်ကို ပြန်လည်၍ ဖော်ထုတ်နိုင်ခဲ့ပြီဖြစ်ပါသည်။ မွတ်စလင်မ်တို့အဖို့ ဤရာစုသစ်သည် သူတို့အတွက် ကဏ္ဍသစ်၊ ခေတ်သစ်အသွင် ပေါ်ထွန်းလာမည်ကို ယုံကြည်ပါသည်။ ဤသို့ဖြစ်ခြင်းမှာ ငြိမ်းချမ်းရေး၊ တရားမျှတခြင်း၊ လူသားအချင်းချင်း ညီတူညီမျှမှုနှင့် သဘာဝလောကကြီးနှင့် ပတ်သက်သော မွတ်စလင်မ်တို့၏ အနှိုင်းမဲ့သော အသိအမြင်များသည် ပြန်လည်၍ ပေါ်ထွန်းလာခြင်းကြောင့် လူသားတို့၏ ကောင်းမြတ်သောလုပ်ငန်း ဆောင်တာတွင် ဝေစုဝေပုံတွင် ပါဝင်ဆောင်ရွက်ခြင်းကို ဖြစ်လာစေပါမည်။''

ဗိုလ်ချုပ်ဇီယာသည် မျက်မှောက်ခေတ် မွတ်စလင်မ်တို့၏ ဂုဏ်ရည်ကို ချီးကျူးရင်းက ပြောဆိုချက်ဖြစ်သည်။ အမှန်အားဖြင့်ဆိုရသော် ဤဖော်ပြ

ချက်သည်ပင်လျှင် မွတ်စလင်မ်တို့၏ ဆုတ်ယုတ်မှုကို ဖုံးကွယ်နေသယောင်ဖြစ်နေသည်။ ဤဖုံးကွယ်မှုက မျက်မှောက်ကမ္ဘာတွင် မွတ်စလင်မ်တို့၏ လှုပ်ရှားကြိုးပမ်းမှုတို့ကို တန်ဖိုးမဲ့အောင်ပြုနေသကဲ့သို့လည်း ဖြစ်နေသည်။ ယနေ့ခေတ်ကာလတွင် တစ်ကမ္ဘာလုံးတွင် အစ္စလာမ်ကို အကြောင်းပြု၍ လှုပ်ရှားမှုများရှိနေသည်။ သို့သော် ဤလှုပ်ရှားမှုသည် ဂုဏ်ဖော်သော လှုပ်ရှားမှုဖြစ်သည်။ တာဝန်ရှိစွာ ကျင့်သုံးအကောင်အထည်ဖော်နေသော လှုပ်ရှားမှုမျိုး မဟုတ်ပါ။ ကျမ်းတော်မြတ်ကုရ်အာန်က ဆိုသည်မှာ လောကီအတွက်တက်မက်လှုပ်ရှားနေမှုသည် ဂုဏ်ဖော်မှုအသိဖြင့် အခြေခံကြခြင်းဖြစ်သည်။ ( ၅၇း၂၀) အာခေရသ်အတွက် လှုပ်ရှားသော လှုပ်ရှားမှုသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်နာခံမှု အေဗာဒဟ် အသိကြောင့် ဖွံ့ဖြိုးတိုးတက်လာရသည်။ ( ၅၁း၅၆) ဂုဏ်ပကာသနဝင့်ကြွားမှုကြောင့် မာန်မာနစိတ်သည် တိုးပွားလာရသည်။ အဗာဒီယသ် နားခံမှုကြောင့် ရိုကျိုးမှုနှင့် တာဝန်သိမှု စိတ်ဓါတ်ပေါ်ထွန်းလာစမြဲပါ။

အစ္စလာမ်လှုပ်ရှားမှု၏ အခြေခံသည် လူသားတို့ကို ဂျဟန္နမ်ငရဲမှ လွတ်မြောက်စေဖို့ သတိပေးခြင်းဖြစ်သည်။ သို့ရာတွင် မျက်မှောက်ခေတ်လှုပ်ရှားနေမှုသည် လောကီအကျိုးမြင့်မြတ်မှု ရရှိရေး စိတ်ဓါတ်အားဖြင့် လှုပ်ရှားကြခြင်းဖြစ်သည်။ အမှန်အားဖြင့် ဤလှုပ်ရှားမှုသည် အမျိုးရေး ဦးမော့ရေးသာလျှင် ဖြစ်သည်။ ယနေ့ခေတ်ကာလတွင် မွတ်စလင်မ်တို့အဖို့ အစ္စလာမ်သည် ဂုဏ်ယူဝင့်ကြွားနေစရာသက်သက် ဖြစ်နေသည်။ ယင်းအချက်တွင် အာခေရသ်အသိမပါပါ။ ဤသည် လူပုဂ္ဂိုလ်တို့၏ ယုံကြည်ချက်ဖြစ်နေပြီ အလ္လာဟ်အရှင်မြတ်၏ ဒီးန်ဖြစ်မလာပါ။ အကြောင်းမှု အမျိုးရေးအသိဖြင့် အစ္စလာမ်ကို မြင်မှုတွင် ဂုဏ်ဖော်မှုသာလျှင်ရမည်။ အလ္လာဟ်အရှင်မြတ်၏ အသိစိတ်ဖြင့် အစ္စလာမ်ကို မြင်လာပါမှ တာဝန်သိစိတ် ရရှိလာကြမည်ဖြစ်သည်။

စစ်မှန်သော အစ္စလာမ်စသည် လူတို့ကို ရိုကျိုးမှုနှင့် နာခံတတ်မှုကို ဖြစ်စေပါသည်။ ဤသို့အားဖြင့် ကောင်းမြတ်သော ကျန်အင်လက္ခဏာအလုံးစုံသည် ပေါ်ထွန်းလာစမြဲ ဖြစ်သည်။ အကြောင်းမှု အစ္စလာမ်သည် မကောင်းမှုဒုစရိုက်၏

ဆန့်ကျင်ဘက်ဖြစ်နေ၍ပင်။ သို့ဖြစ်၍ ဤစစ်မှန်သော ယုံကြည်ချက်ထားရှိသော မွတ်စလင်မ်တစ်ဦးတွင် အလ္လာဟ်သိစိတ်၊ အာခေရသ်ကို မျှော်လင့်သိမြင်ခြင်း၊ အချင်းချင်းချစ်ခင်ရိုင်းပင်းမှုရှိခြင်း၊ တစ်ဦးကိုတစ်ဦးအမြဲအကောင်းဖြစ်စေမှု စိတ်ဓါတ်၊ ပြစ်တင်မှုကို ရှောင်ကြဉ်ခြင်း၊ အပြုသဘောဆောင်သော လုပ်ငန်းရပ်တွင် အာရုံစိုက်ခြင်း၊ အခွင့်အရေးနှင့်ရပိုင်ခွင့်ကို အဓိကမထားပဲ တာဝန်ပိုင်းကို ဂရုပြု ဆောင်ရွက်ခြင်း စိတ်ဓါတ်နိုးကြားဖြစ်ထွန်းလာခြင်း၊ ဤသို့သော အသိစိတ်ဓါတ်ရှိ သူများ လူ့အဖွဲ့အစည်းတွင် စုစည်းမိကြသောအခါ သူတို့၏ ဝန်းကျင်အသိုင်းအဝန်း တွင် ထိပ်ဆုံးနေရာသို့ ရောက်ရှိကြစမြဲပါ။

ဤသို့မဟုတ်ဘဲ လူမျိုးရေး ရှေ့တန်းတင်သော အစွလာမ်ဘန်းပြသူတို့ အဖို့ရာတွင် ဂုဏ်ရည်ဖော်ထုတ်မှု စိတ်ဓါတ် သည် လွှမ်းမိုးလာသည်။ ဤသို့အားဖြင့် ယင်းစိတ်ဓါတ်ကြောင့် မကောင်းမှုဒုစရိုက်သာအဖတ်တင် ကျန်ရစ်တော့သည်။ ယင်းသူတို့သည် မိမိကိုယ်ကို အမွန်းတင်မှုစိတ်ဖြင့် အာခေရသ်ကို မေ့လျော့ကာ အမှားများကို ထပ်တလဲလဲ ကျူးလွန်လာမည်ဖြစ်သည်။ မိမိ၏ အမှားကို ရှုမြင်သုံး သပ်ခြင်းမဲ့က အခြားသူတို့၏ အမှားကိုသာ မြင်တွေ့ဝေဖန်လာမည်။ ထိုမှာဆက်၍ ညီညွတ်ရေး ပျက်ပြားခြင်းဖြစ်လာပြီး ပဋိပက္ခများနှင့် ကြုံတွေ့ရမည်ဖြစ်သည်။ ယင်းသူတို့သည်ဆိပ်ငြိမ်စွာပြုရသော အပြုသဘောဆောင် သည့်လုပ်ငန်းကို စိတ်ဝင် စားခြင်းမရှိပါ။ အခြားသူတို့ကို ပြစားမှု၊ ထင်ပေါ်အောင် အထင်ကြီးလာ အောင်ပြုသော အစီပွာယမ်မဲ့ သော လုပ်ဆောင်ချက်ကိုသာ လုပ်ဆောင်လာ လေ့ရှိကြသည်။ အခြေအနေအရပ်ရပ်ကို သုံးသပ်မှုမရှိ နောက်ပြန်လှည့်ခြင်း လည်းမရှိပဲ တဖွတ်ထိုးရှေ့သို့ ချီလိုစိတ်သာလျှင် သူတို့တွင် ရှိနေတတ်သည်။

သူတို့လုပ်ဆောင်သောအဖိုးမတန်သော လုပ်ဆောင်နေမှုက ကြီးကျယ် သော စကားလုံးများဖြင့် အထင်အမြင်ကြီးလာစေရန်နှင့် သူတို့၏ မြင့်မြတ်မှုကို အသိအမှတ်ပြု ရန် ကြိုးစားလေ့ရှိကြသည်။ ယင်းသူတို့အတွက် အစွလာမ်ဟူသည် အပြောသာဖြစ်မည့် အလုပ်မဟုတ်နိုင်ပါ။ ယင်းသူတို့၏ လုပ်ဆောင်မှုကြောင့် အလ္လာဟ်ထံမှရပ်မယ်နှင့်နှစ်ရပ်တည်းဟူသော ဖေးကမ်းမှုကို မရနိုင်ပါ။ ယင်းသူတို့

အပေါ်တွင် အလ္လာဟ်အရှင်မြတ် ဂဇာဝ်အပြစ်ဒဏ်သာလျှင် ရောက်လေ့ရှိတတ်သည်။

ယဟူဒီတို့၏ ဇီယွန်နစ်ဝါဒသည် ရှေးယခင်က တည်ရှိခဲ့သော ယဟူဒီလူမျိုးဝင်တို့၏ ဂုဏ်ရည်လက္ခဏာကို ပြန်လည်ပေါ်ထွန်းလာစေဖို့ လှုပ်ရှားသောလှုပ်ရှားမှုဖြစ်သည်။ RSS သည်ဟိန္ဒူယဉ်ကျေးမှု နိုင်ငံတော်နှင့် လူ့အဖွဲ့အစည်းကိုပြန်လည်ဖော်ထုတ်လှုပ်ရှားမှုဖြစ်သည်။ ဤကဲ့သို့ပင် မွတ်စလင်မ်တို့တွင်လည်းအတိတ်က ကြီးမားကျယ်ပြန့်လှသော ခန့်ငြားသော သမိုင်းဖြစ်စဉ်ရှိနေသည်။ ယနေ့မျက်မှောက်ခေတ် အဖွဲ့အစည်းများသည် ယင်းဂုဏ်ယူမဆုံးဖြစ်နေသောအခြေအနေဟောင်းကို ပြန်လည်ရောက်ရှိလာပါဖို့ စိတ်ဓါတ်ပြင်းပြလျက်ရှိနေသည်။

ယဟူဒီတို့နှင့် ဟိန္ဒူတို့၏ ဖော်ပြပါ လှုပ်ရှားမှုသည် ဘာသာရေးကိုအခြေခံကြသော်လည်း ယင်းလှုပ်ရှားမှုသည် စင်စစ်အားဖြင့် ဘာသာရေးလှုပ်ရှားမှုမဟုတ်၊ ဤသည်တို့သည် လူမျိုးရေးနှင့် အမျိုးသားလှုပ်ရှားမှုသာလျှင်ဖြစ်သည်။ ဤကဲ့သို့ပင် မွတ်စလင်မ်တို့၏ ယင်းကဲ့သို့ လှုပ်ရှားနေမှုသည်လည်းယုံကြည်ချက် ဆိုင်ရာ လှုပ်ရှားမှုမဟုတ်ပဲ ထိုသူတို့ကဲ့သို့ပင် လူမျိုးရေးနှင့်အမျိုးသားရေးလှုပ်ရှားမှုအသွင်သာဖြစ်ကြောင်း သတိပြုသင့်သည်။ အရေးအကြီးဆုံးသောအချက်သည်ကား အလ္လာဟ်အရှင်မြတ်သည် မည်သည့်ဆောင်ရွက်နေမှုဖြစ်ပါစေ ရည်ရွယ်ချက်ကို သိမြင်သောအရှင်ဖြစ်သည်။ သို့ဖြစ်၍ အမျိုးသားရေးကိုအသွင်ဆောင်သော လှုပ်ရှားမှုကို အလ္လာဟ်အရှင်မြတ်က အမျိုးသားရေးအဖြစ်သာလျှင် အသိအမှတ်ပြုမည်ဖြစ်သည်။ မည်၍ မည်မျှပင် ကျမ်းတော်မြတ်ကုရ်အာန်နှင့် တမန်တော်မြတ်၏ ဟဒီးစ်သြဝါဒတော်ဆိုင်ရာ စကားလုံးများကိုလိုရာစွဲသုံးစွဲသည်ဖြစ်ပါစေ၊ ဤသည် အမျိုးသာရေး လှုပ်ရှားမှုသာဖြစ်သည်။ အစ္စလာမ်ရေးရာ လှုပ်ရှားမှုဖြစ်မလာပါ။ ဤသို့သော လုပ်ဆောင်ချက်များသည်အလ္လာဟ်အရှင်မြတ်ကပေးထားသော ကတိတော်ကိုလည်းရမည်မဟုတ်။ ဤကတိတော်ကို ရယူလိုပါလျှင် စစ်မှန်သော အစ္စလာမ် လှုပ်ရှားမှုကို ချမှတ်ရမည်ဖြစ်သည်။

သစ်ပင်တစ်ပင်သည် သူ၏ အခြေအမြစ်မျိုးစေ့မှ စတင်ပေါ် ထွန်းလာလာစမြဲပါ။ ပလပ်စတစ်ဖြင့် ပြုလုပ်ထား သော မျိုးစေ့တုအားဖြင့် သစ်ပင်ဖြစ်မလာပါ။ ဤကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်၏ ကတိတော်အတိုင်း အောင်မြင်ဖြစ်ထွန်းမှုကို ခံယူနိုင်ရန် စစ်မှန်သော အစ္စလာမ်အခြေခံအရင်းအမြစ်ကို ချမှတ်ပေးရမည်ဖြစ်သည်။

အစ္စလာမ်လှုပ်ရှားမှု၏ အရင်းအမြစ် သဘောက အလ္လာဟ်အရှင်မြတ်ကို သိမြင်အောင်ပြုရေးပင်ဖြစ်သည်။ ဤသဘောတရားသည် အာခေရသ်သဘောကို ဤလောကကြီးပေါ်တွင် စတင်တည်ဆောက်သည်။ သဘာဝလောကကြီးတွင် ဖြစ်ထွန်းလှုပ်ရှားနေသော အလ္လာဟ်အရှင်မြတ်၏စနစ်ဖယားကို အီမာန်ရှင်က ဤလောကကြီးတွင် တည်ဆောက်ပြသသည်၊ဤသို့အားဖြင့် ကိုယ်ကျင့်တရား၏ အထွတ်အမြတ်ကို လူသားတို့တွင် ပေါ်ထွန်းလာစေတော့သည်။

မိုအ်မင်န်ဟူသည် အလ္လာဟ်အရှင်မြတ်၏ ပထဝီမြေကြီးပေါ်တွင် ပေါ်ထွန်းလာသော စိမ်းလန်းစိုပြေသော သစ်ပင်ပမာဖြစ်သည်။ မိုအ်မင်န်တို့၏ အစုအဝေးသည် ယင်းစိုပြေလှသော သစ်ပင်များကို ပျိုးထောင်တည်ရှိရာ ဥယျာဉ်ခြံကြီး နှင့် အလားတူသည်။ အကယ်၍ လွဲမှားသော ပုံဖော်မှုဖြင့် လှုပ်ရှားမှုကို ဒါအ်ဝဟ်ဟုဆိုလျှင် ဤသည် အုတ်ကြားမြက်သာ ဖြစ်လိမ့်မည်။ ယင်းကို ဥယျာဉ်ဟု သတ်မှတ်မရပါ။ ယင်းသူတို့သည် အလ္လာဟ်အရှင် ရှေ့မှောက်တွင် တရားခံအဖြစ်သာလျှင် ရပ်တည်ရမည်ဖြစ်သည်။

အခန်း(၅)

# အစ္စလာမ်ကိုအပေါ်စီးရယူလိုမှု

မျက်မှောက်ကမ္ဘာ့မွတ်စလင်မ်လောကကြီးသည် အတိတ်ကာလ အစ္စလာမ် စတင်ပြီးချိန်က ရရှိခဲ့သော အစ္စလာမ် ဂုဏ်ရောင်ကို ပြန်လည်ပေါ်ထွန်းလာစေရန် မျှော်လင့်တောင့်တနေကြသည်။ယင်းအားသစ်လောင်းသော ဉာဏ်သစ်လောင်း အရေးတော်ပုံကြီးကိုမွတ်စလင်မ်ထုကြီး က စောင့်မျှော်နေကြသည်။ ဤပေါ်ထွန်းဖြစ်ပေါ်လာမှုနှင့် ပတ်သက်သော မေးခွန်းသည် အကြီးမားဆုံးသော ပြဿနာကြီး အသွင်ရှိနေသည်။ သို့ရာတွင် ယင်းဖြစ်ထွန်းလာရေးအတွက် စိတ်ခါတ်တက်ကြွမှု ဖြစ်ပေါ်လာစေသောဆန္ဒများ ပြင်းထန်လှသော်လည်း ဤအတိတ်ကို ပြန်လည်း ဖြစ်ထွန်းလာစေရန် လိုအပ်ချက်များကိုမူ စိတ်ကူးဆုံးဖြတ်သတ်မှတ်နိုင်စွမ်းမှု မရှိဖြစ်နေသည်။

အုပ်စုတစ်စုသည် မွတ်စလင်မ်ထုကို အစ္စလာမ်၏ ဖဇာအိလ်နှင့် သဘာဝ လွှန်ပုံပြင်များကို ဟောပြောရင်းက ဗလီဝတ်ကျောင်းများတွင် ပရိသတ်များ လျှံနေအောင် ပြုနေကြသည်။ ဤသို့ပြုခြင်းအားဖြင့် လောကကြီးတစ်ခုလုံးကို အောင်မြင်နိုင်မည်ဟု မျှော်လင့်နေကြခြင်းဖြစ်သည်။ ဤသို့သော စဉ်းစားမှုသည် ဥုံဖွနည်းဖြင့် ဟေမာဝန္တတောင်ကြီးကို နေရာမှ ရွှေ့သွားအောင်ပြု သယောင်ဖြစ် သည်ကို သူတို့မသိမြင်ကြပေ။

နောက်ထပ် အုပ်စုတစ်စုက ကြီးမားလေးလံသော စကားလုံးများ ကဗျာဆန်သော အကြောင်းအရာများသည် ပြဿနာ၏ ဖြေရှင်းမြစ်ရှာဖွေခြင်းဟု မှတ်ယူနေကြသည်။သူတို့မေ့နေကြသော အချက်သည်ကား ဤလောကကြီးတစ်ခုလုံး သည် အလ္လာဟ်အရှင်မြတ်၏ ဥပဒေစနစ်ဖယားအားဖြင့် လှည့်ပတ်ဖြစ်ထွန်းလာနေ သည်ဟူသော အချက်ပင်ဖြစ်သည်။ ဤလောကကြီးတွင် စကားလုံးလှလှဖြင့် အခြေအနေကိုပြောင်းလဲ၍ မရနိုင်သောအချက်ကို သူတို့ဂရုပြုနိုင်စွမ်းမရှိပေ။

နောက်ထပ်အုပ်စုတစ်စုက ရှိပါသေးသည်။ ယင်းသူတို့က အုပ်ချုပ်မင်းလုပ်နေသောအာဏာပိုင်များကို အာဏာမဲ့အောင်ပြုခြင်းအားဖြင့် အစ္စလာမ့်ဂုဏ်ရောင် ကို ထွန်းပြောင်အောင်ပြုနိုင်မည်ဟု မြင်တွေ့နေကြသည်။ ဤသို့ပြုမှုခြင်းသည် နိုင်ငံရေးရာ ပြဿနာတစ်ရပ်ကို အပြောင်းအလဲဖြစ်စေရုံသာဖြစ်သည်။ ယင်းသည် အစ္စလာမ်ကို လက်ခံသော အုပ်စုဝင်များကို လူတို့အနေဖြင့် တစ်မျိုးတစ်မည် အထင်လွဲခြင်းသာဖြစ်စေမည်ဟူသောအချက်ကို သူတို့အနေဖြင့် စဉ်းစားဟန်မတူပေ။

## အာဏာပြောင်းလဲဆုပ်ကိုင်မှု၏ ဥပဒေ

ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြသည်မှာ အုပ်ချုပ်ရေးအာဏာအလုံးစုံကို အလ္လာဟ်အရှင်မြတ်က ပိုင်ဆိုင်သည်။ အလ္လာဟ်အရှင်မြတ်အလိုရှိသောသူကို အုပ်ချုပ်ရေးအာဏာပေးအပ်ခြင်းဖြစ်သည်။ ( ၃ း၂၆)

သို့ဖြစ်၍ ဤဖော်ပြပါ လမ်းညွှန်ချက်ကိုမှုတည်၍ စဉ်းစားရလျှင် ဤကမ္ဘာလောကကြီးတွင် အုပ်စုတစ်ခုက အာဏာဆုပ်ကိုင်ရရှိမှုသည် ရိုးရိုးဖြစ်ရပ်သဘောမဟုတ်ပါ။ ဤသည်အလ္လာဟ်အရှင်မြတ်၏ ဆုံးဖြတ်ချက်သတ်မှတ်ပေးမှုဖြစ်နေသည်။ အုပ်စုတစ်စုသည် အပေါ်စီးရရှိနေမှုသည် နောက်အုပ်စုတစ်စု၏ နိမ့်ကျမှု၏ တန်ဖိုးမှ ဖြစ်ပေါ်လာခြင်းဖြစ်သည်။ ဤသို့သောဖြစ်ထွန်းလာစေဖို့ရန် လောကကြီးတွင် အကြောင်းအရာ ဖြစ်ထွန်းပြောင်းလဲလာမှုသည် အုပ်စုတစ်ခုအတွက် အခွင့်အလန်းနှင့် အာဏာရရှိအောင်နည်းလမ်းဖြစ်ပြီး နောက်ထပ်အုပ်စုတစ်စုအတွက် အာဏာလက်လွှတ်ဆုံးရှုံးမှုအတွက် အကြောင်းအရာဖြစ်သည်။

လူ့အဖွဲ့အစည်းတွင် ဤကဲ့သို့သော ဖြစ်ရပ်များသည် အကြောင်းအရာတစ်စုအပေါ်တွင် အခြေခံ၍ ဖြစ်ပေါ်လာလေ့ရှိ သည်။ မွတ်စလင်မ်လူ့အဖွဲ့အစည်းဖြစ်စေ၊ မွတ်စလင်မ်မဟုတ်သူဖြစ်စေ၊ တော်လှန်ရေးတစ်ရပ်သည် ဖော်ပြပါ အကြောင်း အရာပေါ်တွင် အခြေခံခြင်းဖြစ်သည်။ တစ်ခါတစ်ရံ

ယင်းဖြစ်ထွန်းလာမှု အဖွဲ့အစည်းနှင့် ပုဂ္ဂိုလ်တို့၏ ချုပ်ကိုင်ထားမှုမဟုတ်ပဲ လည်း ဖြစ်လာတတ်သည်။

ဥပမာအားဖြင့် (၁၉၁၇)ခုနှစ်က ဖြစ်ခဲ့သော ရုရှကွန်မြူနစ်တော်လှန်ရေးကြီး၊ ဤသည် ပထမကမ္ဘာစစ်က မွေးပေးလိုက်သော အရေးပေါ်အခြေအနေမှ ကွန်မြူးဖြစ်ထွန်းလာခြင်းဖြစ်သည်။ (၂၀)ရာစုနှစ် တစ်လျှောက် အာရှနှင့် အာဖရိကတိုက်ဒေသများတွင် လွတ်လပ်ရေးလှုပ်ရှားမှုသည်လည်း ဒုတိယကမ္ဘာစစ်ကြီးက မွေးဖွားပေး သော အခြေအနေအရပ်ရပ်အတွင်းမှ ပေါ်ထွန်းလာခြင်းဖြစ်သည်။ ဤသို့သော ကမ္ဘာစစ်ကြီးကို ပေါ်ထွန်းဖြစ်ပေါ်လာစေရန် အတွက် ကွန်မြူနစ်ဝါဒီတို့သည် မပြုနိုင်ပါ။ လွတ်လပ်ရေးကို ရယူလိုသော ဒေသဆိုင်ရာ အမျိုးသာဝါဒီတို့လည်း မပြုနိုင်စွမ်းပါ။

ဤဖော်ပြချက် သဘောအတိုင်းပင် စဦးခေတ် မွတ်စလင်မ်တို့၏ လျင်မြန်လှသော စစ်ရေးအရ အောင်မြင်မှုသည် ထိုစဉ်ကာလက ပါရှန်းနှင့် ဘာဇင်တိုင်ရောမတို့၏ နှစ်ကြာမြင့်စွာ စစ်မက်တိုက်ခိုက်မှုကြောင့် နှစ်ဖက်စလုံး၏ အင်အားကုန်ခမ်းသွားခဲ့ခြင်းကြောင့်ဖြစ်သည်။ ထိုစဉ်ကာလက အင်အားကြီးနိုင်ငံဟုဆိုရသော ပါရှန်းနှင့် ဘယ်ဇင်တိုင်တို့၏ အခြေအနေ ပျက်သုဉ်းပျက်စီးခြင်းသည် အလ္လာဟ်အရှင်မြတ်၏ စနစ်ဖယားအားဖြင့်သာ ပေါ်ထွန်းဖြစ်ပေါ်လာခြင်းဖြစ်သည်။ ယင်းအရေးကို ဖန်တီးနိုင်စေဖို့ လူတို့စွမ်းဆောင်နိုင်မည်မဟုတ်ပါ။

ကျမ်းတော်မြတ်ကုရ်အာန်ကို လေ့လာခြင်းအားဖြင့် သိရှိရသည့်အချက်က လူမျိုးတို့၏ စပ်ကြားတစ်ဖက်နှင့် တစ်ဖက် နိုင်ငံရေးအရ ဖြစ်ထွန်းပြောင်း လဲလာမှုသည် အလ္လာဟ်အရှင်မြတ်၏ စနစ်ဖယားအားဖြင့်သာလျှင် ဖြစ်ရခြင်းဖြစ် သည်။ (၂း၂၅၁)

သဘောကယုတ်ညံ့ပက်စက်သောအုပ်ချုပ်မှုကိုချုပ်ငြိမ်းစေဖို့ရန် ယင်းသူ၏ နေရာတွင် အခြားတစ်ဦးကို ရောက်ရှိလာစေမှု၊ အုပ်စုတစ်စုအားဖြင့် အုပ်စုတစ်စုကို ဖယ်ရှားမှုစသည်ဖြင့် ပြောင်းလဲမှုများသည် အလ္လာဟ်အရှင်မြတ်စနစ် ဖယားအား

ဖြင့်သာလျှင် ဖြစ်ပေါ်လာရသည်။ သို့ရာတွင် အစ္စလာမ်၏ တော်လှန်ရေးဖြစ်စဉ်ကမူ ရည်ရွယ်ချက်တရားပေါ်တွင် အခြေခံ၍ ဖြစ်ပေါ်လာခြင်းဖြစ်သည်။ အစ္စလာမ် ယဉ်ကျေးမှုတော်လှန်ရေးကို အလ္လာဟ်အရှင်မြတ်က ပေါ်ထွန်းလာစေခြင်းပင် လျှင် အလ္လာဟ်အရှင်မြတ်၏ စစ်မှန်သော အထူးပြုနာခံတော်တို့ကို အရှင်က ကျေးဇူးပြုခြင်းပင်ဖြစ်သည်။ ဤစစ်မှန်သော အထူးပြုနာခံတော်တို့သည် သူတို့၏ အသိအမြင်နှင့် လက်တွေ့လုပ်ဆောင်ချက်များဖြင့် အရှင်၏ စစ်မှန်သော နာခံတော်ဖြစ်ကြောင်းကို သက်သေခံပြသခြင်းဖြစ်သည်။

"အသင်တို့အနက် အီမာန်ယုံကြည်ချက်ကို ခံယူပြီးသကာလ ကောင်းမြတ်သော လုပ်ဆောင်ချက်ကို ပြုကြသည်။ ယင်းသူတို့အတွက် အလ္လာဟ် အရှင်မြတ်ထံတော်မှ ကတိပြဌာန်းချက်ရှိနေသည်။ ယင်းသူတို့ကိုပထဝီမြေကြီး ပေါ်တွင် အုပ်ချုပ်ရေးကို ချီးမြှင့်မည်။ ယင်းသူတို့အလျှင်းက လူတို့ အားလည်း ဤသို့ပင်အုပ်ချုပ်ရေးအာဏာကို ပေးခဲ့သည်။ ယင်းသူတို့၏ ဒီန်ယုံကြည်ချက်ကိုခိုင်မြဲအောင်ပြုရမည်။ ဤသည် ယင်းသူတို့ အတွက် အလ္လာဟ်အရှင်မြတ်၏ သဘောတူညီမှုဖြစ်သည်။ ယင်းသူတို့၏ ကြောက်ရွံ့ စိုးရိမ်နေရသောအခြေအနေကို ငြိမ်းချမ်းခြင်းဖြင့်လဲလှယ်မည်ဖြစ်သည်။"( ၂၄ း၅၅ ) အစ္စလာမ်၏ ဆန်းသစ်စွာ ပေါ်ထွန်းလာမှုဉာဏ်သစ် လောင်းခြင်းသည် အများအားဖြင့် တွေ့ရသော ပြုပြင်ပြောင်းလဲမှုနှင့် နိုင်ငံရေးရာပြုပြင်ပြောင်းလဲသော တော်လှန်ရေးထက် မြင့်မြတ်လှသည်။ ဤအစ္စလာမ်တော်လှန်ရေး နိုးကြားမှု ပေးခြင်းသည် လောကကြီးမှ ကုဖရ်တည်းဟူသော သစ္စာတရားကို ငြင်းပယ်ဆန့် ကျင်မှုနှင့် ရှရိက်တည်းဟူသော ထာဝရအရှင် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားအရာများကို ဆည်းကပ်ခြင်းကို ပျောက်ပျက်သွားအောင် ပြုလုပ်သော စီမံကိန်းကြီးနှင့် ပြဿနာရပ်ဖြစ်နေသည်။

ဤသည် ရှင်သန်ဖြစ်ထွန်းလျက်ရှိသော ယဉ်ကျေးမှုတစ်ရပ်ကို တိမ်မြုပ် လျက်ရှိသော ယဉ်ကျေးမှုတစ်ရပ်ဖြင့် အစားထိုးရန် ကြိုးပမ်းမှုတစ်ရပ်ဖြစ်သည်။ ဤသည်သမိုင်းဖြစ်စဉ်တစ်ရပ်ကို အခြားသမိုင်းဖြစ်စဉ်ဖြင့် အစားထိုး လျှောက် လှမ်းခြင်းဖြစ်သည်။ ဤဖြစ်ရပ် ပြဿနာများကို အလ္လာဟ်အရှင်မြတ်၏ စွမ်းအား

အားဖြင့် ပြောင်းလဲရန် လိုအပ်နေခြင်းဖြစ်သည်။

သို့ဖြစ်၍ လိုအပ်နေသည့်အချက်သည်ကား နှုတ်နဗီခေတ်က မှန်တိုင်းတစ်ရပ် ဖြစ်ထွန်းလာပြီး ရှိုင်သွာန်၏ မျိုးဆက်အားလုံးရေလုံးကြီးတွင် မြုပ်သွားအောင်ဖြစ်လာစေရေး၊ မူဆာနဗီ၏ သဘာဝလွန်ဖြစ်ရပ်အားဖြင့် ဖိရ်အောင်နှင့်သူ၏ နောက်လိုက်တို့ ပင်လယ်ရေတွင် နစ်မြုပ်သွားစေရေး အလ္လာဟ်အရှင်မြတ်၏ မလာအေကဟ်ကောင်းကင်တမန်တို့ရောက်ရှိလာပြီး ဗဒရ်စစ်မြေပြင်ကို အောင်မြင်မှုကိုပြောင်းလဲလာရေး ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကူညီပေးမှု နစ်ရသ်အားဖြင့် ပေါ်ထွန်းလာရခြင်းဖြစ်သည်။ မွတ်စလင်မ်တို့သည် သူတို့၏ မဖြစ်စလောက်သော အင်အားအားဖြင့် ဤအောင်မြင်မှုကို မရရှိနိုင်ပါ။

မွတ်စလင်မ်တို့၏ခရီးစဉ်သည် သူတို့၏ လျှောက်လှမ်းမှုအားဖြင့် ပန်းတိုင်သို့ ဦးတည်နေသည်မှန်လည်း ဤခရီးစဉ်အတွက် လိုအပ်သော စွမ်းအားသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ ရရှိခြင်းဖြစ်သည်။ ဤစွမ်းအား အားဖြင့် မွတ်စလင်မ်တို့သည် တဟုန်ထိုးဖြင့် ခုန်လွှားကျော်ဖြတ်ကာ ပန်းတိုင်သို့ ရောက်ရှိနိုင်မည်ဖြစ်သည်။ အခြေအနေ တစ်ရပ်ကို ပြုပြင်ပြောင်းလဲအောင် ပြုရေးသည် လူသားတို့၏ စွမ်းအားလောကနှင့် ပြည့်ဝသော အခြေအနေသို့ မရောက်ရှိနိုင်ပါ။ ဤသည် ပြည့်ဝသော အခြေအနေသို့ ရောက်ရှိအောင် လောကအပေါင်း၏ အရှင်မြတ်သည် အလ္လာဟ်ထံမှ အကူညီကို အစဉ်အမြဲ မျှော်ကိုးရပါမည်။

ယနေ့ကြုံတွေ့နေရသော အခက်အခဲများကို ကျော်လွှားသွားနိုင်စေဖို့ရန် သမာရိုးကျနည်းနှင့် နိုင်ငံရေးနည်းစဉ်အားဖြင့် အောင်မြင်မှုကို ရယူနိုင်မည် မဟုတ်ပါ။ ယင်းအတွက်သဘာဝလွန်ကူညီပေးမှုကာလိုအပ်နေသည်။ဤသို့သော အကူအညီကို အလ္လာဟ်အရှင်မြတ်၏ အစီအစဉ်စနစ်ဖယားအားဖြင့်သာလျှင် ရယူနိုင် မည်ဖြစ်သည်။ ယင်းအလ္လာဟ်အရှင်မြတ်၏ ဖွက်ဖက်မှုဖြင့်သာလျှင် အခြေအနေကောင်းသည် ပေါ်ထွန်းလာမည်ဖြစ်သည်။ လောကအလုံးစုံကို စိုးပိုင်သောအရှင်က တားဆီးမှုအဝဝနှင့် နိုင်ငံရေးပိတ်ဆို့မှုများကို ထိုးဖောက်ပေးလာလျှင် ကျွန်ုပ်တို့သည် ရှေ့သို့တက်လှမ်းနိုင်မည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်၏ ပေးကမ်းမှုအားဖြင့် ခက်ထန်နေသော မြေကြီးသည် မိုး၏ အဆက်မပြတ်ရွာသွန်းလာမှုကြောင့် မြေပျော့ နှင့်ရွှံ့ဖွက်များ ဖြစ်လာမည်ဖြစ်သည်။ ဤသို့အားဖြင့် ကောင်းမြတ်သော လိုအပ်နေ သည့် သီးနှံများနှင့် လပ်ဆပ်သောအသီးအပွင့်များကိုရရှိနိုင်မည်ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်၏ တုန်ခါပေးမှုကြောင့် မြေဆီလွှာသည် ပေါ်ထွန်းလာစေနိုင်ပါသည်။ ရင်ဆိုင်ဆန့်ကျင်နေရသော အခြေအနေတွင် အတိုက်အခံပြုနေသူတို့တွင် ကြောက်စိတ်ကို ဖြစ်စေနိုင်ပြီး မှန်ကန်သော ဘက်တော်သားတို့အတွက် အောင်မြင်မှု စွမ်းအားကို ဖြစ်ပေါ်စေနိုင်ပါသည်။

ဤသို့သော အကူအညီပံ့ပိုးမှုများ မရရှိလျှင် ကျွန်ုပ်တို့သည် ပုံမှန်သော လှုပ်ရှားမှု၊ နိုင်ငံရေးအရ ကြိုးပမ်းမှုနှင့် ဟောပွဲပြောပွဲများဖြင့် အချိန်ကုန် နေမည်ဖြစ်သည်။ စဦးခေတ် အစ္စလာမ်လှုပ်ရှားမှုသည် ဤကဲ့သို့သော အလ္လာဟ်အရှင်မြတ်၏ ပေးကမ်းမှု၊ ပံ့ပိုးကူညီမှုအားဖြင့်သာလျှင် အောင်မြင်မှုကို ရရှိခဲ့ခြင်းဖြစ်သည်။ ယနေ့သည်လည်း အောင်မြင်မှုသည် ဤအလ္လာဟ်အရှင်မြတ်၏ ပေးကမ်းကူညီမှုအားဖြင့် သာလျှင် ဆွတ်ခူးနိုင်မည်ဖြစ်ပေသည်။

## ထိန်းချုပ်မှုဟူသည် အလ္လာဟ်ဘက်သို့ ဖိတ်ခေါ်ခြင်းသာ၊

အလ္လာဟ်အရှင်မြတ်၏ အထူးပြုအောင်မြင်မှု ရရှိရေးအတွက် မိုအ်မင်န်စစ်မှန်သော ယုံကြည်သူတို့အုပ်စုဝင်တို့အဖို့ သက်သေထူရမည့် အချက်ကရှိနေသည်။ ယင်းအချက်သည်ကား မိမိကိုယ်ကို ပြုပြင်ပြီးသည့်ကာလ ဒါအ်ဝဟ် သာသနာဖြန့်ချိရေး တာဝန်ဖြစ်သည်။ မိုအ်မင်န်အုပ်စုဝင်တို့အတွက် အလ္လာဟ်ထံတော်မှ အောင်မြင်မှု မုချရရှိရေးအတွက် ပထမဦးဆုံးအနေဖြင့် အီမာန်၏ ပြည့်စုံမှုကိုရယူပါမည်။ ယင်းနောက် ဒါအီအနေဖြင့် အလ္လာဟ်အရှင်မြတ်၏ သဝဏ်လွှာကို လူသားတို့ကို ဖြန့်ချိတင်ပြရမည်ဖြစ်သည်။

ယနေ့ခေတ်ကာလမျက်မှောက်ကမ္ဘာကြီးတွင် အီမာန်ရှင်တို့အဖို့ အရေးကြီးသောတာဝန်ရပ်မှာ လူသားတို့ကို အလ္လာဟ်အရှင်မြတ်တစ်ပါးတည်း ကိုသာ လျှင်

ဆည်းကပ်ကိုးကွယ်ရန် တင်ပြရသည့် ရှုပဟာဒသ်တာဝန်ပင်ဖြစ်သည်။ **شهداء على الناس** (ဆုရဟ် ဟဂ်ျ ) လူသားတို့ကို အလ္လာဟ်ထံမှ ကိုယ်စားပြုသော သက်သေထူးလည်း ဖြစ်ပြန်သည်ဟု တမန်တော်မြတ်ကဆိုထားသည်။

**انتم شهداء الله فى الارض حديث** ထို့ကြောင့် ဤတာဝန်ကျေမှုသာလျှင် အလ္လာဟ့်ထံတော်မှ ဆုလာဘ်တော်ကို ရရှိမည်ဖြစ်ကြောင်း မချွတကန် ဖြစ်ပေသည်။

ယနေ့မျက်မှောက်ကမ္ဘာပေါ်တွင် အုပ်စုတစ်စုနှင့် တစ်စု မွတ်စလင်မ်တို့ အပါအဝင် တစ်ဦးကိုတစ်ဦး အပြိုင်အဆိုင် အနိုင်ယူလိုကြသည်။ ဤအစဉ်အလာ ဖြစ်ရပ်များ အားပြိုင်မှုများကြောင့် မွတ်စလင်မ်တို့အဖို့ရာ အခြားမျက်နှာချင်းဆိုင် အုပ်စုဝင်များနှင့် ပြဿနာများ ပေါ်ထွန်းဖြစ်ပေါ်လာလေ့ရှိနေသည်။ တစ်ခါတစ်ရံ လည်းဝိုင်းဝန်းပိတ်ဆို့မှုကိုလည်း ခံရတတ်သည်။ ဤဖြစ်ရပ်များကြောင့် မွတ်စလင်မ် လူ့အဖွဲ့အစည်းဝင်တို့တွင် အခြားသူတို့ကို အတိုက်အခံပြုသော စိတ်ဓါတ်များ ကိန်းအောင်းလာတတ်သည်။ ထိုမှတစ်ဖန် အခြားသူတို့က အပေါ်စီးရလိုမှုနှင့် ယင်းသူတို့၏ အန္တရာယ်ကို ကျော်လွှားနိုင်စေဖို့ ဂျိဟာဒ်ပြုလိုစိတ်ဖြစ်လာလေ့ရှိသည်။

ဤဖြစ်ထွန်းလာသော စိတ်ဓါတ်အခြေအနေကို ကျမ်းတော်မြတ် ကုရ်အာန်၏ ရှုထောင့်မှ လေ့လာကြည့်သောအခါ ဆန့်ကျင်ဖက်အဖြေကို ရရှိမည် ဖြစ်သည်။ ကုရ်အာန်က **ကျွန်တော်တို့ကို လမ်းညွှန်ပြသသည်မှာ မည်၍ မည်မျှပင် ကြီးမားသော အသက်အိုးအိမ်စည်းစိမ် ဆုံးရှုံးမှုကို ခံရပါစေ၊ ယင်းဖြစ်ရပ်ကို ကျော်လွှားနိုင်စေဖို့ အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်မှု ဒါအ်ဝဟ် သည်သာလျှင် ဤဖြစ်ရပ်ကို ကျော်လွှားနိုင်သော စွမ်းအားဖြစ်ပေသည်။** မွတ်စလင်မ်တို့အတွက် ရန်းကန်လှုပ်ရှားကျင့်သုံးရမည့် ဂျိဟာဒ်သည်ကား အလ္လာဟ်အရှင်မြတ်ဖက်သို့ ဖိတ်ခေါ်မှုသာလျှင် ဖြစ်ရပါမည်။ ဆန့်ကျင်ဖက် လူသားမျိုးနွယ်ဝင်တို့ကို ပြန်လည်၍အားပြိုင်မှုများသည် မှန်ကန်သော အဖြေကို ဖြစ်မလာစေပါ။ ဤအချက်နှင့် ပတ်သက်ပြီး ကျမ်းတော်မြတ်ကုရ်အာန်က တမန်တော်မြတ်မှတစ်ဆင့် အွမ္မသ်သားတို့ကို ဤသွန်သင်ချက်ကိုပင်လျှင် ပို့ချထားသည်ကို တွေ့မြင်နိုင်ပါသည်။

يآأيها الرسول بلغ ما أنزل إليك من ربك وإن لم
تفعل فما بلغت رسالته والله يعصمك من الناس

"အို-ရစူလ်တမန်တော်၊ အသင်သည် မိမိ အရှင်မြတ်အထံတော်မှ အသင့်ထံသို့ ကျရောက် လာသမျှသော ဝဟီလမ်းညွှန်ချက်တရားများ ကိုလူခပ်သိမ်း တို့ထံသို့ ပို့ဆောင်တင်ပြဟောကြားပါလေ။ အကယ်၍ အသင်သည် ထိုကဲ့သို့ ပို့ဆောင်ဟောကြားခြင်း မပြုခဲ့ပါလျှင်၊အသင်သည် ထိုအရှင်မြတ်၏ အကြောင်းကြားချက်များကို ပို့ဆောင် ဟောကြား တာဝန် ကျေပြွန်စွာ ဆောင်ရွက်သည် မမည်ချေ။စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား လူတို့၏ ဘေးရန်ခပ်သိမ်းတို့မှ ထိန်းသိမ်းစောင့်ရှောက်တော်မူမည်ဖြစ်သည်။" ( ၅း၆၇)

ဤဖော်ပြပါ အာယတ်တော်အရ လူသားတို့၏ ထွတ်မြတ်မှုသည် အလ္လာဟ်အရှင်မြတ်၏ဘက်သို့ ဖိတ်ခေါ်ခြင်း သာလျှင် ဖြစ်သည်။ မည်သည့်အချိန်အခါတွင် ဖြစ်ပါစေ၊ ဆန့်ကျင်ဖက်တို့၏ တွန်းအားနှင့် နှိပ်ကွပ်မှုရှိလာလျှင် ကျွန်ုပ်တို့အနေဖြင့် ဒါအ်ဝဟ်ဖိတ်ခေါ်မှုဖက်သို့ ဦးတည်ရမည်ဖြစ်သည်။ ဤသို့ပြုလုပ်ဆောင်ရွက်ခြင်းအားဖြင့် အလ္လာဟ်အရှင် မြတ်၏ စနစ်ဖယားသည် အကာအကွယ်ပေးမည်ဖြစ်သည်။ မမျှော်လင့်သော အခြေအနေများပေါ်ထွန်းလာပြီး ယင်းသည် အောင်မြင်ရေးနှင့် လွတ်မြောက်ရေးအတွက် နည်းလမ်းဖြစ်လာမည်ဖြစ်ပေသည်။

ဒီန်ဖက်သို့ ဒါအ်ဝဟ်ဖိတ်ခေါ်မှု၏ ထူးမြတ်သော အကျိုးဖြစ်ထွန်းမှုသည် ကား သဘာဝ၏ ဖြစ်ထွန်းလာမှုသည် ဖိတ်ခေါ်သူဖက်မှ ရပ်တည်သော ခရီးသွားအဖော်ဖြစ်လာခြင်းပင်ဖြစ်သည်။ မည်၍မည်မျှ မနာလိုစိတ်၊ မရှုမြင်သောစိတ်များရှိနေပါစေ၊ သဘာဝအားဖြင့် လူ၏စိတ်သည် စစ်မှန်သော သစ္စာတရားမှ ထွက်ပေါ်လာသော ဖိတ်ခေါ်သံကို လက်ခံခြင်းမပြုပဲမနေနိုင်ဖြစ်နေသည်။ စစ်မှန်သော ဖိတ်ခေါ်မှုစကားရပ်အတွက် လူတို့၏ စိတ်နှလုံးတွင် အစဉ်နေရာရှိနေသည်။ အလ္လာဟ်အရှင်မြတ်၏ ဒီန်လမ်းညွှန်ချက်တရားနှင့် လူသားတို့၏ မနောစိတ်သည် သဘာဝအားဖြင့်တပြေးညီရှိနေသည်။ လူသည်မွေးလာလျှင် ယင်းသူသည် သဘာဝတရား အားဖြင့် အလ္လာဟ်အရှင်မြတ်၏ ပုံဖော်ပြသမှုပါလာသည်။

လူ၏ စိတ်သည် အစဉ်အမြဲ အမှန်တရားကို ရှာကြံလျက်ရှိနေပြီး ယင်းစစ်မှန်သော သစ္စာတရားရှေ့မှောက်တွင် မိမိကိုယ်ကို အပ်နှံရန်အသင့်ရှိနေတတ်သည်။ စင်စစ်အားဖြင့်ဒီန်ဟူသောသစ္စာတရားသည် လူသားတို့အနေဖြင့် ရှေ့မဆွက တည်းက ကြိုတင်ဝယ်ယူထားလိုသော စိတ်ရှိသည့်အရာဖြစ်နေသည်။ဤသဘာဝ တရား၏ ပုံပိုးမှုအပြင် သမိုင်းဆိုင်ရာ သက်သေသာဓကသည်လည်း အစ္စလာမ်၏ အရှိတရားကို ထောက်ခံနေသည်။ ယင်းအချက်သည်ကား အစ္စလာမ်မှလွဲ၍ အခြားသော ယုံကြည်ချက်များသည် ယင်းယုံကြည်ချက်၏ ပုံမှန်အနေအထားနှင့် အရှိတရားများကို ပျောက်ပျက်ခံခဲ့ရပြီးဖြစ်သည်။

ဤသို့မူလအလုပျောက်ပျက်သွားမှုကြောင့် သဘာဝလောက၏ ပံ့ပိုးမှုရရှိရေးအတွက် အနေအထားပြည့်စုံမှုမရှိတော့ပါ။ ယင်းအနေအထားပြည့်စုံမှုကို အလ္လာဟ်အရှင်မြတ်၏ ပေးကမ်းမှုမှသာ ရရှိခဲ့ခြင်းရှိသည်။ သို့ဖြစ်၍လည်း အတိတ်ကာလ ယုံကြည်ချက်များသည် ရှေးရိုးစဉ်လာ မိရိုးဖလာဆည်းကပ်မှုကို ကျော်၍ ဘာမျှပြု၍မရနိုင်တော့၊ သို့ဖြစ်၍လည်း ယင်းသူတို့၏ ရရှိထားသော လက်ရှိတရားများသည် အခြားသူတို့ကို မနာလိုမရှုစိတ်စိတ်ဓါတ်များ။ ကိန်းအောင်း ဖြစ်ပေါ်နေခြင်းဖြစ်သည်။ ဤသို့ဖြစ်ခြင်းမှာသဘာဝ၏ ပုံဖော်ထားမှုသည် ကုန်ခမ်း နေ ၍ပင်၊ အကယ်၍ ကျွန်ုပ်တို့အနေဖြင့် ဤမနာလိုမရှုစိမ့်သော ကန့်လန့်ကာကို ဖယ်ရှားနိုင်သော စွမ်းအားအာဖြစ့်အသိပေးနိုင်လာလျှင်မှ ယင်းသူတို့အဖို့ရာတွင် လမ်းကြောင်းမှန်အဖြစ် အစ္စလာမ်မှ လွဲ၍ အခြားမှာ မရှိကြောင်း သိမြင်ကာ အစ္စလာမ်၏ အရိပ်အာဝါသအောက်သို့ ခိုလှုံလာကြမည်ဖြစ်သည်။

## ဒါအ်ဝဟ်ဖိတ်ခေါ်မှုကို အောင်မြင်ဖြစ်ထွန်းစေခဲ့သော သက်သေသာဓကများ

ဒါအ်ဝဟ်ဖိတ်ခေါ်မှုသည် ကျွန်ုပ်တို့အတွက် လျှို့ဝှက်သောအချက်များ ပုံးလျှို့ ဖြစ်ပေါ်လျက်ရှိနေသည်။ ဤသည် စိတ်ကူးယဉ်မှန်းဆချက်စကားမဟုတ်ပါ။ ဤသည် အစ္စလာမ်သမိုင်းကို အခြေပြုသော သက်သေသာဓကအဖြစ် စစ်မှန်သော သစ္စာတရားအတွက် သက်သေပြနေပါသည်။

(၁)တမန်တော်မြတ် မိုဟမ္မဒ် သည် မက္ကာဟ်မြို့တော်တွင် အလ္လာဟ် အရှင်မြတ်ကပေးအပ်သော တမန်တော်မြတ်တာဝန် ကို စတင်ခဲ့ခြင်းဖြစ်သည်။ သို့ရာတွင် မက္ကာဟ်ဒေသသည် တမန်တော်မြတ်အဖို့ အလွန်ခက်ထန်သော နယ်မြေဖြစ်ခဲ့ရသည်။ တမန်တော်မြတ်၏ နှုတ္ထဝတ်တာဝန်၏ (၁၂)နှစ်တာကာလသည် မက္ကာဟ်မြို့မှစခဲ့သောဓာတ်လမ်းသည် မက္ကာဟ်မြို့တွင်ပင် အဆုံးသတ်သွား လိမ့်မည်ဟု ထင်မှတ်ရလေအောင် အခက်အခဲ အမျိုးစုံကို ကျော်လွှား ကျော်ဖြတ် ခဲ့ရသည်။ သို့ရာတွင်အခြေအနေကောင်းသည် ထိုစဉ်ကယသ်ရဗ်(မဒီနာ)တွင် ပေါ်ထွန်းလာခဲ့သည်။ တမန်တော်မြတ်သည်မက္ကာဟ်မြို့မှ မဒီနာသို့ ဟိဂျရသ်ပြု ထွက်ခွာလာခဲ့ရသည်။ မဒီနာမြို့တော်တွင် အစ္စလာမ့်အခြေခံကို တည်ဆောက်ခဲ့သည်။ မဒီနာမြို့တော်သည် အခြေအနေကောင်းတစ်ခုကို မွေးဖွားပေးခဲ့သည်။ ယင်းအခြေအနေကောင်းက အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်မှု ဒါအ်ဝဟ်ပြုနိုင်သော အခွင့်အလန်းပင်ဖြစ်သည်။ မဒီနာမြို့တော်တွင် တမန်တော်မြတ်နှင့် ရဲဘောရဲဘက် အစ္စဟာဗ်တို့၏ ဖိတ်ကြားတင်ပြမှုကြောင့် မဒီနာ၏ အိမ်တိုင်းအိမ်တိုင်း အစ္စလာမ်၏ သဝဏ်လွှာသတင်းစကားကို ရရှိပြီး အခက်အခဲအမျိုးစုံကို ကျော်လွှားခဲ့ရသည်။ မဒီနာမြို့တော်သည် အစ္စလာမ်သတင်းလွှင့်ထူရာ အခြေခံစခန်းဖြစ်လာပြီး အစ္စလာမ်က ပြဆိုသော ဘဝတည်ဆောက်မှုကို တည်ဆောက်ခွင့်ရရှိတော့သည်။

(၂)ဟိဂျရသ်အားဖြင့် မွတ်စလင်မ်တို့အတွက် အခြေအနေကောင်းအဖြစ် နယ်မြေဒေသ တစ်ခုရရှိခဲ့သော်လည်း အစ္စလာမ်ကို ဆန့်ကျင်သောအုပ်စုဝင်တို့သည် အတိအကျနည်းလမ်းမျိုးစုံဖြင့် ဤဒါအ်ဝဟ်ဖိတ်ခေါ်မှုကို ပျက်ပြားစေရန် ဗျူဟာချမှတ်ခဲ့ ရာ၊ စစ်မက်တိုက်ခိုက်ခြင်းဖြင့် အဆုံးသတ်တော့သည်။ ဤသို့အားဖြင့် အခြေအနေကောင်းသည် ခက်ထန်ခြင်းဖက်သို့ ပြန်လည်ရောက်ရှိလာတော့သည်။ မွတ်စလင်မ်တို့သည် အစဉ်အမြဲ ရန်သူတို့၏ ထိုးနှိပ်ခံရမှုကို သတိရှိစွာနေ နေရသည်။ ရန်သူတို့၏ ထိုးနှိပ်မှု၏ ရည်ရွယ်ချက်သည်ကား အစ္စလာမ်ကို ပပျောက်သွားရေးပင်ဖြစ်သည်။ သို့ရာတွင် ဤအခြေအနေဆိုးကြီး ကွယ်ပျောက်စေခဲ့သော အရာသည်ကား အစ္စလာမ်ဖက်သို့ ဒါအ်ဝဟ်ဖိတ်ခေါ်မှုပင်ဖြစ်သည်။ ဤသို့အားဖြင့်

အခြေအနေကောင်းတံခါးသည် ပြန်လည်၍ ပွင့်လာတော့သည်။

ဟူဒိုင်ဗီယာစစ်ပြေငြိမ်ရေးစာချုပ်အားဖြင့် ညှိနှိုင်းအဖြေရှာလျက် စစ်မက်တိုက်ခိုက်ရသောပဋိပက္ခကို ကုန်ဆုံးစေခဲ့သည်။ဤသို့အားဖြင့် ဒါအ်ဝဟ်ဖြန့်ချိမှုတာဝန်ကို ပြန်လည်၍ အစပျိုးနိုင်ခဲ့သည်။ ဤဆောင်ရွက်မှုကြောင့် (၂)နှစ်တာကာလအတွင်း အစ္စလာမ်ကို လက်ခံယုံကြည်သူဦးရေသည် လေးဆအထိ တိုး၍လာခဲ့သည်။ ဤတိုးတက်လာသော အခြေအနေအရပ်ရပ်ကို မှတည်၍ နောက်ဆုံးအခြေအနေတွင် မက္ကာဟ်မြို့ရှိ ကိုရိုက်ရှ်ခေါင်းဆောင်တို့သည် အစ္စလာမ့်အေနိုဝ်ဆာယာအောက်သို့ အညံ့ခံလက်နက်ချခဲ့ရသည်။

(၃) မက္ကာဟ်အောင်ပွဲနောက်ပိုင်း အကြီးမားဆုံးပြဿနာအဖြစ် ရှကီဖ်အုပ်စုဝင်တို့၏ ခေါင်းထောင်မှုကို ခံခဲ့ရသည်။ ယင်းမျိုးနွယ်စုတို့၏ တည်ရာဒေသသည် မြင့်မားသော ခံတပ်သဖွယ်ဖြစ်ပြီး ယင်းသူတို့နှင့်စစ်မက်တိုက်ခိုက်ခြင်းဖြင့် အောင်မြင်မှုကို မရရှိခဲ့။ တမန်တော်မြတ်သည် ယင်းသူတို့ကို ဒါအ်ဝဟ်နည်းစဉ်ဖြင့် အောင်မြင်မှု ရရှိခဲ့သည်။ ဟဝါဇာန် မျိုးနွယ်စုဝင်တို့သည် အင်အားခြောက်ထောင်ဖြင့် အစ္စလာမ်လူ့ဘောင်သို့ဝင်ရောက်လာခဲ့ကြသည်။ ယင်းဟဝါဇာန်နွယ်ဝင်တို့သည် သွာအိဖ် ရှိ ရှကီဖ်မျိုးနွယ်စုဝင်တို့၏ မဟာမိတ်ဖြစ်သည်။ ယင်းဟဝါဇာန်မျိုးနွယ်ဝင်တို့ အစ္စလာမ်ကို လက်ခံလာပြီးနောက် ရှကီဖ်နွယ်ဝင်တို့သည် သူတို့၏ အင်အားပြိုကွဲနေမှုန်းခံစားသိမြင်လာခဲ့သည်။သို့ဖြစ်၍ မဒီနာမြို့တော်သို့ သွားရောက်ကာ အစ္စလာမ်၏ အရိပ်အာဝါသအောက်သို့ ခိုလှုံခြင်းသည်သူတို့အတွက် အကောင်းဆုံးဖြစ်သည်ကို သိမြင်လာခဲ့သည်။ ဤသို့အားဖြင့် သွာအိဖ်ခံတပ်ကြီးကို စစ်ရေးအရအနိုင်ယူဖို့ အခက်အခဲ အမျိုးမျိုး အသက်များစွာ စတေးပြီးကြိုးစားခဲ့သော်လည်း အောင်မြင်မှု မရခဲ့၊ ယခုဒါအ်ဝဟ်ဖိတ်ခေါ်မှုနည်းစနစ်ဖြင့် အောင်မြင်မှုကို ရယူနိုင်ခဲ့ပြီးဖြစ်သည်။

(၄) ယင်းနောက် အစ္စလာမ်သမိုင်းစဉ်သည် ခရီးစဉ်တို့၏ ကျော်ဖြတ်မှု အလုံးစုံကို ဖြတ်ကျော်လျက် ဟိဂျရီ(၈)ရာစုသို့ ရောက်ရှိခဲ့သည်။ ယင်းကာလတွင် တာတာလူမျိုးစစ်သွေးကြွတို့သည် မွတ်စလင်မ်ကမ္ဘာ၏ ဒေသအသီးသီး၊ မြို့ပေါင်း

အများအပြားကိုဖျက်လိုဖျက်ဆီးပြုလျက် ဘဂ္ဂဒတ်မြို့တော်သို့ ဖျက်စီးရန် ဝင်ရောက်လာခဲ့ကြသည်။

တာတာလူမျိုးစစ်သွေးကြွခေါင်းဆောင်ဂျန်ဂစ်ခန်းသည် အာရှတိုက်အလယ်ပိုင်းဒေသမှ ခရစ်သက္ကရာဇ်(၁၂၁၆)ခုနှစ်တွင် စစ်သွေးကြွအင်အားခြောက်သောင်းတို့နှင့်အတူ အစ္စလာမ်ကမ္ဘာဖက်သို့ ချီတက်လာခဲ့ကြသည်။ မြင်းစီးကျွမ်းကျင်သော ယင်းသူတို့သည် ရောက်လေရာ အရပ်တွင် လူသတ်ဖျက်စီးမှုအလုံးစုံကိုပြုလျက် ရှေ့သို့သာ ချီတက်နေကြခြင်းဖြစ်သည်။ သူတို့ဖြတ်ကျော်လာခဲ့သော ဒေသအသီးသီးရှိ ယဉ်ကျေးမှုလက်ရာ စာပေပိုချရာဗိမ္မာန်များကို ဖျက်ဆီးမီးရှို့လေ့ရှိသည်။

ဤသို့အားဖြင့် အီရတ်၊ အီရန်နှင့် တာကစ်ဘန်ဒေသများသည် ယင်းသူတို့၏ ခြေဖဝါးအောက်တွင် ချေမှုန်းခံရသော အခြေအနေသို့ ရောက်ရှိခဲ့ပြီးဖြစ်သည်။ယင်းဒေသရှိ တိုင်းနိုင်ငံများသည် အင်အားကြီးမားယဉ်ကျေးမှု ထက်မြက်သော်လည်း တာတာတို့ကို တားဆီးနိုင်စွမ်းမရှိ ခဲ့။ မွတ်စလင်မ်ကမ္ဘာတစ်ခုလုံးသည် ကြောက်စိတ်များဖြင့် မတုန်မလှုပ်ဖြစ်ခဲ့ရသည်။ ခရစ်သက္ကရာဇ်(၁၃၅၁)ခုနှစ်တွင် ဂျန်ဂစ်ခန်း၏ မြေးဖြစ်သူ ဟလာကူခန်း ခေါင်းဆောင်ပြီး မုန်တိုင်းပမာ စစ်ဆင်ရေးသည် ပြန်လည်၍ထကြွ ပြုလုပ်လာခဲ့ကြသည်။ ထိုစဉ်က ပြိုကွဲတည်ရှိနေသော တိုင်းငယ်ပြည်ငယ်အများအပြားကို မလှုပ်မယှက်နိုင်လောက်အောင် ချေမှုန်းနိုင်ခဲ့ကြသည်။ယင်းတိုင်းငယ်ပြည်ငယ်များသည် အစ္စလာမ်နိုင်ငံတော်ကြီး ပြိုကွဲခဲ့ရပြီးနောက် ပြန်လည်၍ နလံထနိုင်အောင် ကြိုးစားနေချိန်ဖြစ်သည်။ ထိုစဉ်ကာလက မျက်မြင်တွေ့မြင်ခဲ့ရသောသမိုင်းပညာရှင်အိဗ်နေ့အဆီရ်(ဟီဂျရီ-၆၃၀ကွယ်လွန်)က ရေးသားမှတ်တမ်းတင်ထားသည်မှာ

၂ "အာဒမ်နဗီခေတ်မှသည်ယခုမျက်မြင်ခေတ်အထိ သမိုင်းတွင် အဆိုးဝါးဆုံးဖြစ်ရပ်"ဟုဖော်ပြသကဲ့သို့ ဟာရိုလ်လင့်မ်သူ၏ဂျန်ဂစ်ခန်းကျမ်းတွင် မှတ်ချက်ချပုံက မိုးကောင်းကင်က ပထဝီမြေကြီးပေါ်တွင် ကျဆင်းလာ ပြီး အရာအားလုံးကို ပျောက်ပျက်သွားအောင်ပြုခဲ့လေပြီ။

Jenghiz Khan, by Harold Lamb, P266.

ဤသို့သော အခြေအနေဆိုးကြီးဖြစ်သော တာတာတို့၏ မုန်တိုင်းကြီးကို တားဆီးနိုင်သော အရာသည်ကာ ဒါဇ်ဝတ် ဖိတ်ခေါ်မှုပင် ဖြစ်ခဲ့ရသည်။ တာတာတို့သည် သူတို့၏ လက်အောက်ရောက်ရှိနေသော မွတ်စလင်မ်ပြည်သူတို့နှင့် ထိတွေ့ဆက်ဆံရာမှ အစ္စလာမ်၏ အရသာကို မြည်းစမ်းခွင့်ရရှိသည်။ အစ္စလာမ်သည် ယင်းလူရိုင်းတာတာတို့ကို အောင်မြင်စွာ ထိန်းချုပ်နိုင်ခဲ့သည်။ တာတာလူမျိုးနွယ်ဝင်အများစုသည် အစ္စလာမ်၏အေရိပ်ဆာယာအောက်သို့ ခိုးလှုံလာခဲ့ကြသည်၊ ဤသို့အားဖြင့်အစ္စလာမ့်ရန်သူများသည် အစ္စလာမ်ကို စောင့်ရှောက်သူအသွင်အခြေအနေ ပြောင်းလဲလာတော့သည်။အစ္စလာမ်ကို တာတာတို့စပ်ကြား မိတ်ဆက်ပေးခဲ့ကြသော မုဘာလ်လိဂ် အညတြတို့၏ အမည် သည် သမိုင်းတွင် မရှိသော်လည်း သူတို့သည် သမိုင်းတွင် ရစ်သော အမည်မသိ ပုဂ္ဂိုလ်များအဖြစ် အသိအမှတ်ပြုခံခဲ့ ရသည်။

ဤဖြစ်ရပ်များ၏ ဖြစ်ပေါ်လာမှုအနေအထားအတိုင်းပင် ယနေ့မျက်မှောက်ခေတ်ကာလတွင်အစ္စလာမ်ကို သက်ဝင်လက်ခံလာမှုသည် အမည်မသိပုဂ္ဂိုလ်တို့၏ ကြိုးပမ်းမှုကြောင့်ပင်ဖြစ်ပြန်သည်။ ယနေ့ဤကြီးမားလှသောအဟုန် ဖြင့်ဖြစ်ထွန်းလာသော တာဝန်ကြီးကို ဘာသာရေး ဆိုင်ရာ အကာဗိရ်ပုဂ္ဂိုလ်တို့ က ဆောင်ရွက် နေသည်မဟုတ်ကြောင်းကို သတိပြုသင့်သည်။ ဤသည် ဆိပ်ငြိမ်သော လှုပ်ရှားမှု အသွင် ပုဂ္ဂိုလ်တို့က ဆောင်ရွက်နေခြင်းဖြစ်သည်။ တာတာတို့ စပ်ကြားတွင်လည်း ဘာသာရေးဆိုင်ရာ မဟာပညာကျော်တို့က အစ္စလာမ်ကို ချပြခြင်းမဟုတ် ယင်းတာဝန်ကို အညတြမွတ်စလင်မ်တို့က မိတ်ဆက်ခဲ့ကြောင်း ကျမ်းကိုးသာဓကများဖြင့် တင်ပြနိုင်ပါသည်။

"ယင်းနောက်ပိုင်းခေတ်ကာလတွင် ဤမဟာနိုင်ငံတော်ကြီးသည် ပြိုကွဲခဲ့ရသည်။ ဤသို့အားဖြင့် အစ္စလာမ်၏ နိုင်ငံရေးရာ အင်အားလျော့နည်းလာသည်။ သို့ရာတွင် ဝိညာဉ်ပိုင်းဆိုင်ရာမှု စဉ်ဆက်မပြတ်တိုးတက်မြဲ တိုးတက်ခဲ့သည်။ မွန်ဂိုတာတာတို့သည် အေဒီ(၁၂၅၈)ခုနှစ်တွင် ဘဂ္ဂဒတ်နေပြည်တော်ကြီးကို

ဖျက်စီးပစ်ခဲ့သည်။ သို့အားဖြင့် အဗ္ဗာစီယာ မင်းဆက်၏ ထွန်းတောက်မှုသည် သွေးအိုင်ထဲတွင် နစ်မျောခဲ့ရသည်။

ထိုအချိန်တွင် အစ္စလာမ်သာသနာသည် အရှေ့တောင်အာရှရှိ ဆုမတြား ကျွန်းဒေသတွင် နေရာယူလိုက်ပြီး ဖြစ်သည်။ ထိုမှတစ်ဖန် မလေးကျွန်းဆွယ် ဒေသသို့ စတင်ကာ အောင်မြင်စွာ ဝင်ရောက်နေပြီးဖြစ်သည်။ အစ္စလာမ်သည် သူ၏ ရုပ်ပိုင်းဆိုင်ရာဂုဏ်ရည်ကျနေချိန်တွင် သူ၏ဝိညာဉ်ပိုင်းဆိုင်ရာထွန်းတောက်မှုကို အကြီးအကျယ်အောင်မြင်ဖြစ်ထွန်းစေခဲ့ရသည်။ သမိုင်းဆိုင်ရာ အခြေအနေနှစ်ခုတွင် လူရိုင်းများဟုဆိုရသော လူမျိုးစုများသည် သူတို့၏ ခြေဖဝါးကို မွတ်စလင်မ်တို့၏လည်ဂုတ်တွင်နင်းချခဲ့သည်။ အေဒီ(၁၁)ရာစုနှစ်တွင် ဆယ်လ်ဂျူကီတာတာလူမျိုးသည်လည်းကောင်း၊ အေဒီ(၁၃)ရာစုနှစ်တွင် မွန်ဂိုတာတာတို့ကလည်းကောင်း ဤသို့ ပြုနိုင်ခဲ့သော်လည်း ဤအောင်ပွဲခံ လူမျိုးစုတို့သည် စစ်ရှုံးခဲ့ရသောသူ မွတ်စလင်မ်တို့၏ ယုံကြည်ချက်ကို အညံ့ခံလက်ခံခဲ့ကြသည်။

T.W.Arnold, The Preaching of Islam(1896)

အရှေ့ဖက်မှ လူရိုင်းတာတာတို့၏ မြားပစ်တော်သည့် စစ်သည်တော်တို့၏ ကြီးမားသောအဟုန်ဖြင့်ဝင်ရောက် တိုက်ခိုက်လာမှု၊ အနောက်ဖက်တွင် ခရူးဆိတ်စစ်သည်တော် ဗိုလ်ချုပ်တို့၏ စစ်ကြောင်း၊ ယင်းတို့နှစ်ဖက်ညှပ်ခံနေရသော အစ္စလာမ်သည် (၁၃)ရာစု၏ အစဦးပိုင်းတွင် လုံးဝဥဿုံ ဤလောကကြီးမှ ပျောက်ပျက်သွားတော့မည်ဟု ထင်မှတ်ကြသည်။ သို့ရာတွင် (၁၃)ရာစုနှစ်ကုန်ဆုံးပိုင်းသို့ ရောက်သောအခါ အခြေအနေသည် ပြောင်းလဲနေပြီးဖြစ်သည်။ နောက်ဆုံးတွင် ခရူးဆိတ်စစ်သည်တို့ကို မွတ်စလင်မ်တို့က ပင်လယ်အတွင်းသို့ မောင်းထုတ်နိုင်ခဲ့ပြီးဖြစ်သည်။

မွန်ဂိုတာတာတို့၏ မျိုးနွယ်စု(၁၁)စုအနက် (၇)စုသည် (ယင်းသူတို့တွင် ထိုစဉ်ကခရစ်ယာန်ဇနီးမယားများရှိပြီး ခရစ်ယာန်ဘက်သို့ ယိမ်းနေသည်) အစ္စလာမ်သာသနာကို လက်ခံရုံမက သူတို့ပင်မ ယုံကြည်ချက်အဖြစ် အစ္စလာမ်သာသနာကို ပြဌာန်းအသိအမှတ်ပြုခဲ့ကြသည်။ ဤသည် မုဟမ္မဒ် ﷺ ၏ ယုံကြည်

ချက် ၏ အကြီးမြတ်ဆုံးသော အောင်မြင်မှုပင်ဖြစ်သည်။ ဆယ်လ်ဂျူကီတပ်ဖွဲ့လည်း ဤနည်းနှင့် အစ္စလာမ်ကို လက်ခံခဲ့ကြသည်။ မွတ်စလင်မ်တို့၏ ယုံကြည်ချက် သာသနာသည်စစ်ရေးအရ ဓါးကိုသုံး၍မအောင်နိုင်သော နေရာတွင်လည်း အောင်မြင်မှုကိုခံယူခဲ့ရသည်၊ စစ်ရေးအရ တာတာလူမျိုး ဟလာကူခန်၏ ထိုးနှိပ်မှုဖြင့် ပျက်သုဥ်းခဲ့ရသော အစ္စလာမ် ယဥ်ကျေးမှုသည် ရာစုနှစ်ဝက်ကျော် ကာလမတိုင်ခင်ကလေးတွင် သူ၏မြစ်ဖြစ်သူကဇာန်သည် အစ္စလာမ်ကို လက်ခံလာပြီး အစ္စလာမ်ယဥ်ကျေးမှုကို ပြန်လည်ရှင်သန်အောင်သူတို့၏မေ သူတို့၏အား ကို အသုံးပြုခဲ့ကြသည်။ History of The Arabs by Philip K .Hitti

## သမိုင်းကပေးသော သင်ခန်းစာတစ်ခု

လူရိုင်းတာတာတို့၏ ကြောက်မက်ဖွယ်ရာတိုက်ခိုက်မှုဖြစ်စဥ်သည် ကျော်ကြားလှသော ပညာရှင်ကြီးဖြစ်သော **အီမာမ် အိဗ်နေ သိုင်မီယာ(ဟိဂျ်ရီ- ၆၆၁–၇၂၈)**၏ အသက်ထင်ရှားခေတ်ကာလတွင် ဖြစ်ခဲ့ရသည်။ အီမာမ်ကြီးသည် အစ္စလာမ် သာသနာကို ဖျက်လိုဖျက်ဆီးနေမှုကို မြင်ခဲ့၍ ဒေါသအမျက်ထွက်ကာ ရန်သူတို့ကို ပြန်လည်တိုက်ခိုက်ရန် မွတ်စလင်မ်ထုကို စစ်ကိုစစ်နှင့် တုံ့ပြန်ရန် လှုံ့ဆော်ခဲ့သည်။ ဟိဂျ်ရီ ၇၀၂ ခုနှစ်တွင် အီမာမ်ကြီးနှင့် နောက်လိုက်တို့သည် အီဂျစ်ပြည့်ရှင် ဆွလ်သာန်နာဆိရ်၏ စစ်သည်တို့နှင့် ပူးပေါင်းကာ တာတာတို့ကို တိုက်ခိုက်ရန် စစ်မြေပြင်သို့ ထွက်ခဲ့ကြသည်။ ပထမ အစဦးပိုင်းတွင် တာတာတို့၏ တပ်တစ်ခုကို အနိုင်ယူချေမှုန်းနိုင်ခဲ့သော်လည်း နောက်ပိုင်းတွင် တာတာ တို့သည်သာလျှင် အပေါ်စီးဖြင့် နိုင်ယူခဲ့သည်။

အီမာမ်အိဗ်နေသိုင်မီယာသည် အဖမ်းခံရပြီး ဆီးရီးယားနိုင်ငံ၊ ဒမတ်စ် ကတ်မြို့တော်ရှိ ခံတပ်ကြီးတွင် ဖမ်းဆီးချုပ် နှောင်ခံခဲ့ရသည်။ ယင်းနောက်ပိုင်း ခေတ်ကာလ သူ၏ နောက်ဆုံးရက်များတွင် စာပေပြုစုခြင်းဖြင့် ကွယ်လွန်ခဲ့ရသည်။ အီမာမ်ကြီးသည် တာတာတို့နှင့် ဖြစ်ခဲ့ရသော အရေးအခင်းကို စစ်ရေးဖြင့် ဖြေရှင်းလိုသည်။ သို့ရာတွင် ယင်းဖြေရှင်းမှုသည် မအောင်မြင်ခဲ့ပေ။ ထိုစဥ်ကာလ တာတာတို့ကို ဒါဝသ်အားဖြင့် ဖိတ်ခေါ်မှုကို စတင်လာခဲ့သည်။ ဤဒါဝသ်ဖိတ်ခေါ်မှု

သည် အောင်မြင်မှုရလျက်ပြဿနာရပ်များအားလုံးကို အေးငြိမ်းသွားစေရုံမက တာတာတို့ကိုပင်လျှင် အစ္စလာမ်၏ နာခံတော် ဖြစ်စေခဲ့ရသည်။အစ္စလာမ်အတွက် ပြဿနာရပ်အားလုံးကို အမြစ်မှစ နှုတ်သိမ်း ဖျက်ဆီး စေဖို့ ယင်းတာတာတစ်ဖြစ်လဲ မွတ်စလင်မ်တို့သည် သံဓိဋ္ဌာန်ချခဲ့ကြသည်။

ဤဟိဂ်ျရီ ၈–ရာစုနှစ်၏ သမိုင်းဆိုင်ရာအဖြစ်အပျက်သည် **မွတ်စလင်မ်တို့ကို အစ္စလာမ်ကို ကာကွယ်ပြီး မြင့်မားသော အရှိန်အဖြစ်သို့ ရောက်ရှိစေဖို့ မည်သို့ဆောင်ရွက်သင့်သလဲ၊**ဆိုသည်ကိုသခ်နှစ်စာပေးခဲ့သည်။ သို့ရာတွင် မွတ်စလင်မ်တို့သည် ဤသမိုင်း ကပေးသော သင်ခန်းစာကို ရယူခြင်းမရှိကြပါ။ မျက်မှောက်ခေတ်တွင် တွေမြင်ရသော တာတာတို့၏ ထိုးနှက်မှုကို မွတ်စလင်မ်တို့က နိုင်ငံရေးဖြင့် ဖြေရှင်းလိုကြသည်။ဤအခြေအနေတွင် မည်သူကမျှ ဒါဝသ်နည်းစဉ်ကို ကိုဟာဒ်အသွင် လှုပ်ရှား အသုံးချဖို့ ပေါ်ထွန်းလာခြင်းမရှိသေးပါ။

## မျက်မှောက်ခေတ်တွင် အစ္စလာမ်

နိပိုလီယံသည် ခရစ်သက္ကရာဇ် ၁၇၉၈ ခုနှစ်တွင်အီဂျစ်နှင့်ဆီးရီးယား ပြည် ကို တိုက်ခိုက်ခဲ့သည်။ ယင်းမတိုင်ခင် နှစ်ပေါင်း ၂၀၀ က ပေါ်တူဂီကုန်သည်များသည် အိန္ဒိယတိုက်နယ်နှင့် အခြားသော အာရှနိုင်ငံများသို့ ဝင်ရောက်လာခဲ့ပြီးဖြစ်သည်။ ယင်းနောက် အခြားဥရောပနိုင်ငံများသည်လည်း ဝင်ရောက်လာခဲ့ကြသည်။ ဤသို့အားဖြင့် နှစ်ပေါင်း ၂၀၀ အလျှင်က ပေါ်တူဂီ၊ ဟော်လန်၊ ပြင်သစ်နှင့် ဗြိတိသျှတို့သည် မွတ်စလင်မ်ကမ္ဘာကြီးတစ်ခုလုံးသို့ သူတို့၏ အရှိန်အဝါကို ဖြန့်ခဲ့ပြီးဖြစ်သည်။ ပထမဦးဆုံးအနေဖြင့် အိန္ဒိယတိုက်နယ်ရှိ မဂိုအင်ပါယာ၊ ယင်းနောက် တူရကီတို့၏ အော်တိုမန် အင်ပါယာကြီးတွင် ခေလာဖသ်စနစ်သည် ပျက်သုဉ်းခဲ့ရပြီးဖြစ်သည်။

၂၀–ရာစုနှစ်ကာလတွင် အနောက်နိုင်ငံ၏ နိုင်ငံရေးချုပ်ကိုင်မှုမရှိသော်လည်း။ ယနေ့အထိ အနောက်နိုင်ငံဥရောပသားတို့သည် မွတ်စလင်မ်ကမ္ဘာကြီးကို သူတို့၏စက်ကွင်းတွင် ထိန်းသိမ်းထားဖြစ်သည်။ အရေးကြီးသော လက်နက်ခဲယမ်းမီးကျောက် မှသည် ကျမ်းတော်မြတ်ကုရ်အာန်ကို ပုံနှိပ်ရန် လိုအပ်သော ပုံနှိပ်စက်

ကရိယာများနှင့် ဖြန့်ချိမှုစာရွက်စာတမ်းများသည်လည်း မွတ်စလင်မ်တို့သည် အနောက်နိုင်ငံသားတို့ ထံမှ မှီခိုနေရဆဲပါ။

အနောက်ကမ္ဘာ၏ချုပ်ကိုင်မှုကို အကြောင်းပြု၍ မွတ်စလင်မ်ကမ္ဘာ တစ်ခုလုံးတွင် အနောက်ဆန့်ကျင်ရေး လှုပ်ရှား မှုများ ပေါ်ထွန်းလာခဲ့ရာ ယနေ့အထိ ရှိနေဆဲပင်ဖြစ်သည်။ လွန်ခဲ့သော ရာစုနှစ်ကာလက ပေါ်ထွက်လာခဲ့သော မွတ်စလင်မ့်လှုပ်ရှားမှု အားလုံးလိုလိုပင် ယင်းအကြောင်းကြောင့် ဖြစ်လာခြင်းဖြစ် သည်။ ယင်းလှုပ်ရှားမှုများသည် အမည်အမျိုးမျိုးခံယူကြသော်လည်း သူတို့၏ ရည်ရွယ်ချက်က တစ်ခုတည်းသော အချက်ပေါ်တွင် တည်နေသည်။ ယင်းအဖွဲ့ အစည်း အားလုံးသည် နိုင်ငံရေးသဘောတရားများပေါ်တွင် အခြေခံသော လှုပ်ရှား မှုများဖြစ်ကြသည်။သူတို့သည်တစ်စိမ်းလူမျိုးတို့ကပေါက်ဖွါးပေးခဲ့သောပြဿနာရပ်ကို နိုင်ငံရေးအမြင်ဖြင့် အဖြေရှာကြခြင်းဖြစ်သည်။

ဤလှုပ်ရှားမှုများသည် ရာနှုန်းပြည့် မအောင်မြင်ဖြစ်ခဲ့ကြရသည်။ အသက်အိုးအိမ်၊ စည်းစိမ်များ ဆုံးရှုံးခံ ရင်းနှီးခဲ့ကြသော်လည်း ထိရောက်သော အကျိုးအမြတ်ကို ရရှိခြင်း မရှိခဲ့ကြ။ မွတ်စလင်မ်ကမ္ဘာ၏ သွေးစည်းညီညွတ်မှု ဆိုင်ရာ(**PanIslamicism**)လှုပ်ရှားမှုများလည်း ပြုလုပ်ခဲ့ကြသည်။ ယင်းလှုပ်ရှား မှုစပ်ကြားတွင်ပင် မဂိုအင်ပါယာနှင့် အော်တိုမန်အင်ပါယာတို့ ပြိုကွဲခဲ့ရသည်။ ယင်းဒေသများတွင် ဒါဇင်ပေါင်းများစွာသော နိုင်ငံငယ်များ ပေါ်ထွန်းလာခဲ့သည်။ မွတ်စလင်မ်တို့သည် အနောက်နိုင်ငံ၏ နွံအတွင်းမှ လွတ်မြောက်ဖို့ ဆန့်ကျင်ကြ ရာတွင် အသက်ရာပေါင်းများစွာ အဆုံးအရှုံး စတေးခံခဲ့ကြရသည်။ ဤသို့သော လုပ်ဆောင်မှု၏ အကျိုးအဖြစ် လွတ်လပ်ရေးရရှိခဲ့ကြသော်လည်း၊ ပြည်တွင်းတွင် စိတ်ဝမ်းကွဲနေကြသော အင်အားစုများ၊ သူပုန်တို့၏ အရေးကြောင့် ယင်းပြဿနာ ရပ်များကိုဖြေရှင်းနေရဆဲဖြစ်သည်။ မွတ်စလင်မ်တို့သည် အစ္စလာမ် နိုင်ငံတော်ကြီး တည်ဆောက်နိုင်ရန်သမိုင်းတွင်ရစ်သော စွန့်လွှတ်စွန့်စားမှုများကို ပြုလုပ်ခဲ့ကြ သည်။

သို့ရာတွင် ယင်း၏ရလဒ်အနေဖြင့် လူမျိုးစုပြဿနာရပ်များသာလျှင် အဖတ်တင်ခဲ့ခြင်းဖြစ်သည်။ ပါလက်စတိုင်း ဒေသတွင် ဂျူးနိုင်ငံ တည်ဆောက်မှုကို

ဆန့်ကျင်သည့်အနေဖြင့် တစ်ကမ္ဘာလုံးရှိ မွတ်စလင်မ်ထု သွေးစည်းညီညွတ်မှုကို ပြခဲ့ကြသည်။ သူတို့စွမ်းဆောင်နိုင်သော လုပ်ငန်းဆောင်တာများကိုလည်း အတတ်နိုင်ဆုံးပြုခဲ့ကြသည်။ရလဒ်အနေဖြင့်ဂျူးနိုင်ငံသည် မူလကရှိခဲ့သော နယ်နိမိတ်ထက်ကြီးမားသော အနေအထားသို့ တဖြည်းဖြည်း ရောက်ရှိလာတော့ သည်။

သို့ဖြစ်၍ မျက်မှောက်ခေတ်ကာလတွင် မွတ်စလင်မ်တို့အနေဖြင့် သူတို့လှုပ်ရှားခဲ့သော နယ်ပယ်အားလုံးတွင် ဆုံးရှုံးမှုဖြင့်သာ ကြုံတွေ့ခဲ့ရသည်။ သူတို့ရရှိသော အရာဟူ၍ ပြစရာမရှိပါ။ သမ္မာကျမ်းလာစကားအရဆိုသော် 'အလုပ်သမားသည် သူ၏ရပိုင်ခွင့်များကို အိတ်ပေါက်နှင့် စုဆောင်းနေသည်။ ဆိုသကဲ့သို့ဖြစ်နေ၏။

သို့ရာတွင် ဤဆုံးရှုံးမှုများစပ်ကြားတွင် မွတ်စလင်မ်တို့အတွက် အခွင့်အလမ်းတစ်ခုကပေါ်ထွန်းလာခဲ့သည်။ ယင်းနယ်ပယ်တွင် မွတ်စလင်မ်တို့သည် ထိုးဖောက်ဝင်ရောက်နေပြီလည်း ဖြစ်သည်။ အခြားနယ်ပယ်တွင် ကြီးမားသော အဆုံးအရှုံးခံပြီး အသက်အိုးအိမ် စည်းစိမ်များစတေးခံဆုံးရှုံးခဲ့ရသော်လည်း ဤနယ်ပယ်တွင်မူ ကြီးမားသော စွမ်းဆောင်မှု မပါရှိဘဲ အကျိုးအမြတ်များကို ခံစားရရှိနေပြီးဖြစ်သည်။

ဤနယ်ပယ်သည်ကား အစ္စလာမ်၏ဒေသနာတော်ကို ဖြန့်ချိရေးနယ်ပယ် လှုပ်ရှားမှုဖြစ်သည်။ မွတ်စလင်မ်တို့သည် အခြားလူမျိုးခြားများ ဘာသာဝင်တို့ကို အစ္စလာမ်ဘက်သို့ဖိတ်ခေါ်မှု အတွက် ဘာမျှ စွမ်းဆောင်ခြင်းမပြုသေးပါ။ သို့ရာတွင် အံ့သြစွာ တွေ့မြင်ရသည့် အချက်သည်ကား ကမ္ဘာအဝှမ်းတွင် အစ္စလာမ်သည် လူမျိုးအသီးသီးသို့ ပြန့်နှံ့ဝင်ရောက်လာခြင်း ပင်ဖြစ်သည်။

အိန္ဒိယနိုင်ငံတွင် ဟရိဂျန်ဇာတ်နိမ့်များ တစ်ဟုန်ထိုး အုပ်စုလိုက် အစ္စလာမ်ကို လက်ခံလာပြီးဖြစ်သည်။ ဂျပန်နိုင်ငံတွင်လည်း လူမှုဘဝနှင့် ပတ်သက်ပြီး၊ တွေးခေါ်စဉ်းစားတတ်သော ပုဂ္ဂိုလ် အများအပြားသည် အစ္စလာမ့် လှုံ့ဘောင်သို့ ဝင်ရောက်လာကြပြီးဖြစ်သည်။ အမေရိကန်ပြည်ထောင်စုတွင် လူမည်းတို့သည် အလုံးအရင်းဖြင့် အစ္စလာမ့် အေးရိပ် ဆာယာသို့ ခိုလှုံနေကြပြီးဖြစ်သည်။

အာဖရိကတိုက်ရှိ အလွန်ခေတ်နောက်ကျနေသော လူမျိုးစုဝင်တို့သည်လည်း အစုလိုက် အပြုံလိုက် အစ္စလာမ်ကို လက်ခံလာကြပြီးဖြစ်သည်။ ဤသို့ အစ္စလာမ်ကို လက်ခံလာမှုသည် ကမ္ဘာအဝှမ်းနိုင်ငံအသီးသီး ဒေသအနှံ့တွင် ဖြစ်ပေါ်နေသည်။ အစ္စလာမ်သည် ရေလှိုင်းပမာ အလ္လာအသီးသီးတို့အားထားရာ ဖြစ်နေသည်။ ယနေ့ခေတ် ကာလတွင် နိုင်ငံတိုင်းတွင် တတ်သိပညာရှင်များအပါအဝင် ပညာတတ် အလ္လာသည်လည်းအစ္စလာမ်၏ ဒေသနာကိုကြားနာ ပြီး ခံယူနေကြပြီးဖြစ် သည်။ ဤသည် မွတ်စလင်မ်တို့၏ ကြိုးပမ်းချက်ကြောင့်မဟုတ် ယင်းသူတို့ကိုယ်တိုင် လေ့လာသမှုပြုရာမှ အစ္စလာမ်၏အသိအမြင်သည် ဝင်ရောက်လာခြင်းဖြစ်သည်။

## အခြေအနေကစောင့်မျှော်လျက်ရှိနေသည်။

၁၉ ရာစုနှစ်၏ ဒုတိယနှစ်၅၀ကာလနှင့် နှစ်ဆယ်ရာစု၏ ပထမနှစ်ငါးဆယ်ကာလတစ်လျှောက် မွတ်စလင်မ်ခေါင်းဆောင်များသည် နိုင်ငံရေးအရ ကြိုးပမ်းလှုပ်ရှားနေချိန်တွင် အခြေအနေကောင်းများစွာသည် ပေါ်ထွန်းလာခဲ့သည်။ ယင်းအခြေအနေကောင်းများက အစ္စလာမ်ဘက်သို့ဖိတ်ခေါ်သောဒါဝသ်ပင်ဖြစ်သည်။ ဤသည်နိုင်ငံရေးအရ ကြိုးပမ်းမှုထက်သာလွန်သော အကျိုးဖြစ်ထွန်းမှုကို ဖြစ်စေနိုင်ခဲ့သည်။ ယင်းအခြေ အနေကောင်းတစ်ရပ်ကို ဖတ်ရှုလေ့ လာစေလိုပါသည်။

ဟိဂျရီ၁၃၈၆ခုနှစ် အီဂျစ်နိုင်ငံ ကိုင်ရိုမြို့တွင် မဟ်မုဒ်အလ်ဘုရီယာ၏ ဂျမာလ္လဒ္ဒိန်အဖ်ဂါနီအကြောင်းရေးထားသည့် လဂ်ုနသုလ်သာရိဖိဘ်လ် အစ္စလာမ် ကျမ်းတွင်ရေးသားထားချက်သည် စိတ်ဝင်စားဖွယ်ဖြစ်သည်။ ၁၈၉၃ခုနှစ်က ဂျမာလ္လဒ္ဒိန်အဖ်ဂါနီသည် တူရကီနိုင်ငံမြို့တော် အိစ်သနိဘုလ်မြို့တွင်ရှိစဉ်က ဂျပန်ဧကရာဇ် မေဂျီဘုရင်(၁၈၆၈–၁၉၁၂)သည် တူရကီ ဘုရင် ဆုလတန် အဗ်ဒုလ် ဟမိဒ်ဆာနီထံ ချစ်ကြည်ရေးသဝဏ်လွှာတစ်စောင်ပါးလိုက်သည်။

ယင်းစာတွင် နှစ်နိုင်ငံချစ်ကြည်ရေးကို ဖော်ကျူးရင့်ကာ ရေးသားထားသည်မှာ "ကျွန်ုပ်တို့နှစ်ဦးသည် အရှေ့တိုင်း၏ ဝင်ရိုးတန်းနိုင်ငံ အုပ်ချုပ်သူများဖြစ်ကြသည်။ ကျွန်ုပ်တို့နှင့် ကျွန်ုပ်တို့၏ ပြည်သူတို့အကျိုးအတွက် အတူတကွ

ယှဉ်တွဲအကျိုးပြုခြင်းသည် သင့်လျော်ပါသည်။ ကျွန်ုပ်တို့ စပ်ကြား သွေးစည်းမှု နိုင်မြဲမှုရှိခြင်းဖြင့် အနောက်တိုင်းသားတို့နှင့် သူတို့၏ နိုင်ငံများကိုရင်ဆိုင်နိုင်မည်ဖြစ်သည်။ ယင်းသူတို့သည် ကျွန်ုပ်တို့ကို အမြင်တစ်ခုတည်းဖြင့် ရှုမြင်နေကြသည်ကို သတိပြုသင့်သည်။

ကျွန်ုပ်သတိပြုမိသည်မှာ အနောက်တိုင်းသားတို့သည် ဂျပန်နိုင်ငံသို့ သာသနာပြုများ စေလွှတ်ပြီး သာသနာပြုနေကြသည်။ အကြောင်းမှာ ကျွန်ုပ်၏နိုင်ငံတွင် ဘာသာရေးဆိုင်ရာ လွတ်လပ်ခွင့်ရှိနေ၍ဖြစ်သည်။ အဆွေတော်တို့အနေဖြင့် ဤသို့ သာသနာပြုသည်ကို ကျွန်ုပ်မမြင်တွေ့ရပါ။ ကျွန်ုပ်အနေဖြင့် အဆွေတော်တို့ထံမှ သာသနာပြုပုဂ္ဂိုလ်များကို ဂျပန်သို့ စေလွှတ်ပြီး အစ္စလာမ်ဒေသနာ သာသနာပြုလျှင် ကျွန်ုပ်တို့အနေဖြင့် အလွန်နှစ်သက်အားရမည်ဖြစ်သည်။ ဤသို့အားဖြင့် တူရကီနိုင်ငံနှင့် ဂျပန်နိုင်ငံစပ်ကြား နိုင်မြဲပြီး အဓိပ္ပာယ်ရှိသော ဆက်သွယ်မှုကို နိုင်မြဲလာမည် ဖြစ်ကြောင်း ယုံကြည်ပါသည်။''

ဤသဝဏ်ကို ယူဆောင်ပြီး ဂျပန်ကိုယ်စားလှယ်အဖွဲ့သည် တူရကီမြို့တော် အစ်တန်ဘူလ်သို့ ရောက်ရှိလာချိန်တွင် ဂျမာလွဒ္ဒီန်အဖ်ဂါနီနှင့်တကွ အိုလမာပညာရှင်အများအပြားရှိနေသည်။ တူရကီဘုရင် ဆူလ်တန်အဗ်ဒုလ်ဟမိဒ်ဆာနီသည် ယင်းအိုလမာပညာရှင်တို့ကို ခေါ်ယူပြီး ဂျပန်ဘုရင်မေဂျီ၏စာကို ပြသ၏။ သို့ရာတွင် ဂျမာလွဒ္ဒီန်အဖ်ဂါနီနှင့် အိုလမာ ပညာရှင်တို့အနေဖြင့် ယင်းစာကိုစိတ်ဝင်စားခြင်းမရှိသောလက္ခဏာကို ပြသခဲ့ကြသည်။ ဂျပန်ကိုယ်စားလှယ် အဖွဲ့သည် ကျေးဇူးတင်စွာဖြင့် သူတို့၏ နေရပ်ဌာနီသို့ပြန်ခဲ့ကြသည်။

ခေတ်လွန်ပိုင်းကာလက ဤဒါဝသ်လုပ်ငန်းများ လက်လွှတ်ဆုံးရှုံးခဲ့ခြင်းသည် မွတ်စလင်မ်တို့သည် ဒါဝသ်တာဝန် ရပ်ကို မေ့လျော့နေ၍ဖြစ်သည်။ မွတ်စလင်မ်တို့သည် နိုင်ငံရေးနှင့် နိုင်ငံရေးမဟုတ်သော လှုပ်ရှားမှုများကို အရေးတကြီး ကိစ္စအဖြစ် သတ်မှတ်ခဲ့ကြခြင်းဖြစ်သည်။ မွတ်စလင်မ်မဟုတ်သူတို့ကို အစ္စလာမ်ဘက်သို့ဖိတ်ခေါ်ရေးတာဝန်သည် အရေးမကြီးသော အလုပ်အဖြစ်နားလည်ခဲ့ကြသည်။ မွတ်စလင်မ်တို့အနေဖြင့် သူတို့နေရပ်ဌာနီသို့

လာရောက်ကာ တံခါးခေါက်နေသူ ဘာသာခြားများကို အရေးတယူ ဒါဝသ်ပေးကာ အစ္စလာမ့်ဘက်သို့ ဖိတ်ခေါ်ရမည်ကို မေ့လျော့နေခြင်း ဖြစ်သည်။

## အလ္လာဟ်အရှင်မြတ်၏ ဆုံးဖြတ်ချက်

၁၉ရာစုနှစ်၏ အလယ်ကျော်ခေတ်ကာလတွင် ဗြိတိသျှအင်ပါယာ ၏ဘုရင်မကြီး၏ ဘကြီးတော် လော့ဒ်ဟာဒလေ သည် အစ္စလာမ့်လူ့ဘောင်ကို ဝင်ရောက်လာခဲ့သည်။ ၂၀ရာစုနှစ် အလယ်ကျော်ခေတ်တွင် အာဖရိကတိုက် ဂါဘွန်နိုင်ငံသမတကြီးသည် အစ္စလာမ်ကို လက်ခံက မုဟမ္မဒ်အုမရ်ဘန်ဂို့ဟု ခံယူခဲ့သည်။ မျက်မှောက်ခေတ်ကာလတွင် မွတ်စလင်မ် မဟုတ်သော လူ့အဖွဲ့အစည်းဝင်တို့ထဲမှာ လူသိန်းနှင့်ချီ၍ အစ္စလာမ့်လူ့ဘောင်သို့ ဝင်ရောက် လာနေသည်ကိုတွေ့ရသည်။ ယင်းသူတို့တွင် သာမန်ပြည်သူများ၊ ပါရဂူဘွဲ့ရများ၊ အင်ဂျင်နီယာများ၊ တတ်သိပညာရှင်နှင့် အာဏာပိုင်အဖွဲ့အစည်းမှ လူများ အစုံပါဝင်သည်ကို တွေ့မြင်နိုင်သည်။

အိန္ဒိယနိုင်ငံတွင် အသိတရားကင်းမဲ့သောခေါင်းဆောင်များသည် နိုင်ငံရေးတွင် ပါဝင်ပတ်သက်ကာ မွတ်စလင်မ်ထု ကို ခုတုံးလုပ်ခဲ့သည်။ သူတို့ကြောင့် မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့ အထင်အမြင်လွဲကာ ဆုံးရှုံးမှုများကို ခံခဲ့ရရှာသည်။ ဤသို့ အခြေအနေဆိုးဝါးနေခိုက်တွင် ဒါဝသ်လှုပ်ရှားမှုသည် ကြီးမားသော မမျှော်လင့်နိုင်သည့် အောင်မြင်မှုကို ရယူနိုင်ခဲ့သည်။ အိန္ဒိယပြည်ရှိ အောက်ခြေ အလွှာမှ အပယ်ခံလူတန်းစားများသည် အစ္စလာမ်လူ့ဘောင်သို့ အုပ်စုလိုက်ဝင် ရောက်လာခဲ့ကြသည်။ ဤဖြစ်ရပ်သည် မည်ရွေ့မည်မျှကြီးမြတ်သော ဖြစ်ရပ်ဖြစ် ကြောင်းကို ဤစာပိုဒ်နှင့်ပင်လျှင် အကဲခတ်၍ရနိုင်ပါသည်။

၁၉၈၁ခုနှစ်ဩဂုတ်လ၅ရက်ထုတ် အိန္ဒိယနိုင်ငံ Radiance အပတ်စဉ် သတင်းစာတွင် အနောက်ဘင်္ဂလားရာမေရှ်စရ်ပူရ်မှ ကိရိရှ်နာ ဒန်ဆင်ဒါရ်၏ စိုးရိမ်ကြီးစွာ ရေးသားထားသော ကောက်နုတ်ချက်ဖြစ်သည်။

"ဟိန္ဒူဘာသာဝင်တို့က နောက်တဝပြောင်းခြင်းကို ယုံကြည်ချက်အဖြစ်

လက်ခံကြသည်။ ဤဟိန္ဒူမှ ဘဝပြောင်းခြင်း သည် မိနာကရှိုရမ်(တမိလ်နာဒူ)တွင် ၁၉၈၁ခုနှစ် ဖေဖော်ဝါရီလအလယ်ပိုင်းတွင် အစုလိုက်အပြုံလိုက် မွတ်စလင်မ်အဖြစ် အစ္စလာမ်ကို လက်ခံခြင်းဖြင့် ဘဝပြောင်းလာခဲ့ကြသည်။"

ဤကမ္ဘာအဝှမ်းတွင် ဖြစ်ပေါ်လာနေပြီးဖြစ်သောဖြစ်ရပ်များသည် မွတ်စလင်မ်တို့၏ မျက်မှောက်ခေတ်တွင်ရှိသော ဘာသာရေးဆိုင်ရာလှုပ်ရှားမှုသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင်ယုံကြည်လက်ခံခြင်းမဲ့သော Discredit ဟူသော အဓိပ္ပာယ်ကို ဆောင်ယူခြင်းပင်ဖြစ်နေသည်။ မွတ်စလင်မ်တို့သည် အသက်အိုးအိမ်စည်းစိမ်များကို စွန့်လွှတ်စွန့်စားပြုကာ လှုပ်ရှား နေမှုများသည် အဖြေမှန်ကို ပေးဆောင်နိုင်ခြင်းမရှိပေ။ တစ်ဖက်တွင် မွတ်စလင်မ်ခေါင်းဆောင်တို့ကို ဥပေက္ခာ ပြုနေသောလှုပ်ရှားမှုများသည် အကျိုးများကို ပေးနေပြီးဖြစ်သည်။ ကမ္ဘာအဝှမ်းတွင် ယင်းဖြစ်ထွန်းလာမှုက မိမိဖာသာ ပေါ်ထွက်လာနေသော သီးနှံပင်ပမာဖြစ်နေသည်။

ဤဖြစ်ရပ်များကပြဆိုသည်မှာ အလ္လာဟ်အရှင်မြတ်၏ ပံ့ပိုးကူညီမှုကို ရယူလိုပါလျှင် ဒါဝသ်လုပ်ငန်းကို မိမိတို့၏ နယ်မြေတွင် စတင်ပြုရမည် အသိဖြစ်သည်။ ဤသို့အားဖြင့် ပိတ်နေသောတံခါးများသည် ပွင့်လာလိမ့်မည်။ မြင့်မားခိုင်ခန့်သော သံတိုင်များသည် ရွှေ့လျားလာမည်ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်၏ စေခိုင်းသောဒါဝသ်တာဝန်ကို ထမ်းဆောင်လာပါမှ လောကကြီး တစ်ခုလုံးသည် စိမ်းလန်းစိုပြေလာမည်။ မည်သူတစ်ဦးတစ်ယောက်၏ အားစိုက်မှု မပါရှိပဲ မြေကြီးသည် သူ၏ အတွင်း မြှုပ်နေသော သယံဇာတများကို ပေါ်ထွန်း လာစေမည်ဖြစ်သည်။အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အား ဒါဝသ်ဖိတ် ခေါ်မှုဖြစ်သည့် အစ္စလာမ်ကို မသိမြင်ရသေးသော ဘာသာခြားသူတို့ကို သင်္ဃလိဂ် တည်းဟူသော ငြိမ်းချမ်းရေးသဝဏ်ကို ပေးပို့ဖြန့်ချိစေလိုသည်။ အကယ်၍ မွတ်စလင်မ်တို့ အနေဖြင့် အလ္လာဟ် အရှင်မြတ်၏ နိမိတ်ပြချက်ကို သဘောပေါက်ပြီး ဘာသာခြားတို့ကို အစ္စလာမ်ဒေသနာတော်ကိုပို့ချက ဒါဝသ်အိလလ်လာဟ်ကို ဆောင်ရွက်လိုက်လာလျှင် ယခုလက်ရှိ အခြေအနေအရပ်ရပ်သည် အခြေအနေ

ကောင်းဖက်သို့ ဆထက်ထမ်းပိုး အကြိမ်များစွာ တိုးတက်လာမည်ဖြစ်သည်။

ဤသို့အားဖြင့် ယင်းရလဒ်အကျိုးကို မျက်မှောက်ခေတ်ကာလတွင်ပင် အစ္စလာမ်၏ အပေါ်စီးမှုရလိုသော လက်တွေ့အမြင်ဖြင့် ရှုမြင်ရမည်ဖြစ်သည်။ ဤအစ္စလာမ်ကို အပေါ်စီးရယူလိုမှုကို ကျွန်ုပ်တို့သည် ရာစုနှစ်ပေါင်းများစွာကတည်းက စောင့်မျှော်နေကြခြင်းဖြစ်သည်။ ဤဖြစ်လိုသောအမြင်ကို အခြားသော နေရာတွင် ကျွန်ုပ်တို့ရှာကြံနေကြသည်မှာ အချိန်အတော်ကြာမြင့်ခဲ့ပြီး ယင်းသည် ဖြစ်ထွန်းမလာပါ။

## သတိသံဝေဂယူစရာမြင်ကွင်း

အနောက်တိုင်း၏ကျော်ကြားလှသည့် ဒဿနပညာရှင်ကြီးလည်းဖြစ်၊ ကျော်ကြားလှသော စာရေးဆရာကြီးလည်း ဖြစ်သော **ဂျော့ဘာနက်ရှော့(၁၈၅၆-၁၉၅၀)က** ဆိုခဲ့သည်မှာ

''အင်္ဂလန်နိုင်ငံသာမက ဥရောပတိုက်တစ်ခုလုံးကို အနာဂတ်နှစ်၁၀၀ကာလတွင် အပေါ်စီး ပြောင်းလဲဖြစ်ထွန်းရမည့် ဘာသာတရားကို ဖော်ပြရလျှင် ယင်းသည်အခြားမဟုတ်၊ အစ္စလာမ် သာသနာပင်ဖြစ်သည်။ ကျွန်တော်သည် အစဉ်အမြဲ မုဟမ္မဒ် ﷺ ၏ ဘာသာတရားကို အလွန်လေးစားစွာ ရှုမြင်ပါသည်။ အဘယ်ကြောင့်ဆိုသော် ယင်းယုံကြည်ချက်၏ အဆင့်မြင့်မား မဖော်ပြနိုင်သော စွမ်းဆောင်အားကြောင့်ပင်၊ ဤသည်ကမ္ဘာကြီး၏အခြေအနေ ပြောင်းလဲဖြစ်ထွန်းမှုကို မိမိအတွင်းဆွဲဆောင်နိုင်စွမ်းရှိသော တစ်ခုတည်းသော ယုံကြည်ချက်တရား ဖြစ်သည်။ ဤယုံကြည်ချက်သည် မည်သည့်ခေတ်ကာလတွင်မဆို ကျင့်သုံးနိုင်စွမ်းရှိလာသည်။''

အိန္ဒိယနိုင်ငံတွင် ဟိန္ဒူဘာသာကို တစ်ခေတ်ဆန်း တင်ပြခဲ့သူ အာရိယာစမာဂျ် ခေါင်းဆောင် ဒဿနပညာရှင် ကြီး **ဆွာမိဗိဝိတ်အာနန်(၁၈၆၃-၁၉၀၂)က** ရေးသားသည်မှာ

'အဒ်ဝိဿဒ်ဝါရ်'သည် ယုံကြည်ချက်ဆိုင်ရာနှင့် ဒဿန လောက၏ အမြင့်ဆုံး

စကားလုံးဖြစ်သည်။ ယင်းသည် တစ်ခုတည်းသော အဆင့်လည်း ဖြစ်ပြန်သည်။ ယင်းအမြင်ရှိသော သူတို့သည် ဘာသာတရားဆိုင်ရာနှင့် အုပ်စုဂိုဏ်းဂဏများကို အချစ်စိတ် မေတ္တာတရားဖြင့် ရှုမြင်ကြခြင်းဖြစ်သည်။လက်တွေ့ဘဝ၏ အဒ်ဝိသာဒ်ဝါရ်သည် လူသားအားလုံးကို မိမိကဲ့သို့အမြင်ဖြင့် ကြည့်ကြသည်။ မိမိတို့၏ သွေးရင်းပမာ ဆက်ဆံခြင်းလည်း ရှိသည်။ ဤစိတ်ဓာတ်သည် ဟိန္ဒူတို့တွင် ဘယ်သော အခါမှပေါက်ဖွားလာခြင်း မရှိပါ။ အခြားဘက်တွင် ကျွန်ုပ်၏ ကိုယ်ပိုင်ဆန်းစစ်ချက်အရအကယ်၍ ဘာသာတရားတစ်ခုကအတတ်နိုင်ဆုံး သောလူတန်းစား ညီမျှမှု မဆာဝါသ် ကိုလက်လှမ်းမီမည့်အနေအထားက အစ္စလာမ်သာသနာသည်သာလျှင်ဖြစ်သည်။ ထပ်၍ဆိုပါမည်၊ အစ္စလာမ်သည်သာ။ သို့ဖြစ်၍ ကျွန်ုပ်အလေးအနက်ထား၍ စဉ်းစားမိသည်မှာ အစ္စလာမ်၏ ပံ့ပိုးကူညီမှု မပါဘဲ 'ဝိဒါနသ်'၏ အတွေးအခေါ်သည် မည်သို့မျှ တန်ဘိုးရှိသော အရာဖြစ်လိမ့်မည်မဟုတ်။ ကျွန်ုပ်တို့၏ မိခင်မြေ အိန္ဒိယတွင် ကြီးမားကျယ်ပြန့်လှသော ဘဝတည်ဆောက် မှု နည်းစဉ် ဒဿနနှစ်ရပ်ရှိပါသည်။ ဟိန္ဒူဝါဒနှင့် အစ္စလာမ်၏ အဆင့်သည် ညီညွတ်သွေးစည်းခြင်းပင် ဖြစ်သည်။ ဟိန္ဒူတို့၏ ဉာဏ်ရည်နှင့် အစ္စလာမ်၏ ခန္ဓာကိုယ်တည်ဆောက်မှုသည် တစ်ခုတည်းသော မျှော်လင့်ချက် ဖြစ်နေပေသည်။ ကျွန်ုပ်အနေဖြင့် ကိုယ်ပိုင်အတွေးအမြင်အားဖြင့် ရှုမြင်သည်မှာ အနာဂတ်၏ အဆင့်မြင့်သော အိန္ဒိယသည် မျက်မှောက် ပဋိပက္ခနှင့် အငြင်းပွားမှုမှ ရုန်းထွက်လာပြီး၊ အဆင့်မြင့်မား ထည်ဝါပြီး အောင်မြင်မှုအစုံကို ရရှိသော ဒေသဖြစ်လာမည်ဖြစ်မည်။ ဤဝိဒါနသ်၏ ဉာဏ်ရည်နှင့် အစ္စလာမ်၏ ခန္ဓာကိုယ်အားဖြင့်သာလျှင် ပေါ်ထွန်းလာမည်ဖြစ်သည်။

ဆွာမိဗိဝိတ် အာနန်၏ပေးစာများ(၁၉၇၀၊ စာ-၄၅၃)

ယနေ့ခေတ် လူသားတို့အဖို့ရာတွင် သူတို့၏ ဘဝဆိုင်ရာ လိုအပ်ချက်ကို ပြီးပြည့်စုံစေဖို့ရန် အစ္စလာမ်ကို အမှီ သဟဲပြုနေရခြင်း သည်အံ့သြစရာတစ်ခုဖြစ်နေပါသည်။ ဤသို့မပြုနိုင်လျှင် သူတို့၏ လုပ်ဆောင်ချက်သည် အထမြောက် လိမ့်မည်မဟုတ်ဟူ၍လည်း ခံယူနေသယောင် ရှိနေသည်။

ဤသို့ထင်မြင်ယူဆနေသော လူသားများ ရှိနေသလို၊ ကျွန်ုပ်တို့ကမူ လူတို့၏ နိုင်မာလှသော အုတ်နံရံကြီးတွင် မိမိဦးခေါင်းကိုရိုက်ခါ ပြိုကွဲအောင်ပြု လုပ်နေကြသည်။ သဘာဝ လောကကြီးက ဤမြင်ကွင်းကို ယခင်က တွေ့မြင်ကြ မည်မဟုတ်ပါ။

စင်စစ်အားဖြင့် အစ္စလာမ်သည်သာလျှင် ကမ္ဘာ့လူသားတို့နှင့် ကျွန်ုပ်တို့မွတ်စလင်မ်ဟု ဆိုသူတို့အတွက် နောက်ဆုံး မျှော်လင့်အားကိုးရာဖြစ်သည်။ ကမ္ဘာကြီးသည် အဖက်ဖက်မှ တိုးတက်မှုအလုံးစုံကို ရရှိနေသည်ကြားမှာ လောကကြီး၏ အရှင်သခင်ထံမှ လမ်းညွှန်ချက်မရရှိနေသေးကြောင်း အသိဖြင့်မငြိမ်မသက်သော အနေအထားတွင် ရှိနေသည်။ မွတ်စလင်မ် တို့မျက်ဆီး ယိုယွင်းနေရခြင်းသည်လည်း လောကကြီး၏ အရှင်သခင် အလ္လာဟ်အရှင်မြတ်က ပေးအပ်ထားသော တာဝန် ရပ်ကိုကျေပွန်ကာ လူသားတို့ကို အသိပေးခြင်း မှဲ့နေ၍ဖြစ်ပြန်သည်။

လောကသားတို့သည် သူတို့၏ ရပိုင်ခွင့်ကို မရရှိဖြစ်နေမှုဒဏ်ကို ခံနေရသလို၊ မွတ်စလင်မ်တို့သည် ဟတ်က်အမှန်တရားကို လျစ်လျူရှုခြင်းကြောင့် ပြစ်ဒါဏ်ခံနေရသည်။ ဤဖြစ်ပေါ်မှု အခြေအနေသည် မွတ်စလင်မ်တို့သည် ဟတ်က်အမှန်တရားကို ဒါအီဖိတ်ခေါ်သူအဖြစ် မားမားမတ်မတ်ရပ်တည်ခြင်း မပြုမရှေ့ဖြစ်နေသည်။

အခြားလုပ်ဆောင်ချက်များကို အားသွန်ခွန်စိုက်ပြုလျက်နေခြင်းနှင့် အခြားလုပ်ဆောင်ချက်များကို ဒါဝသ်နှင့်သဗလိဂ်ဟူသော ဝေါဟာရကို လိုသလိုအသုံးပြုခြင်းသည် သူတို့အတွက် ပြစ်ဒဏ်၏ကျခံရမှုကို နက်ရှိုင်း သည့်ထက်နက်ရှိုင်းလာ မည်သာဖြစ်သည်။ သူတို့သည် အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ်ကရုဏာတော်ကို ခံယူနိုင်မည်လည်း မဟုတ်ပါ။ အကယ်၍ မွတ်စလင်မ်တို့သည် အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်မှုဒါဝသ်လုပ်ငန်းစဉ်ကို ဆောင်ရွက်လာပါမူ သူတို့အတွက် လောကီဒွန်ယာ တစ်ခုလုံးသည် ရရှိပြီး သားဖြစ် မည်။ ဤသည်ကို မပြုလျှင်မူ ဘာမျှမရနိုင်ပါ။

ဩစတေးလျနိုင်ငံမှ Dr. Cheris Wady က သူ၏ The Muslim Mind ဟူသော စာအုပ်တွင် အစ္စလာမ်ကို မိတ်ဆက်ရင်းက အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရသည်။

''ဤသည် အစ္စလာမ်က ရှုမြင်နိုင်ခဲ့သော မြင်ကွင်းဖြစ်သည်။ ယင်းမြင်ကွင်းတွင် ကျွန်ုပ်တို့၏ အသက်ရှုမဝဖြစ် နေသော အဖြစ်အပျက်များ၊ ကမ္ဘာလောကကြီးအတွက် များပြားစွာ ဖြစ်ထွန်းမှု အဖြေများ ရှိနေသည်။ ဤသည့် မြင်ကွင်းမှ လက်လွှတ်ခဲ့ရသော ရတနာသိုက်ကြီးဖြစ်နေသည်။ ယင်းကို လက်လွှတ်ခဲ့ကြသော သူတို့က ယင်းကို တမ်းတ မြွက်ဆိုနေကြသော သူများသာလျှင် ဖြစ်သည်။ သူတို့၏ ဘဝတည်ဆောက်မှုသည်လည်း ကျွန်ုပ်မ ဖော်ပြခဲ့သော အစ္စလာမ်၏ ဖြစ်ထွန်းမှုနည်းစဉ်နှင့် မတူညီနေခြင်းသည်လည်း အံ့ဩစရာ မဟုတ်ပါ။ ယင်းအစ္စလာမ်ကို လက်ခံသည်ဆိုသော သူတို့သည် စစ်မှန်သော အစ္စလာမ်ဘက်သို့ မလျှောက်လှမ်းသမျှ ကာလပတ်လုံး သူတို့၏ လူသားလောကကြီး၏ ခရီးစဉ်သည် နှောင့်နှေးကာ ဒုက္ခ၊ သုက္ခနှင့်ကြုံတွေ့ရမည်သာ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်ထံတော်မှ ယင်းသူတို့အတွက် ရောဂါကုထုံး၊ အလင်းရောင်နှင့် လမ်းကြောင်းမှန်သည့် အစ္စလာမ်၏ စစ်မှန်သော တရားတွင်သာ ရှိနေသည်။ ထိုမျှသာမက ကမ္ဘာ့လူသားအားလုံးအတွက်လည်း ဖြစ်သည်။Dr. Cheris Wady, The Muslim Mind, Maxmillan Co., Ltd.

အထက်ဖော်ပြပါအချက်အလက်များတွင် ကျွန်ုပ်တို့အတွက် သမိုင်းကြောင်းအရ လူသားဖြစ်ခြင်းဂုဏ်ရည်သည် အလ္လာဟ်အရှင်မြတ်ပို့ချခဲ့သော လမ်းညွှန်ချက်ကိုပို့ချမှုဒါဝသ်တွင်တည်ရှိနေကြောင်းသိနိုင်သည်။

အို–ရရူလ်တမန်တော်၊ အသင်သည် မိမိ အရှင်မြတ်အထံတော်မှ မိမိထံသို့ ကျရောက် လာသမျှသော ဝဟီလမ်းညွှန်ချက်တရားများကိုလူခပ်သိမ်း တို့ထံသို့ ပို့ဆောင် ဟောကြားပါလေ။အကယ်၍အသင်သည်မပြုခဲ့ပါလျှင်၊အသင်သည်အလ္လာဟ် အရှင်မြတ်၏ အကြောင်းကြားချက်တာဝန်ကို ကျေပြွန်စွာဆောင်ရွက်သည်မမည်ချေ။( ၅ း၆၇)

ဤဖော်ပြချက်များကို တမန်တော်မြတ်နွတ်မှ ပထမအကြိမ်မြွက်ဆိုချိန်

တွင် ဤသမိုင်းဖြစ်ရပ်မှန်ကန်ချက် အနှစ်သာရ များပေါ်ထွန်းလာခြင်းမရှိသေးပါ။ ဤသမိုင်းဆိုင်ရာ အကျိုးဆက်ဖြစ်ထွန်းမှုများသည် သမိုင်းကာချပ်၏ အနာဂတ်ကန့်လန့်ကာ နောက်တွင် ဖုံးကွယ်နေပြီး လူမြင်ကွင်းတွင် ပေါ်ထွက်လာခြင်း မရှိသေးပါ။ ဤသို့သောအခြေအနေ၊ အချိန် အခါတွင် ယင်းအစ္စလာမ်၏ ဒါဝသ် ဖိတ်ခေါ်မှုကို ယုံကြည်မှုနှင့် အသက်အိုးအိမ်၊ စည်းစိမ် အဝဝကို စွန့်လွှတ်စွန့်စား ပြုမှုသည် အလွန်ခက်ခဲသောစွန့်စားမှုတစ်ရပ်ဖြစ်နေသည်။ လူ၏သမိုင်းကို အဆုံးတွင်သုံးသပ်ရသည်မှာလွယ်ကူသော်လည်း အစဦးတွင်ခန့်မှန်းရေးမှာ ခက်ခဲ သော အလုပ်ဖြစ်ပေသည်။

အစ္စလာမ့်အစဦးခေတ်ကာလက အီမာန်ယုံကြည်သူတို့သည် သမိုင်း၏ ခက်ခဲလှသော တာဝန်ကို ထမ်းပိုးဆောင်ရွက် ခဲ့ကြသည်။ သူတို့သည် ဖြစ်ပျက်လာမှု၏ ရလဒ်ကို ကြိုတင်မြင်နိုင်စွမ်း ရှိနေခဲ့သည်။ ဤသို့ ယုံကြည်ချက် စိတ်ဓာတ်ဖြင့် ကြိုးပမ်းလှုပ်ရှားမှုကို ပြုခဲ့ကြသည်။ ကျွန်ုပ်တို့အတွက် တာဝန်ရပ်မှု အလွန်လွယ်ကူသော ထမ်းပိုးမှုသာ ရှိလာခဲ့သည်။

အတိတ်ကာလက ဖြစ်ထွန်းလာခဲ့ရသော အကျိုးသက်ရောက်မှု နည်းစဉ်ကို ကျွန်ုပ်တို့က ပြန်လည်၍ တည်ဆောက်ပြခြင်း သာရှိသည်။ ဤသည်ကို ကျွန်ုပ်တို့၏ ဘဝတည်ဆောက်မှုတွင် ဖြည့်တင်းပြသရေးသာ ဖြစ်သည်။ ဤသို့လွယ်ကူသော တာဝန်ကို ကျွန်ုပ်တို့အနေဖြင့် မထမ်းဆောင်နိုင်ပါ။ ခက်ခဲသော စစ်ကြောရသောဆန်းစစ်မှုကို အတိတ်စဦးမွတ်စလင်မ် တို့က ပြည့်ဝစွာ ထမ်းဆောင် ပြသနိုင်ခဲ့သော်လည်း ကျွန်ုပ်တို့ကမူ စာမေးပွဲတွင် ကျရှုံးသူများ ပမာဖြစ်နေပါသည်။

ကောန်အမှန်ပင် အလ္လာဟ်အရှင်မြတ်သည် ငြင်းဆိုနေကြသော သူတို့ကို လမ်းမှန်ပြသခြင်း မရှိပါ။[အလ်မာအေဒဟ်း၆၇] ဤကျမ်းတော်မြတ်ကုရ်အာန်၏ လမ်းညွှန်ချက်ကို အသေးစိတ်စွာ လေ့လာသုံးသပ်ကြည့်ပါက မွတ်စလင်မ်တို့သည် အလ္လာဟ်အရှင်မြတ် ပြသထားသော လမ်းညွှန်ချက်အတိုင်း အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဒါဝသ်ဖိတ်ခေါ်မှုပြုလာခဲ့လျှင် အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့ကို ဆန့်ကျင်နေသောသူတို့ကို ယင်းလမ်းမှန်သို့ဖိတ်ခေါ်နေသူတို့ကို ဆန့်ကျင်မှု မပြုနိုင်

အောင်မျက်ကန်းသဖွယ်ဖြစ်လာစေမည်ဖြစ်သည်။ ယုံကြည်သူတို့ကို မည်သည့် အတားအဆီးဒုက္ခပေး ခြင်းကိုမျှ ပြုလုပ်နိုင်တော့မည်မဟုတ်ပါ။

နောက်ထပ်ဖိတ်ခေါ်သူတို့ရှုထောင့်မှလည်း သုံးသပ်စရာ မြင်ကွင်းက ရှိနေပါသည်။အကယ်၍ အစ္စလာမ်ကိုယုံကြည်လက်ခံပါသည်ဟုဆိုသော မွတ်စလင်မ် တို့သည် အလ္လာဟ်အရှင်မြတ်၏ နည်းပေးလမ်းညွှန်ချက်ကို ပစ်ပယ်လျက် မိမိ၏ လုံခြုံမှုနှင့် အစောင့်ရှောက်ခံမှုအတွက် အခြားနည်းလမ်းများကို အသုံးပြုခဲ့လျှင် အလ္လာဟ်အရှင်မြတ်သည် သူတို့၏ ကျင့်သုံးနေသောနည်းများ၊ ကြိုးပမ်းနေမှုများကို ဖြစ်ထွန်းပေးမည်မဟုတ်ပေ။ ဤသို့အားဖြင့် သူတို့သည်ကြီးမားသော စွန့်လွှတ် စွန့်စားမှု၊ ကြိုးပမ်းအားထုတ်မှုများသည် အချည်းနှီးဖြစ်ထွန်းလာမှုကိုသာလျှင် ရှုမြင်ရမည်ဖြစ်သည်။

ဤသည်ပင်လျှင် မျက်မှောက်ခေတ်မွတ်စလင်မ်တို့ ကြုံတွေ့ခံစားနေရ သော မြင်ကွင်းဖြစ်သည်။ မျက်မှောက်မွတ်စလင်မ် တို့သည် သူတို့၏ အသက်ရှင် ရပ်တည်မှုအတွက် အသက်၊ အိုးအိမ်စည်းစိမ်ပေါင်းများကို စတေးခဲ့ကြသည်။ ယင်းသည် အချည်းနှီးသောရလဒ်ကိုသာလျှင်ဖြစ်စေခဲ့ပါသည်။ခရစ်တော် မတိုင်ခင် က တမန်တော်တစ်ပါးက ယဟူဒီမျိုးနွယ်ဝင်တို့အတွက် မြွက်ဆိုချက် တစ်ရပ်ရှိ ပါသည်။ "အသင်တို့သည် များစွာစိုက်ပျိုးခဲ့သော်လည်း ဖြစ်ထွန်းလာမှုက နည်းပါး နေသည်။ အသင်တို့ စားသုံးနေကြသော်လည်း ဖြည့်ဆည်းလာမှုမရှိပါ။ အသင်တို့ သောက်သုံးနေသော်လည်း အငတ်မပြေနိုင်၊ လုပ်သားတို့သည် သူတို့၏ လုပ်ခကို အိတ်ပေါက်တွင် စုဆောင်းနေသည်အသွင်ဖြစ်နေသည်။အသင်တို့သည် မျှော် လင့် ချက်ကြီးမားလွန်းလှသည်။ သို့သော်အနည်းငယ်သာ ခံစားခွင့် ရရှိနေသည်။"

ဤစကား မြွက်ဆိုချက်သည် မျက်မှောက်ခေတ် မွတ်စလင်မ်တို့အတွက် ပြောဆိုသကဲ့သို့ ဖြစ်နေသည်။ မျက်မှောက် မွတ်စလင်မ်တို့သည် ကြီးမားလှသော လှုပ်ရှားမှုများကို ပြုခဲ့ကြသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်က ယင်းသူတို့၏ ကြိုးပမ်းမှုကို ကွယ်ပျောက်စေခဲ့ပြီးဖြစ်သည်။ ဤဖော်ပြချက်များကို သဘော ပေါက်ခြင်း မရှိခဲ့ပါလျှင် ကိယာမသ်နေ့တွင် အိစ္စရာဖီလ်၏ လွှင့်ထူးမှုကိုသာလျှင် နားစွင့်ရန်ကျန်ရှိပါတော့သည်။

အခန်း ( ၆ )

# သဘာဝတရား၏ စည်းစနစ်ဇယား

အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းထားသော အရာမှန်သမျှတွင် ယင်းသူတို့အတွက်ရှင်သန်မှုဆိုင်ရာစည်းစနစ်ဇယားရှိနေသည်။ အရာမှန်သမျှသည် ယင်းစည်းစနစ်ဇယားအားဖြင့် လှုပ်ရှားရှင်သန် နေရသည်။

ထိုအရှင်မြတ်သည် အလ္လာဟ်အရှင်မြတ်ပင်ဖြစ်သည်၊ မိုးကောင်းကင်ကို စိုးမိုးအုပ်ချုပ်မှု အာဏာသည်လည်းကောင်း၊ ကမ္ဘာမြေကိုစိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ထိုအလ္လာဟ်အရှင်မြတ်၌သာ ရှိပေသည်။
စင်စစ်ထိုအရှင်မြတ်သည် တစ်ဦးတစ်ယောက်ကိုမျှလည်း သားအဖြစ် ပြုလုပ်တော်မူခဲ့သည် မဟုတ်ပေ။ထို့ပြင် ထိုအရှင်မြတ်၌ စိုးမိုးအုပ်ချုပ်မှုတွင် တွဲဖက်ဟူ၍လည်း တစ်ဦးတစ်ယောက်မျှမရှိချေ။ ထိုမှတပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်း တို့ကို ဖန်ဆင်းတော်မူခဲ့သည့်ပြင် ထိုအရာများကိုနှိုင်းချိန် တိုင်းဆထားတော်မူခဲ့လေသည်။

[အလ်ဖုရ်ကာန်း၂]

နေ၊ လ၊ ကြယ်နက္ခတ်တာရာတို့၏ လှုပ်ရှားမှုသည် အလွန်တိကျသော စည်းစနစ်အားဖြင့် အတိမ်းအစောင်း မခံရလေ အောင် သူတို့၏ ခရီးစဉ်ကို ကျော်ဖြတ်လျက်ရှိနေကြသည်။

ၡင်းပြင် နေသည်လည်း သက်သေလက္ခဏာ တစ်ရပ်ပင်။ ထိုနေသည် သတ်မှတ်ထားသောလမ်း အတိုင်း သွားလျက် ရှိနေလေ၏။၎င်းသည်ကား အလွန်တရားနိုင်နင်း လွှမ်းမိုးတော်မူသောအကြွင်းမဲ့ သိရှိတော်မူသောအလ္လာဟ်အရှင်မြတ်၏ တိုင်းတာ သတ်မှတ်ချက်ပင် ဖြစ်၏။
ထိုနည်းတူစွာ လသည်လည်း သက်သေ လက္ခဏာတစ်ရပ်ပင်ဖြစ်သည်။အလ္လါဟ် အရှင်မြတ်သည် ထိုလ အဖို့ ခရီးစခန်းများကို သတ်မှတ်တော်မူခဲ့ရာ နောက်ဆုံးတွင်မူ ထိုလမှာခြောက်သွေ့လျက်ရှိသော စွန်ပလွံကိုင်း ကဲ့သို့ပြန်၍ဖြစ်လာလေ၏။
နေသည် လကိုမမီနိုင်ပေရာ ထိုနည်းတူစွာညဉ့်သည်လည်း နေ့ကို ကျော်လွန်နိုင်သည်မဟုတ်ပေ။စင်စစ်မှာကား အသီးသီးတို့သည်ဂြိုဟ်နက္ခတ် သွားလာရာ လမ်းကြောင်းတစ်ခုစီ၌ ကူးခတ်သွားလာ၍ နေကြကုန်သတည်း။ (ယာစင်န် : ၃၉)

မိခင်တစ်ဦး၏ သားအိမ်တွင် အသက်ဇီဝအမြုတေစတင်လာပြီး တဖြည်းဖြည်းနှင့် ဖွံ့ဖြိုးကြီးမား ဖြစ်ထွန်းလာခဲ့ကြရသည်။ ယင်းနောက်လူသားတစ်ဦးအဖြစ် သတ်မှတ်ထားသော အချိန်တွင် လူ့လောကသို့ ထွက်ပေါ်လာရခြင်းဖြစ်သည်။ ဤကဲ့သို့ပင်အရာမှန်သမျှ အတွက် အလ္လာဟ်အရှင်မြတ်အထံတော်တွင် တိကျသောစည်းစနစ်သတ်မှတ်ချက်က ရှိနေပါသည်။

كُلُّ شَيْءٍ عِنْدَهُ بِمِقْدَارٍ [အလ်ရာအဒ် ၈] ဤဖြစ်ထွန်း လာမှု၏ ခရီးစဉ်သည် မည်သည့်တိုက်ခိုက်မှု အဟန့်အတားမှ မပါဘဲ သူတို့၏ ခရီးပန်းတိုင်သို့ ရောက်ရှိ ရခြင်း ဖြစ်သည်။

[ယာစီန်း ၄၀]

ဤသည်အလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ထားသော သက်ရှိ သက်မဲ့ အရာများလောက်သာမဟုတ်ပါ။ဤသတ်မှတ်ချက်သည်လူသားတို့၏ဘ၀ တည်ဆောက်မှု ဖြစ်စဉ်အတွက်လည်း ဖြစ်၏။ ဤဘ၀ဆိုင်ရာပြဿနာရပ်များသည် လူတို့၏ ကြိုးပမ်းမှုအရသာလျှင်ဖြစ်သည်မှန်လည်း ယင်းသည်လည်းအလ္လာဟ် အရှင်မြတ်၏စနစ်ဇယားအားဖြင့်သာလျှင်ရှင်သန်ဖြစ်ထွန်းလာရခြင်းဖြစ်သည်။

## လူသားတို့အကြောင်း ဖြစ်ထွန်းလာမှုအတွက် စနစ်ဇယား

အစ္စလာမ်မတိုင်ခင်က အရိုင်းခေတ်အရပ်လူ့အဖွဲ့အစည်းတွင် အစဉ်အလာ တစ်ခုရှိခဲ့သည်။ ယင်းအစဉ်အလာကဇနီးဖြစ်သူအား ဒေါသထွက်လာပါက တစ်ချိန်တည်းတွင် သုံးသွလာက်မှ အကြိမ်တစ်ရာအထိ သွလာက် ပေးပြီး အိမ်မှ နှင်ထုတ်လေ့ရှိသည်။ဤသို့ပြုမူခြင်းကြောင့်အိမ်ထောင်စုပြဿနာများ။ လူမှုရေးပြဿနာများ။ မျိုးနွယ်စုပြဿနာများ ပေါ်ထွန်းလာခဲ့သည်။

အစ္စလာမ်သာသနာ ရောက်ရှိလာပြီးနောက် ရှေးအစဉ်အလာကို ပယ်ဖျက်လျက် ကျမ်းမြတ်ကုရ်အာန်၏လမ်းညွှန်ချက်အတိုင်း သွလာက်ပြတ်စဲလိုပါလျှင် အချိန်ကန့်သတ်လျက် ရာသီချိန်ကို မှတည်လျက် သုံးကြိမ်ခွဲ သွလာက်ပေးသော နည်းစဉ်ကိုညွှန်ပြ၏။ ကျမ်းတော်မြတ်ကုရ်အာန်က ပြသသော

နည်းစဉ်အရဒုတိယအကြိမ်၊ သူ့လာက်အထိ ပြန်လည် ပေါင်းသင်းရန် အခွင့်အလမ်းသည် ဇနီးမောင်နှံတို့စပ်ကြားတွင် ရှိနေသေးသည်။ တတိယအကြိမ်တွင်မူ နောက်ထပ်ပေါင်း သင်းရန် အကြောင်းမရှိ၍၊ ခွဲခွာရမည်ဖြစ်သည်။ ဤသို့အားဖြင့် တစ်စုံတစ်ခုသော ပြဿနာပေါ်ပေါက်ခြင်း မရှိဘဲ ဇနီးမောင်နှံစပ်ကြား ပြဿနာ ကြေအေးနိုင်ခွင့်ရှိနေသည်။ ထို့ပြင်မက ယင်းစပ်ကြားကာလတွင် အမျိုးသမီးအဖို့ ကိုယ်ဝန်ရှိခဲ့လျှင် သူမ၏ အိမ်ဒေသ်သည် ကလေးမွေးဖွားမြင်ခင်အထိ ရှိလာမည်။ ယင်းကိုယ်ဝန်နှင့် ပတ်သက်၍ တာဝန်ရှိသူ ခင်ပွန်းဖြစ်သူသည် ယင်းတာဝန် အခကြေးငွေကို ကျခံရမည်ဖြစ်သည်။

လျှပ်တပြက် ဆောင်ရွက်တတ်သောအလေ့အထကို အစ္စလာမ်က ဆွဲဘရဲ ကြွကြွခံသောစိတ်ဓါတ်နှင့် အကောင်းကိုမျှော်လင့်သော နည်းလမ်းအားဖြင့် ဆောင်ရွက်စေသည်။ ဤသို့သော အခြေအနေတွင် နှစ်ဖက်နှစ်ဝမှ ပုဂ္ဂိုလ်တို့အတွက် အခွင့်အလန်းအသစ်များ ပေါ်ထွန်းလာစမြဲဖြစ်သည်။ ယင်းအခွင့်အလန်းကို စဦးပိုင်းတွင် စဉ်းစား၍ မရနိုင်ပါ။ ဤသို့အားဖြင့် မိသားစုပြဿနာရပ်သည် သဘာဝနည်းလမ်းကျကျဖြင့် ဆုံးခန်းသို့ ရောက်ရှိသွားတော့သည်။ ဤနည်းစဉ်ကြောင့် မျှော်လင့်ချက်မဲ့သော ပြဿနာရပ်များ ပေါက်ဖွားလာခြင်း မရှိတော့ပါ။ ဤကျင့်စဉ်နည်းလမ်းနှင့် ပတ်သက်၍ ကျမ်းတော်မြတ် ကုရ်အာန်က အောက်ပါအတိုင်း လမ်းညွှန်ဖော်ပြသည်ကို တွေ့ရသည်။

မည်သူမဆို အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံကြည်အားထားပါမူ ထိုအရှင်မြတ်သည် ထိုသူ၏အဖို့ လုံလောက်တော်မူ၏။ စေကန်မလွဲအလ္လာဟ်အရှင်မြတ်သည် မိမိအရေးကိစ္စကို ပြီးမြောက်အောင် ပြုလုပ်ပေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့နှင့် စပ်လျဉ်း၍ အတိုင်းအတာ အချိန်အဆတစ်ခုကို ပြုလုပ်၍ ထားရှိတော်မူပေ သတည်း။

(၆၅ း၃)

အစ်ပွာယ်ဆိုလိုရင်းက အကြင်သူသည် အလ္လာဟ်အရှင်မြတ်၏ နည်းပေး

လမ်းညွှန်ချက်ကို အမှန်ကန်ဆုံး နည်းလမ်း အဖြစ် ယုံကြည်၏။ ထိုမှတစ်ဖန် ယင်းလမ်းညွှန်ချက်ကို ဆွဲဘာရ်ကြဲကြဲခံမှုနှင့် အခြေအနေကောင်း ပေါ်ထွန်း လာသည်အထိ ခါးသီးသောဖြစ်ရပ်များ ရှိနေပါလျက် လိုက်နာကျင့်သုံးလာပါမှ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကောင်းမြတ်သော ပြည့်ဝသော ရလဒ်အတွက် အာမခံချက် ရှိနေသည်။ အလ္လာဟ်အရှင်မြတ်သည် အခြေအနေအရပ်ရပ်နှင့် ပတ်သက်၍အဆုံးအထိ သိမြင်သောအရှင်ဖြစ်၏။

သို့ဖြစ်၍လည်း အလ္လာဟ်အရှင်မြတ်၏ နည်းစနစ်ဖယားသည် ယင်းလိုက် နာသောလူတို့အတွက် အတိမ်းအစောင်းအကွေးများတွင်ကင်းလွတ်ငြိမ်းခွင့်က ရှိနေ ပါသည်။ အလ္လာဟ်အရှင်မြတ်သည် အရှင်၏ ဆွမ်းဆောင်မှု အာဏာဖြင့် အရာအား လုံးကို သူတို့အတွက် စည်းစနစ်ဖယားကို သတ်မှတ်ပေးထားပြီးဖြစ်သည်။ သို့ဖြစ် လေရာ အလ္လာဟ်အရှင်မြတ်၏ လောကကြီးတွင် အောင်မြင်မှုကို ရယူလိုပါလျှင် အရှင်၏ စည်းစနစ်ဖယားကို လိုက်နာရမည်ဖြစ်၏။

## ဆိပ်ငြိမ်သော စီမံကိန်းဖြစ်ထွန်းမှု

ကျမ်းတော်မြတ်ကုရ်အာန်က သဘာဝလောကကြီး၏ ဖြစ်ထွန်းမှုနှင့် ပတ်သက်၍ ဖော်ပြရင်းက အလ္လာဟ်အရှင်မြတ် ၏ လုပ်ငန်းဆောင်တာအားလုံးကို စည်းစနစ်စီမံထားပြီး အလ္လာဟ်အရှင်မြတ်သည် လက္ခဏာတော်များကို ပွင့်လင်း ထင်ရှားစွာဖော်ပြခြင်း ဖြစ်သည်ဟု (၁၃ း ၂)တွင်ဖော်ပြထားသည်။သဘောက သဘာ ဝလောကကြီးနှင့် ကျမ်းတော်မြတ်ကုရ်အာန်သည် တစ်ခုတည်းသော ဖော်ပြ ချက်ကို အသွင်သဘောနှစ်မျိုးနှင့် ဖော်ပြခြင်းဖြစ်သည်။ يدبر الامر يفصل الآيات

ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသော လမ်းညွှန်ချက် တရား များသည် အလ္လာဟ်အရှင်မြတ်က သဘာဝလောကကြီး၏ လှုပ်ရှားမှုအသွင်ဖြင့် လက်တွေ့ဖော်ပြထားခြင်းဖြစ်သည်။ သဘာဝလောကကြီးသည် ကျမ်းတော်မြတ် ကုရ်အာန်၏ လက်တွေ့ပုံဖော်ချက်ဖြစ်သည်။ တစ်နည်းအားဖြင့် ဖော်ပြရသည် ရှိသော် ကုရ်အာန်က ဖော်ပြသော ရှေ့ာနီ၏ အစစ်အမှန်သဘောသည် ကျန်လော ကကြီး၏ လက်တွေ့ပုံဖော်လှုပ်ရှားနေမှုပင် ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် မှန်ကန်မှုမရှိသော ဘာသိုလ်တို့အပေါ်ဝယ် ဟက်အမှန်တရားဝါဒီတို့က အခြေခံ မှန်ကန်သော ခိုင်မြဲသော အနေအထားဖြင့် တည်ဆောက်တိုးတက်လာသည်ကို လိုလားသည်။ ဟက်သစ္စာဝါဒီတို့သည် သူတို့၏ ဥစ္စာပစ္စည်း၊စွမ်းအား၊လုပ်ကိုင်မှု နှင့် သူတို့၏ ကိုယ်ကျင့်တရားများဖြင့် အလ္လာဟ် အရှင်မြတ်၏ ဒီင်န်အ ဆောက်အဦးကို အခိုင်အမာ တည်ဆောက်ရမည်ဖြစ်သည်။ ယင်းကို အလ္လာဟ် အရှင်မြတ်၏ ရန်သူတို့က ကိုင်လှုပ်၍ မရအောင်ပြုနိုင်ရမည်။

အလ္လာဟ်အရှင်မြတ်သည် သူ၏ ဒီင်န်လမ်းညွှန်ချက်တရားကို ပထဝီမြေကြီးပေါ်တွင် အပေါ်စီးဖြင့် အစွန်းရှည်စေလိုသည်။ ဤတာဝန်ကို စစ်မှန်သော အီမာန်ယုံကြည်သူတို့သည်သာလျှင် သူတို့၏ လှုပ်ရှားရုန်းကန်မှုနှင့် စွန့်လွှတ်စွန့်စားသောတာဝန်ထမ်းဆောင်ခြင်းဖြင့် ပြည့်စုံအောင် ပြုနိုင်သည်။

ကျမ်းတော်မြတ်ကုရ်အာန်က ပင့်ကူ၏ အိမ်ကို ဥပမာအားဖြင့် ဖော်ပြသလို သံကိုလည်း ဥပမာအားဖြင့် ဖော်ပြထားသည်ကို တွေ့ရသည်။ ပင့်ကူအိမ်သည် သေးငယ်သော တွန်းအားကိုပင် ခံနိုင်ရည်မရှိ ပျက်လွယ်သည်။ သို့ရာတွင် သံဖြင့် တည်ဆောက်ထားသော ကိုယ်ထည်သည် ကြီးမားသော မုန်တိုင်းကိုပင်လျှင် မည်သို့မျှ မဖြိုဖျက်နိုင်အောင် ခိုင်မာလှသောဂုဏ်သတ္တိရှိသည်။

وانزلنا الحد يد فيه باس شديد وان اوهن البيوت لبيت العنكبوت

အလ္လာဟ်အရှင်မြတ် က ဒီင်န်ယုံကြည်ချက်တရားကို ပင့်ကူအိမ် ကဲ့သို့ မတည်ဆောက်စေလို သံမဏိကိုယ်ဖြင့် တည်ဆောက်မှုနည်းစဉ်သည် အလ္လာဟ်အရှင်မြတ်၏ နည်းစဉ်ဖြစ်သည်။ ဤသို့ပြုရာတွင် စိတ်ငြိမ်သော လုပ်ထုံးလုပ်နည်းအားဖြင့် ရန်သူကို အင်အားမဲ့အောင်ပြုခြင်းပင်ဖြစ်သည်။ ယင်း၏ နေရာတွင် ဟက်အမှန်တရားကို ခိုင်ခံ့သော အခြေခံဖြင့် တည်ဆောက် ရမည် ဖြစ်သည်။ ဤနည်းစဉ်နှင့် ပတ်သက်၍ ကျမ်းတော်မြတ်ကုရ်အာန်၏ လမ်းညွှန်ချက် နှစ်ရပ်ကို ဖော်ပြလိုပါ သည်။

**قد مكر الذين من قبلهم فأتى الله بنيانهم من القواعد فخر**
**عليهم السقف من فوقهم وأتاهم العذاب من حيث لا يشعرون**

ဝေကန်အမုန် ဤသူတို့အလျင်ရှိခဲ့ကြသော သူတို့သည် လျှို့ဝှက်ကြံစည်ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည်၎င်းတို့၏အဆောက်အအုံကို အခြေအမြစ်မှ ပြိုပျက်စေတော်မူခဲ့ရာ ယင်းသူတို့ထက်မှ အိမ်ခေါင်မိုးသည် သူတို့အပေါ်သို့ ပြိုကျလာခဲ့ လေသည်။ထို့မှတပါး ယင်းသူတို့ထံ ပြစ်ဒဏ်သည် သူးတို့ မထင်သော နေရာမှ ဆိုက်ရောက်၍ လာခဲ့လေသည်။ (၁၆း၂၆)

هو الذي أخرج الذين كفروا من أهل الكتاب من ديارهم
لأول الحشر ما ظننتم أن يخرجوا وظنوا أنهم مانعتهم
حصونهم من الله فأتاهم الله من حيث لم يحتسبوا
وقذف في قلوبهم الرعب يخربون بيوتهم بأيديهم
وأيدي المؤمنين فاعتبروا ياأولي الأبصار

ထိုအရှင်မြတ်သည်ပင် ရှေးကျမ်းဂန်ရရှိသူတို့ အနက်သွေဖည်ငြင်းပယ်ခဲ့ကြသော သူတို့အား ပထမ အကြိမ် စုရုံးကြစဉ်အခါ၌ပင်၎င်းတို့၏နေအိမ်များမှ နှင်ထုတ်တော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။အသင်တို့သည်ယင်းတို့ ထွက်သွားကြလိမ့်မည်ဟူ၍ပင် ထင်မြင်ခဲ့ကြသည်မဟုတ်ပေ။ ၎င်းတို့ကိုယ်တိုင်ကလည်း မိမိတို့အား မိမိတို့၏ခံတပ်များသည် အလ္လာဟ်အရှင် မြတ်မှပြစ်ဒဏ်မှစောင့်ရှောက်ကြလိမ့်မည်ဟူ၍ပင် ထင်မြင်နေခဲ့ကြကုန်၏။
သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သည် ၎င်းတို့ထံယင်းသူတို့ မထင်မြင်မယူဆခဲ့ကြသောနေရာမှ ရောက်ရှိ၍လာခဲ့၏။
ထို့မှတစ်ပါး ထိုအရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများတွင် ကြောက်ရွံ့စိုးရိမ်မှုကို သက်ရောက်စေတော်မူခဲ့ရာ ထိုသူတို့မှာ မိမိတို့၏နေအိမ်များကို မိမိတို့၏လက်များဖြင့်ဖျက်ဆီးလျက်ရှိခဲ့ကြကုန်၏။ သို့ဖြစ်ပေရာအို–ဉာဏ်ပညာမျက်စိရှင်အပေါင်း တို့၊ အသင်တို့သည် သင်ခန်းစာယူကြလေကုန်။ (၅၉ း၂)

ဤဖော်ပြချက်အရ သိရှိရသည့်အချက်သည်ကား အလ္လာဟ်အရှင်မြတ်၏ နည်းစဉ်သည် ဆိပ်ငြိမ်သောနည်းစဉ်ဖြစ်သည်၊ ယင်းအားဖြင့်ရန်သူတို့၏ အခြေအမြစ်ကိုအခြေမှဲ့အောင်ပြုရေးပင်ဖြစ်သည်။ ဤဖြစ်ထွန်းမှုသည် အောင်မြင်ပေါက်မြောက်လာစေဖို့ရန် အရေးအကြီးဆုံးသောအချက်က ရန်သူသည် ဤအရေးနှင့်ပတ်သက်ပြီး မသိမြင်ခြင်းပင်ဖြစ်သည်၊ ဤသို့အားဖြင့် တစ်နေ့တွင် သူတို့၏ အမိုးသည် သူတို့၏ ရှေ့မှောက်တွင် ပြိုကျလာသည်ကို တွေ့ရမည်ဖြစ်သည်၊

အလ္လာဟ်အရှင်မြတ်၏ နည်းစဥ်နှင့် စပ်လျဥ်း၍ ကျမ်းတော်မြတ်ကုရ်အာန်က ဥပမာအားဖြင့် အသိပေး၍ ယင်းသည်မျက်မြင် ကိုယ်တွေ့ ဆုံတွေ့ သိရှိနိုင်သော ဥပမာဖြစ်သည်။ ဤသို့ဖော်ပြခြင်းအားဖြင့် ကျွန်ုပ်တို့အနေဖြင့် အလ္လာဟ်အရှင်မြတ်၏ ဟိကမ်မသ်နည်းလမ်းများကို နားလည်နိုင်စေဖို့ရန်ဖြစ်သည်။ လောကကြီးတွင်အသက်ရှင်ရပ်တည်နိုင် စေဖို့ရန် လောကကြီးတွင် ဖြစ်ထွန်းလျက်ရှိနေသော သက်သေသာဓကများမှ သင်ခန်းစာရယူဖို့ အရေးကြီးလှသည်။

ဥပမာအားဖြင့် ဖော်ပြရလျှင် ခြကောင်ကို ကြည့်ပါ။ ခြတွင် ပရွှတ်ဆိတ်ကဲ့သို့ သေးငယ်ရုံမက အလွန်မှပင် နူးညံ့ပုံက လေတိုက်ခိုက်သော နေရာနှင့် နေပူသော နေရာတွင် ယင်းခြတို့ အသက်ရှင်ရပ်တည်၍ မရနိုင်လောက် အောင်ဖြစ်သည်၊သို့ဖြစ်၍ ခြသည် လျှောက်လှမ်းရာတွင် မြေလမ်းကို မြောင်းအသွင် တည်ဆောက်ကာ လျှောက်လေ့ရှိကြသည်။ ခြသည်နူးညံ့သိမ်မွေ့သော အင်းဆက်ပိုးဖြစ်သော်ငြားလည်း လူသားတို့ကို အဆုံးအရှုံးပြုနိုင်စွမ်းရှိနေသည်။ ဤသို့သူ၏ လုပ်ငန်းဆောင်တာကို ဖြစ်ထွန်းအောင်မြင်အောင်ပြုနိုင်ခြင်းသည် ခြသည် သူ၏ လုပ်ငန်းဆောင်တာကို ဆိပ်ငြိမ်စွာပြုလုပ်လေ့ရှိသည်။

ဤသည် သူ၏ လျှို့ဝှက်ချက်ဖြစ်သည်။ လူသည် ခြ၏လုပ်ဆောင်ချက်ကို အထပြောက်ချိန်တွင် သာ သိရှိရသည်ကားများ၏။ အိမ်ရှိ သစ်ဖြင့် လုပ်ထားသော တံခါးတို့စပ်ကြားတွင် ခြသည် ဆိပ်ငြိမ်စွာ ဝင်ရောက်လေ့ရှိသည်။ အတွင်းပိုင်းကို ခြတို့က စားသုံးဖျက်စီး နေခြင်း ကို သစ်သား၏ အပေါ်ရံအားဖြင့် အနေအထားက ဖော်ပြခြင်းမရှိအောင် ဆိတ်ငြိမ်းစွာစွမ်းဆောင်နိုင်ကြသည်။ သစ်သား၏ အပေါ်ရံအလွှာကို စက္ကူအနေ အထားလောက်ထားခဲ့ကြသည်။ ထိုမှတစ်ဖန် သူတို့စားသုံးကြသော နေရာတွင် အစားထိုးအားဖြင့် မြေကြီးများကို တွေ့မြင်ရသည်။ ဤသို့အားဖြင့် သစ်သားတစ်ခုလုံး စားသုံးဖျက်စီးနေသည်ကို သတိပင် ပြုချိန်မရပေ။ နောက်ဆုံးသစ်သားတံခါးတစ်ခုလုံးပြုတ်ကျသွားမှ ခြစားမှန်းသိရတော့သည်။

ဤကဲ့သို့ လောကကြီးတွင် လူတို့အတွက် ဥပမာပေးပုံ ဖော်ပြချက် တစ်ရပ်အနေဖြင့် ခွေးကို မြင်နိုင်ပါသည်။ ခွေးသည် လူကိုမြင်လျှင် အဝေးကပင်လျှင် ဟောင်လေ့ရှိပါတတ်သည်။ ခွေးဟောင်လျှင် လူက သတိဝင်လာပြီး မိမိတို့၏ ကာကွယ်

ရေးအတွက် စိမ်လေ့ရှိတော့သည်။ ခြသည် သူ၏ လုပ်ငန်းစဉ်တွင် အစဉ်အမြဲ အားဖြင့် အောင်မြင်မှုကို ရရှိကြပြီး ခွေးသည် အစဉ်အမြဲ ရှုံးလေ့ရှိသည်။ သူ့အတွက် ပျောင်ခြင်းသော အဖတ်တင်ခြင်းရှိသည်။ ခြတို့က အဆုံးတွင် အောင်မြင်မှု ရသည်။ အကြောင်းမူ ငြိမ်သက်စွာလုပ်ဆောင်တတ်သော အကျင့်ကြောင့်ဖြစ်သည်။ ဤကဲ့သို့ပင် လှုပ်ရှားသွားလာနေသော ဥပမာများနှင့် လူတို့စားသုံးနေသော အရာများနှင့်လည်း ကျွန်ုပ်တို့သည် လောကကြီးတွင် အောင်မြင်မှု ရယူနည်းနှင့် ဆုံးရှုံးမှု၏ လမ်းကြောင်းကို စူးစမ်းသိမြင်နိုင်သည်။

## နည်းလမ်းမမှန်သော လုပ်ဆောင်မှု

ကျမ်းတော်မြတ်ကုရ်အာန်အရ သိရှိရသည်မှာ လူသားသည် အလျင်စလိုနှင့် ဆွဘာရ်ကြံ့ကြံ့ခံခြင်းမဲ့သော သတ္တဝါ ဖြစ်သည်။

စင်စစ်သော်ကား လူသားတို့သည် အလွန် အလျင်လိုသူများ ဖြစ်ကြကုန်၏။

(ဗနီအိဇ်ရာအီလ် ၊ ၁၁)

ထို့မှုမကဤသို့ အလျင်စလို လုပ်တတ်ခြင်းသည်ပင်လျှင် လူသား၏ ကြီးမားသော အားနည်းချက်ဖြစ်ပြန်သည်။

သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အထံတော်တွင်အလျင်မလိုကြကုန်လင့်။

(အန်ဗိယား၃၇)

နည်းလမ်းကောင်းကို ဖော်ပြထားသည်မှာ စည်းစနစ်ကျစွာ ဆွဘာရ်ကြံ့ကြံ့ခံခြင်းဖြင့် အခြေအနေကို စောင့်ကြပ်ခြင်းဖြစ်သည်။ ရလဒ်ကို အလျင်စလိုမြင်လိုစိတ်ဆန္ဒကို စောင့်ထိန်းခြင်းပင်ဖြစ်သည်။(အလ်အာဟကာဖ်း၂၅)အလျင်စလိုဟူသည် အရာတစ်ခုကို ရယူလိုခြင်းဆန္ဒကို အခြေခံအားဖြင့် လိုအပ်ချက်များကို တည်ဆောက်လုပ်ကိုင်ခြင်း မရှိဘဲရလဒ်ဖြစ်ပေါ်လာမှုကို အမြန်ရယူလိုစိတ်ပင်ဖြစ်သည်။ ဥပမာအားဖြင့် ကျွန်းသစ်သည် နှစ်ပေါင်း(၁၀၀)ချီ၍ ကြာညောင်းချိန်တွင် ပြည့်စုံသော သစ်ပင်ဖြစ်လာသော်လည်း လူသည်အချိန်တို ကာလေးနှင့် ဤပြည့်စုံသော အနေအထားကို ပေါ်ထွန်းမြင်လိုကြသည်။

ဤကဲ့သို့ အလျင်စလိုစိတ်သည် ဤပထဝီလောက၏ စနစ်ဇယားနှင့်

လျော့ကန်ခြင်း မရှိပါ။ လူသည် အလျင်စလိုလုပ်ပိုင်ခွင့်က ရှိပါသည်။ သို့ရာတွင် ယင်းကြောင့် အချိန်နှင့် စွမ်းအားတို့ကို ဖြုန်းတီးသကဲ့သို့ ဖြစ်နေရသည်။ အလ္လာဟ်အရှင်မြတ်က သတ်မှတ်ထားသော စနစ်ဇယားဖြစ်ထွန်းလာမှု အစီအစဉ်ကို လူတို့အနေဖြင့် ပြောင်းလဲအောင် မပြုနိုင်ပါ။

ဤအလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ပေးထားသော စနစ်ဇယားကို တမန်တော်တိုင်လျှင် ပြောင်းလဲနိုင်စွမ်းမရှိပါ။ အရာတစ်ခု၏ ပေါ်ထွန်းလာစေဖို့ရန် သတ်မှတ်ထားသော နည်းစဉ်ဘောင်ကန့်သတ်ချက်များကို ကျော်ဖြတ်လျက် ဆောင်ရွက်ခြင်းသည်ဆုံးရှုံးခြင်းတည်ဟူသော ရလာဒ်ကိုသာလျှင်ဖြစ်ပေါ်လာမည်ဖြစ်သည်။ ဤအရေးတွင် တမန်တော်မြတ်ပင်လျှင် မစွမ်းဆောင်နိုင်ပေ။

ဤအချက်နှင့် ပတ်သက်ပြီး မူဆာနဗီခေတ်ကာလအကြောင်းအရာကို သက်သေသာဓကအမြင်နှင့် လေ့လာရှုရသည်။ မူဆာနဗီသည် သူ၏ နောက်လိုက်တို့နှင့် ဆိုင်နိုင်သဲကန္တာရသို့ ရောက်သောအခါ အလ္လာဟ်အရှင်မြတ်က မူဆာနဗီကို တစ်လတာအချိန် သတ်မှတ်ပေးခဲ့သည်။ မူဆာနဗီအား တူရ်တောင်သို့ လာရောက်ကာရက်ပေါင်း(၃၀) အလ္လာဟ်အရှင်မြတ်ကို သတိရ ဇိကိရ်နှင့် အိဗာဒဟ်ပြုစေခဲ့သည်။ ယင်းနောက် ဇွလ်ဟဂ်ျ(၁၀)ရက်နေ့ကို မူဆာနဗီကို ရှရီအသ် ပေးမည်ဖြစ်သည်။ ဤသို့အားဖြင့် မူဆာနဗီသည် ဇိလ်ကာဒ်ဒါလ(၁၀)ရက်နေ့တွင် တူရ်တောင်သို့ ရောက်ရမည်ဖြစ် သည်။

သို့ရာတွင် မူဆာနဗီသည် သတ်မှတ်ရက်ထက် စော၍(၁၀)ရက်အလျင် ဇိလ်ကာဒ်ဒါလ(၁)ရက်နေ့တွင် တူရ်သို့ ရောက်လာသည်။ အလ္လာဟ်အရှင်မြတ်က မူဆာနဗီအား သူ၏ မျိုးနွယ်စုနောက်လိုက်တို့ကို ထားပြီးဘာကြောင့် စောလျင်စွာ ရောက်ရှိလာပါသနည်းဟု မေးရာ မူဆာနဗီက ယင်းနောက်လိုက်သားတို့သည် ကျွန်တော်မျိုး၏ နောက်တွင်ရှိသည်။ ကျွန်တော်မျိုးစောလျင်စွာ ရောက်လာခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ သဘောတူညီမှုရယူလို၍ဖြစ်သည်ဟုဆို၏။ အလ္လာဟ်အရှင်မြတ်က "ငါအရှင်မြတ်သည် အသင်၏ နောက်လိုက်တို့ကို အသင်၏ နောက်တွင် ပဋိပက္ခငြင်းပွားမှုတစ်ခုတွင် ထည့်သွင်းလိုက်သည်။ ဆာမရီသည် ယင်းသူတို့ကို

လမ်းလွဲကို ရောက်စေခဲ့ပြီးဖြစ်သည်ဟုဆို၏။ (၂၀း ၈၃–၈၅)

မူဆာနဗီသည် တူရ်တောင်သို့ အလျင်စလိုသွားခဲ့သည်၊ သူ၏နောက်လိုက်တို့ကို စောင့်ထိန်းရမည့်တာဝန်ကို ညီတော်ဟာရွန်ကို လွှဲအပ်ပေးကာ (၁၀)ရက်စော၍ တူရ်တောင်သို့ သွားရောက်ခဲ့ခြင်းဖြစ်သည်။ ဤမူဆာနဗီ ၏ လုပ်ဆောင်မှု ရည်ရွယ်ချက်သည်ကား အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့က်မှု "ရိဇာအေအိလာဟိ" အတွက်ဖြစ်သည်။ သို့ရာတွင်ဤအလျင်စလိုပြုမှုခြင်းသည် သူ၏ မျိုးနွယ်စုဝင်အတွက် အဆုံးအရှုံးကို ဖြစ်စေခဲ့ရသည်။

သူ၏နောက်လိုက်မျိုးနွယ်စုဝင်တို့၏ ဦးဆောင်မှုတာဝန်ကို မူဆာနဗီက ထမ်းဆောင်နေရချိန်ဖြစ်သည်။ ယင်းတာဝန်ရပ် ကို ဆက်လက်ပြီး ထမ်းရွက်နိုင်စေဖို့ရန် ဟာရွန်နဗီသည် အဆင့်သင့်မဖြစ်ခင် မူဆာနဗီသည် ယင်းတာဝန်ကို ညီတော်ဟာရွန်ကို ပေးအပ်ကာ တူရ်တောင်တန်းသို့ ထွက်ခွာလာခြင်းဖြစ်သည်။ ဤသည်ကို အခွင့်ကောင်းယူလျက် သူတို့မျိုးနွယ်စုအတွင်းရှိ အဖျက်အင်အားစုတို့က အပေါ်စီးရယူ နိုင်ခဲ့သည်။ ဤသို့အားဖြင့် ဗနီအိစ်ရာအိလ်တို့သည် လှည့်စားခြင်းခံရပြီး နွားမကိုးကွယ် ရှိရိက်လုပ်သူဖြစ်လာခဲ့သည်။

ဤအလျင်စလိုပြုမှုမှုသည် သဘောရိုးဖြင့်ပြုလုပ်သည်မှန်းလည်း အလ္လာဟ်အရှင်မြတ်သည် မူဆာနဗီကို သောင်ရဟ်ကျမ်းကို စောလျင်စွာ ချပေးခဲ့ခြင်းမရှိခဲ့။ သတ်မှတ်ထားသော အချိန်သို့ရောက်ရှိသောအခါမှ ယင်းတာဝန်ရပ်ကို ပေးအပ်ခြင်း ဖြစ်သည်။ ဤသည် သတ်မှတ်ထားသော အချိန်စနစ်ဇယားအားဖြင့် ပေါ်ထွန်းဖြစ်ပေါ်လာရသည်။

## ဆင့်ကဲစွာဖြစ်ထွန်းလာရသော ပြုပြင်ပြောင်းလဲရေး

တမန်တော်မြတ်က လူသားတို့ကို ပြုပြင်ပြောင်းလဲ အကျိုးဖြစ်ထွန်းစေမှု စီမံချက်တွင် မူးရစ်ထုံထိုင်းစေသော အရက်သေစာများကို ပိတ်ပင်တားမြစ်ရေးသည်လည်း ပါဝင်သည်။ သို့ရာတွင် တမန်တော်မြတ်၏ တာဝန်ထမ်းဆောင်ချိန် ထက်ဝက်မျှ ယင်းမူးရစ်ထုံထိုင်းစေသော အရက်သေစာနှင့် ပတ်သက်ပြီး ဖွင့်ဆိုဖော်ပြခြင်းနှင့် ပိတ်ပင်ခြင်းကို မပြုဘဲ ထိုစဉ်က လူတို့အား မူလအနေအထား

အတိုင်း ရှိစေခဲ့သည်။ တမန်တော်မြတ်သည် လူတို့ကို သောင်ဟီဒ်သဘောတရားနှင့် အာခေရသ်အကြောင်းများဖြင့် နှလုံးသားကို ပြုပြင်စေခဲ့သည်။

မူးရစ်ထုံထိုင်းစေသော အရက်သေစာအမိန့်သည် ပထမအဆင့်အနေဖြင့် ကြိုက်နှစ်သက်ခြင်းမရှိ မနှစ်မြို့သောသဘောသာလျှင် မြွက်ဆိုထားသည်။ ဤသို့ အားဖြင့် လူတို့အနေဖြင့် ယင်းအရေးကို ဆင်ခြင်သုံးသပ်သိမြင်အောင် ပြုရေး အတွက် လမ်းဖွင့်ပေးခြင်းသာလျှင် ရှိခဲ့သည်။ ဤအချက်ကို ကျမ်းတော်မြတ် ကုရ်အာန်က အောက်ပါအတိုင်း ဖော်ပြထားသည်။

အို–နဗီတမန်တော် လူတို့သည် မူးရစ်ထုံထိုင်းစေသောအရက်သေစာနှင့် လောင်းကစားခြင်းနှင့်စပ်လျဉ်း၍ အသင့်အား မေးမြန်းကြသည်။ထိုသူတို့ပြောကြားပါလေ ယင်းတို့တွင် အသင်တို့အတွက် အကျိုးဖြစ်ထွန်းမှု အနည်းငယ်ရှိသော်လည်း အကျိုးဆိုးယုတ်မှုကား ကြီးမားစွာရှိသည်။(၂း၂၁၉)

ဤသို့အားဖြင့် လူတို့အနေဖြင့် မူးရစ်ထုံထိုင်းစေတတ်သော အရက်သေစာနှင့် ပတ်သက်ပြီး ဆင်ခြင်သုံးသပ်လာခဲ့ လာခဲ့သည်။ ဟိဂျရီ(၄)ခု နှစ်တွင် အရက်သေစာနှင့် ပတ်သက်၍ ဒုတိယအမိန့်တော်သည် အလ္လာဟ်အရှင်မြတ် အထံတော်မှရောက်လာသည်။ ယခုဒုတိယ(၄)ခုနှစ်တွင် အရက်သေစာနှင့် ပတ်သက် ၍ ပိတ်ပင်ခြင်း အမိန့်ရောက်မလာသေးပါ။ အရက်သေစာသည် ညစ်ညမ်းမှုကို ဖြစ်စေသည့် ဖော်ပြချက်သာလျှင် မြွက်ဆိုခြင်းဖြစ်သည်။ အရက်သေစာ သောက်သုံးခြင်းအားဖြင့် အလ္လာဟ် အရှင်မြတ်ကို သတိရအီဗာဒဟ်ပြုခြင်းသည် အကျိုးမဲ့ခြင်းဖြစ်သည်။ သို့ဖြစ်၍ အရက်သေစာသောက်သုံးချိန် အီဗာဒဟ်မပြုရန် တားမြစ်ချက်သာလျှင်ပါရှိခြင်းဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်က အောက်ပါ အတိုင်းဖော်ပြသည်။

အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့ အသင်တို့သည် မူးယစ်နေကြစဉ် မိမိတို့ နှုတ်ဖြင့် ထွက်ဆိုသောစကားကိုကောင်းစွာ မသိနားမလည်သမျှ ကာလပတ်လုံး ဆွလါတ် ဝတ်ပြုမှု၏အပါးသို့ပင် မချဉ်းကပ်ကြလေနှင့်။(၄း၄၃)

ယင်းအမိန့်ကျရောက်လာပြီး နောက်တတိယအဆင့်အနေဖြင့် အရက်

သေစာ ပိတ်ပင်သည့် အမိန့်သည် ရောက်ရှိ လာခြင်းဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်က အောက်ပါအတိုင်း ဖော်ပြထားသည်။

မုချဧကန် "ရှိုင်တွာန်"မိစ္ဆာကောင်သည်၊သေရည်သေရက်ဖြင့်၎င်း၊ အလောင်းအစားဖြင့်၎င်း၊ အသင်တို့စပ်ကြားတွင်ရန်ငြိုးပွားမှု၊ မုန်းထားမှုများကို ဖြစ်စေလို၏။ ၎င်းပြင် ရှိုင်တွာန် သည် အသင်တို့ကို အလ္လာဟ်အသျှင်မြတ်အား အောက်မေ့တသသတိရခြင်းမှ၎င်း၊ ဆွလာတ်ဝတ်ပြု ခြင်းမှ၎င်း၊ ပိတ်ပင်တားဆီးလို၏။ သို့ဖြစ်ပေရာ အသင်တို့သည် ရပ်တန့်ကြမည်သူများဖြစ်ကြလေကုန်။( ၅ း၉၀-၉၁)

ဤတတိယအဆင့် အမိန့်ကျရောက်လာချိန်တွင် လူတို့၏ အသိတရားသည် လူတို့၏ ဉာဏ်ရည်အားဖြင့် အရက်သေစာ၏ မကောင်းမှုဖြစ်စဉ်ကို အပြည့်အဝလက်ခံလာနိုင်ကြပြီးဖြစ်သည်။ သို့ဖြစ်၍ ယင်းအမိန့်ကျ ရောက်လာသောအခါ လူတို့သည် ကျွန်ုပ်တို့၏ အရှင်ရှစ်သည် ကျွန်ုပ်တို့ကို တားမြစ်လိုက်ပြီဟု ဆိုလျက် အရက်သေစာများကို မှောက်ချပစ်ခဲ့ကြသည်။ အရက်သေစာပိတ်ပင်သောနည်းစဉ်အတွက် သုံးစွဲခဲ့သော ဟိကမ်မသ်အဆင့်ဆင့်နှင့် ပတ်သက်ပြီး အာအေရှာသခင်မ⋯က ထွက်ဆိုသော ရေဝါယသ်က အောက်ပါအတိုင်းဖြစ်သည်။

ကျမ်းတော်မြတ်ကုရ်အာန်တွင် ထူးမြတ်မှုကို ပြဆိုသော မုဖစလ်ဆူရဟ်များကျလာခဲ့သည့် ယင်းစူရဟ်များတွင် ဂျန္နသ်နှင့် ဂျဟန္နမ်အကြောင်း ပါရှိသည်။ ယင်းအကြောင်းအရာများသည် လူတို့၏ စိတ်တွင် စိမ့်ဝင်သောအခါ ဟလာလ်နှင့်ဟရာမ်အကြောင်းအာယတ်တော်များကျလာခဲ့သည်။ အကယ်၍ ပထမဤအာယတ်များ ကျလာခဲ့သည်ရှိသော် လူတို့အနေ ဖြင့် အရက်မသောက်ရန်ဆိုလျှင် အရက်ကို မစွန့်နိုင်ဟု ဆိုကြမည်ဖြစ်သည်။ အကယ်၍ ဇေနာမကောင်းသော တရားမဝင်သော လိင်မှုဆိုင်ရာကို တားမြစ်မှု အာယတ်တော်များ ကျလာပါက ဇေနာကို မစွန့်နိုင်ကြောင်း ဆိုကြလိမ့်မည်။

## စံယူရရှိပြီးနောက် လက်တွေ့အကောင်အထည်ဖော်မှု

တမန်တော်မြတ်၏ လူသားလောကကြီးသို့ စေလွှတ်ခံရခြင်း၏ ရည်ရွယ်ချက်တစ်ခုက ဟရမ်ကျောင်းတော်အတွင်း ရှိရိုက်၏ အဆောင်အယောင် အပြုအမူများကို ဖယ်ရှားလျက် ပြည့်ဝသော သောင်ဟီးဒ်ကို ဖော်ကျူးသည့် ဗိမ္မာန်တော်ကြီး

ဖြစ်မြောက်လာရေးလည်းဖြစ်သည်။ အိဗ်ရာဟိမ်နဗီ၏ ခေတ်ကာလက ဤသည် သောင်ဟီးဒ်ကို ဖော်ကျူးသော သန့်စင်သည့် ဗိမ္မာန်တော်ကြီးဖြစ်သည်။ တမန်တော်မြတ်မုဟမ္မဒ် ﷺ မွေးဖွားလာချိန်တွင်မူ ကာဗာကျောင်းတော်ကြီး၏ အခြေအနေက ရုပ်ထုပေါင်း (၃၀၀)ကို ထားရှိသည်။

အလ္လာဟ်အရှင်မြတ်ကို ဦးထိပ်ထားပြီး အခြားသော ဘုရားဟုဘုရား ယောင် များကို ဆည်းကပ်သော နေရာဖြစ်နေသည်။ ယင်းမွှုရိုက်တို့သည် သူတို့၏ ရိုင်းစိုင်းလှသော ချဉ်းကပ်မှုအဖြစ် ကာဗာကျောင်းတော်ကြီးကို ဝတ်လပ်စလစ် လှည့်လည်ကာ သဝါဖ်ပြုကြခြင်းဖြစ်သည်။ ယင်းသူတို့သည် ကဗိသာ ထုံးစံအားဖြင့် ဟဂ််နှင့် ပတ်သက်သော အိဗ်ရာဟိမ်နဗီ၏ သမိုင်းဖြစ်စဉ် အစဉ်အလာကြီးကို ပြောင်းလဲပစ်ခဲ့ကြခြင်းဖြစ်သည်။

တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ နဗွဝသ်တာဝန် လက်ခံရရှိပြီးပထမ(၁၃)နှစ်တာကာလတွင် မက္ကာဟ်မြို့တွင်ရှိနေခဲ့သည်။ တမန် တော်မြတ် သည် ယင်းအိဗ်ရာဟိမ်နဗီ၏စနစ်ကို ဖောက်ပြန်နေသော အစဉ် အလာကြီးကို ဆန့်ကျင်သောအားဖြင့် လူစုလူဝေးဖြင့် မက္ကာဟ်မြို့တော်တွင် ယနေ့ပြုလုပ်နေကြသောဆန္ဒပြပွဲမျိုးကိုမပြုခဲ့ ကာဗာ ကျောင်းတော်ကြီးရှိ ရုပ်ထုများ ကို ဖြိုဖျက်ရန်လည်း လှုံ့ဆော်မှုမပြုခဲ့ပါ။ တမန်တော်မြတ်သည် လူတို့ကို သောင်ဟီးဒ် သဘောတရားနှင့် အာခေရသ်သဘောတရားကိုသာလျှင် ရှင်းလင်းဖော်ပြခဲ့သည်။ ယင်းသဘောတရားတို့ကို လူတို့၏ အသိတွင် ဝင်ရောက်လာရေးအတွက် ကြိုးပမ်းအားထုတ်ခဲ့သည်။

ဟိဂျရီ(၈)ခုနှစ်တွင် မက္ကာဟ်မြို့တော်ကြီးကို မွတ်စလင်မ်တို့ အောင်မြင်စွာ ဝင်ရောက်နိုင်ခဲ့သည်။ ဤသို့အားဖြင့် အာရေဗျဒေသတစ်ခုလုံး၏ ချုပ်ကိုင်မှု သည်ရှိလာသည်၊တမန်တော်မြတ်သည် ကုလားအုတ်မပေါ်တွင်နေ၍ မက္ကာဟ်မြို့သို့ အောင်မြင်စွာဝင်ရောက်လာခဲ့သည်၊ ထို့နောက်ကာဗာ ကျောင်းတော်ကြီးကို သဝါးဖ်လှည့် လည်ရင်းက (၃၆၀)သော ရုပ်ထုများကို ဖြိုပစ်ခဲ့သည်။ ဤသို့အားဖြင့် ရုပ်ထု(၃၆၀)သည် ကာဗာကျောင်းတော်တွင် မှောက်ကျလျက် ဖရိုဖရဲဖြစ်နေသည်။

တမန်တော်မြတ်သည် ကျမ်းတော်မြတ်ကုရ်အာန်လာ အောက်ပါအာယတ်တော်ကို ရွတ်ဖတ်လျက်ရှိနေသည်။

جاء الحق وزهق الباطل ان الباطل كان زهوقا

''အမှန်သည်ရောက်ရှိလာခဲ့ချေပြီ၊ ဤသို့ဖြင့်အမှားသည် ပျောက်ကွယ်သွားခဲ့လေပြီ၊ဧကန်မလွဲအမှားသည် ကွယ်ပျောက်မည့်အရာပင်ဖြစ်ခဲ့ပေသတည်း။''

(၁၇း၈၁)

ကာဗာကျောင်းတော်ကို ဘုရားတုဘုရားယောင်တို့နှင့် ကင်းရှင်း အောင်ပြုရေးသည် မူလအစီအစဉ်တွင်ရှိနေသည့် သို့ရာတွင် မက္ကာဟ်မြို့တော်ကို မရယူခင်အလျင် ယင်းအကြောင်းကို တမန်တော်မြတ်က လှုံ့ဆော်ခြင်းမရှိခဲ့။ တမန်တော်မြတ် အနေဖြင့် မက္ကာဟ်ကာလကတည်းက ရှိရိက်၏ ဆိုးဝါးသော အစဉ်အလာနှင့် သောင်ဟီဒ်၏ ခိုင်မြဲသော သဘောတရား ကိုယ်သာ အထူးပြုလျက် ပို့ချမှုကိုပြုခဲ့ခြင်းဖြစ်မည်။ ဟရမ်ကျောင်းတော်ကို ယင်းဘုရားတု၊ ဘုရားယောင်တို့နှင့် ရှင်းလင်းအောင်ပြုရေးကို မက္ကာဟ်အောင်ပွဲနောက် ကာဗာကျောင်းတော်သို့ ဝင်ရောက်သည့်အခါမှပြုလုပ်ခဲ့ခြင်းဖြစ်သည်။ ယင်းအချိန်အခါတွင် တမန်တော်မြတ်၏လုပ်ဆောင် ဆောင်ရွက်မှုကို တစ်စုံတစ်ခုသော သူတို့က ကန့်ကွက်ခြင်း ရှုပ်ချခြင်းလည်း မပြုတော့ပါ။

## အာဏာချုပ်ကိုင် ရရှိပြီးဖြစ်သော်လည်း ဟိက်မသ်နည်းစဉ်သုံးစွဲ

တမန်တော်မြတ် နဗူဝသ်တာဝန်စတင်ချိန်တွင် အရပ်တို့သည် အစဉ်အလာအားဖြင့် ဝတ်လပ်စလစ်သဝါးဖ်ပြုနေကျဖြစ်သည်။ သူတို့က ခံယူထားချက်က ဤကာဗာကျောင်းတော်ကြီးသည်မှန်မြတ်လှသည့်ဖြစ်၍ လောကနှင့်ဆိုင်သော အဆောင် အယောင်ဟူသမျှမလို သို့ဖြစ်၍ ဝတ်လပ်စလစ်သဝါးဖ်ပြု ခြင်းဖြစ်သည်။ တမန်တော်မြတ်သည် ယင်းအစဉ်အလာသတ်မှတ်ချက်ကို မက္ကာဟ်တွင်ရှိ နေစဉ်ကတည်းက နှစ်မြို့ခြင်းမရှိခဲ့ပါ။ သို့ရာတွင် တမန်တော်မြတ်သည် (၁၃)နှစ်တာကာလ

မက္ကာဟ်မြို့တော်တွင် ဒါအ်ဝတ်ဖိတ်ခေါ်မှု ပြုခဲ့သည်။ သို့ရာတွင် ဖော်ပြပါကိစ္စကို တိုက်ရိုက်ပြောဆိုခြင်းမရှိခဲ့။ မက္ကာဟ်မြို့တွင်ရှိစဉ် နောက်ဆုံးကာလတွင် တမန်တော်မြတ်၏ ရဲရဲတောက် နောက်လိုက်(၁၀၀)ကျော်ရှိ နေသည်။ ယင်းမနစ်မြို့သောကိစ္စကို လူစုလူဝေးအားဖြင့် ဆန္ဒပြနိုင်သော်လည်း ဤသို့မပြုခဲ့။

မက္ကာဟ်မြို့မှ မဒီနာသို့ ဟီဂျရာပြုပြီး(၈)နှစ်အကြာ ဟီဂျရီ(၈)ခုနှစ်တွင် မက္ကာဟ်မြို့တော်ကို အောင်ပွဲခံနိုင်ခဲ့သည်။ မက္ကာဟ်ကို အောင်နိုင်မှုသည် ဗဟိုကို ချုပ်ကိုင်နိုင်ပြီဖြစ်၍ အာရေဗျတခွင်လုံးကို အာဏာစက်သက်ရောက်နေပြီဖြစ်သည်။ သို့ရာတွင်ယင်းအချိန်တွင်လည်း ဝတ်လပ်စလစ် သွဝါးဖ်ပြုလုပ်နေမှုကို တားဆီးခြင်း မရှိခဲ့ပါ။ မက္ကာဟ်အောင်ပွဲ နောက်(၄)လ အကြာတွင် ဟဂ်ျကာလ ရောက်ရှိလာသည်။ မုရှ်ရိက်တို့သည် သူတို့၏ အစဉ်အလာအတိုင်း ဝတ်လပ်စလစ် သဝါးဖ်ပြုမြဲပြုနေကြသည်။ တမန်တော်မြတ်က ယင်းသူတို့ကိုမည်သို့မျှ တားဆီး မှုအမိန့်မပေးခဲ့ပါ။မွတ်စလင်မ်တို့ကမူ အဲဟရာမ်ဝတ်ဆင်လျက် အိဗ်ရာဟီမ်နဗီ၏ မူလပုံစံဖြင့်ဟဂ်ျပြုခဲ့ကြ သည်။ မွတ်စလင်မ်တို့အနေဖြင့် မုရှ်ရိက်တို့အား မည်သည့် အရေးယူခြင်းကိုမျှ မပြုခဲ့ပါ။

ယင်းနောက် ဟဂ်ျဟီဂျရီ(၉)ခုနှစ်တွင် မွတ်စလင်မ်တို့ အာဏာကို ဆုပ်ကိုင်ထားမှု ဒုတိယနှစ်ဖြစ်သော်လည်း မုရှ်ရိက်တို့ကို ဝတ်လပ်စလစ်ဟဂ်ျပြု သဝါးဖ်ပြုခြင်းကို တားဆီးခြင်း မရှိသေးပါ။ ယင်းနှစ်တွင် မွတ်စလင်မ်တို့သည် ဆွဟာဗီကြီးအဗူဗကရ်သခင် رض ၏ ဦးဆောင်မှုဖြင့် ဟဂ်ျပြုခဲ့ကြသည်။ မုရှ်ရိက်တို့ကမူ သူတို့၏ မူလအစဉ်အလာဖြင့် ဟဂ်ျပြုကြ သည်။ သို့ရာတွင် ယင်းဒုတိယနှစ် ဟဂ်ျကာလတွင် တမန်တော်မြတ်သည် ဆွဟာဗီကြီးအလီသခင် رض အား စေလွှတ်လျက် ကြိုတင်အသိပေးသောအားဖြင့် နောင်နှစ်တွင် မည်သည့် မုရှ်ရိက်ကမျှ ဟဂ်ျပြု၍ရ မည်မဟုတ်ကြောင်း၊ ကာဗာကျောင်းတော်ကြီးတွင် ဝတ်လပ်စလစ် သဝါးဖ်ပြုခြင်းကို ပိတ်ပင်ကြောင်း လူစုလူဝေးတွင် ကြေငြာခြင်းဖြစ်သည်။

တမန်တော်မြတ် ﷺ သည် မက္ကာဟ်မြို့တော်ကို အောင်မြင်ပါလျက်နှင့်

ဟိဂျရီ(၈)ခုနှစ်နှင့် (၉)ခုနှစ်တွင် မက္ကာဟ်မြို့တော်သို့ သွားရောက်ခဲ့ခြင်းမရှိခဲ့ပါ။ တမန်တော်မြတ်က မိန့်တော်မူသည်မှာ မုရှ်ရိက်တို့ လာကြမည်ဖြစ်သည်။ ဝတ်လပ်စလစ် သဝါးဖ်လည်းပြုကြမည်ဖြစ်သည်။ ယင်းလုပ်ထုံးကို တမန်တော်မြတ်က မကြိုက်၊ သို့ဖြစ်၍ ယင်းအစဉ်အလာဆိုး မပျောက်ပျက် သည်အထိ ဟဂ်ျမပြုပဲနေခြင်းဖြစ်သည်။ အချုပ်အခြာအာဏာကို ဆုပ်ကိုင်ထားနေပါလျက်နှင့် ဝတ်လပ်စလစ်သဝါးဖ်ကို (၂)နှစ်တာအထိ သည်းခံခဲ့သည်။ ယင်းအချိန်(၂)နှစ်တွင် ဟဂ်ျမပြုပဲနေပြီး ဟိဂျရီ(၁၀)ခုနှစ်တွင် ယင်းအရိုင်းခေတ် အစဉ်အလာမရှိတော့မှ တမန်တော်မြတ်သည် ဟဂ်ျပြုခဲ့ခြင်းဖြစ်သည်။ ဤသည်ပင်လျှင် တမန်တော်မြတ်၏ နောက်ဆုံးဟဂ်ျ ဟဂ်ျသုလ်ဝိဒါဟ် ဖြစ်ပေသည်။

## ပြောင်းလဲမှုကို သဘာဝ၏ ပုံပန်းအတိုင်းပြုသည်၊

အိဗ်ရာဟီမ်နဗီနှင့် အိစ်မာအိလ်နဗီတို့က ကာဗာကျောင်းတော်ကြီးကို တည်ဆောက်ပြီးနောက် ဟဂ်ျတည်ဆောက်မှုကျင့်စဉ်ကိုချမှတ်ရာတွင် နေကို တွက်ချက်သည် နှစ်ကို မရေတွက်ပဲလကို တွက်ချက်ယူသည့်နှစ်ကို အသုံးပြုခဲ့သည်။ သို့ဖြစ်၍ ဟဂ်ျကျင့်စဉ်ကာလသည် ရာသီများကို ပြောင်းလဲပြီး ဖြစ်ထွန်းလာခဲ့ရသည်။ တစ်ခါတစ်ရံ နွေကာလတွင် လည်းကောင်း၊ တစ်ခါတစ်ရံ ဆောင်းရာသီတွင် လည်းကောင်း ဟဂ်ျကာလကျရောက်လာတတ်သည်။ ယင်းအစဉ်အလာကို မက္ကာဟ်သားတို့က သူတို့၏ စီးပွားရေး အကျိုးအမြတ်ကို အကြောင်းပြုကာ စဉ်းစားလာခဲ့ကြသည်။ ဟဂ်ျကာလသည် မက္ကာဟ်သားတို့အတွက် အကျိုးအမြတ် ဝင်ငွေရသောလုပ်ငန်းဖြစ်သည်။ ယခုလကို တွက်ချက်ရသောကြောင့် စွံပလွန်သီးပေါ် ချိန်ဖြစ်သော နွေရာသီတွင် အမြဲဟဂ်ျကာလမဖြစ်လာခဲ့၊ ယင်းစွံပလွန်သီး ပေါ်ချိန်တွင် ဟဂ်ျကာလကျရောက်ခြင်း၏ အမြတ်အစွန်းက အလွန်မှပင် ကြီးမားလှသည်။ ဤသို့ပင် အခြားအချိန်တွင် စွန်ပလွံသီး စိုက်ပျိုးသူတို့လက်တွင် ငွေလျှံမရှိ၍ မက္ကာဟ်မြို့တွင် ငွေများများ မသုံးစွဲနိုင်ပါ။

မက္ကာဟ်သားတို့သည် ယဟူဒီနှင့်နဆွရိုက်တို့ထံမှ Intercalacion နည်းစဉ်ကို သင်ယူခဲ့သည်။ ယင်းနည်းစဉ်ကို ကျင့်သုံးခြင်းကြောင့် ယဟူဒီ

နေရှင်တို့လည်း အကျိုးအများကြီးခံရမည်ဖြစ်သည်။ မက္ကာဟ်သားတို့သည် နေကို တွက်ချက်ယူ သည့်နှစ်ကို သတ်မှတ်ကာ အစဉ်အမြဲအားဖြင့် ဟဂ်ျရာသီကို နွေကာလတွင် သတ်မှတ်ခဲ့ကြသည်။ ဤလကို တွက်ချက်သော နှစ်နှင့် နေကို တွက်ချက်သောနှစ်စပ်ကြားတွင် ရက်ပေါင်း(၁၁)ရက်မျှ ကွာခြားသည်။ ဤသို့အားဖြင့် မှုလက လတွက်နှစ်တွင် (၁၁)ရက်ကို ပေါင်းထည့်ကြသည်။ ဤသို့ ပြုခြင်းကြောင့် (၈)နှစ်လျှင် (၃)လမျှပေါင်းထည့်ရတော့သည်။

ထိုကြောင့် (၃)နှစ်ကုန်ဆုံးချိန်တွင် တစ်လကို ပေါင်းထည့်လိုက်ကြသည်။ ဤသို့ပြုမူဆောင်ရွက်ခြင်းကြောင့် တားမြစ်ဟရာမ်လဖြစ်သော အထူးသဖြင့် ဇိလ်ဟဂ်ျအတွက် ပြဿနာဖြစ်လာသည်။ ဤသို့ပြုမူဆောင်ရွက်ခြင်းကြောင့် (၃၃)နှစ်ကြာချိန်တွင် နှစ်၏လသည် ပုံမှန်အချိန်သို့ ရောက်ရှိလာတော့သည်။

တမန်တော်မြတ်သည် ဂျာဟီလိယတ်ခေတ်က ဖော်ပြပါ ရှုတ်ထွေးလှသော စနစ်ကို တမန်တော်အိဗ်ရာဟီမ်နှင့် အိစ်မာအီလ်သခင်တို့၏ စွန္နသ်အတိုင်း ပြုလုပ်ရန်စီမံလေသည်။ လကို တွက်ချက်သည့် နည်းလမ်းအတိုင်း ဇိလ်ဟဂ်ျလကို ဗဟိုသတ်မှတ်ယူလိုက်သည်။

ဟိဂျရီ(၈)ခုနှစ် ရမ်ဇာန်လ မက္ကာဟ်အောင်ပွဲကာလတွင် ဂျာဟီလီယသ် ခေတ်၏ အကျိုးအမြတ်ကို အခြေခံသောနေကိုတွက်ယူသည့်နှစ်စနစ်ကို ဖျက်သိမ်းပစ်လိုက်နိုင်သည်။ သို့ရာတွင် ဤသို့မပြုခဲ့။ ဂျာဟီလီယတ် စနစ်အရဖြစ်သောဟိဂျရီ(၈)ခုနှစ် ဟဂ်ျနှင့် ဟိဂျရီ(၉)ခုနှစ် ဟဂ်ျသည် ဇိလ်ကဒ္ဒါလတွင် ကျသည်ကို စောင့်ယူလိုက်သည်။ ဟိဂျရီ(၁၀)ခုနှစ်တွင် ဟဂ်ျသည် ဇိလ်ဟဂ်ျလတွင် ကျရောက်သည်။ တစ်နည်း(၃၃)နှစ်ကြားတစ်ပတ်တွင် ပြန်လည်၍ ရောက်ရှိလာသော ဇိလ်ဟဂ်ျကို ဗဟိုပြု၍ အိဗ်ရာဟီမ်နဗီ၏ စွန္နသ်အတိုင်း ဇိလ်ဟဂ်ျလတွင်သာ ဟဂ်ျကျင့်စဉ်ကို ပြုလုပ်မည့် အကြောင်း ကြေငြာခဲ့သည်။ တမန်တော်မြတ်သည် ဖြစ်လိုသည့်အနေအထားကို ချက်ချင်းအလျင်စလို မပြုခဲ့၊ (၁၂)နှစ်တာစောင့်မျှော်ပြီး အခါသင့်သောအခါ သတ်မှတ်ခြင်းဖြစ်သည်။

တမန်တော်မြတ်သည် အာဏာကို ချုပ်ကိုင်သူဖြစ်၍ အာဏာစက်ဖြင့်

သတ်မှတ်နိုင်သော်လည်း ဤသို့မပြုခဲ့ပါ။ ဤအကြောင်းကို တမန်တော်မြတ်က ဟဂ်ျသုလ်ဝိဒဟ်၏ မိန့်ခွန်းတွင် အောက်ပါအတိုင်းမြွက်ကြားခဲ့သည်။ "အချိန်ကာလသည် ပြောင်းလဲဖြစ်ထွန်းကာ အချိန်မှန်ကို ရောက်ရှိနေပြီးဖြစ်သည်။ ဤသည် ပထဝီမြေကြီးနှင့် မိုးကောင်းကင်ကို ဖန်ဆင်းခြင်းနှင့် လျော်ညီသော အစစ်အမှန် အချိန် ဖြစ်သည်။" (သဖ်စီရ်အိဗ်နေကဆီရ်)

## အစဉ်အလာကို မချိုးဖဲ့ပဲ ပြုပြင်ရေး

တမန်တော်မြတ် ပါဝင်ဆင်နွှဲခဲ့ရသော ဂဇာဝါသ် စစ်ပွဲများတွင် ဂဇာဝါသ်မုရ်ဆီအ်လည်း တစ်ခုအပါအဝင်ဖြစ် သည်။ ဟိဂျရီ(၅)ခုနှစ် ဗနီမုစ်သွလိက်နွယ်ဝင်တို့သည် သူတို့၏ခေါင်းဆောင်ဟာရိဇ်ဘင်န်အဗီဒရာရ်၏ ဦးဆောင်မှုဖြင့် စစ်ပြင်ဆင်မှုပြုကာ မဒီနာမြို့ကို တိုက်ခိုက်ရန် စီမံကိန်းချမှတ်နေကြောင်း တမန်တော်မြတ်သည်သတင်းရရှိသည်။တမန်တော်မြတ်သည်ဆွဟာဗီတစ်ဦးဖြစ်သူ ဗရီဒါဘင်န် ဟဆွိဗ် အစ်လာမီ ﷺ အား သတင်းထောက်လှမ်းရန် ယင်းဒေသသို့ စေလွှတ်သည်။

ဆွဟာဗီကြီးသည် ယင်းသတင်းမှန်ကန်ကြောင်း ရှာဖွေ၊ တွေ့ရှိခဲ့သည်။ တမန်တော်မြတ်သည် မွတ်စလင်မ် လူအဖွဲ့အစည်းကို ကြိုတင်ကာကွယ်ရန်၊ ရန်သူတို့ကို လက်ဦးမှုရယူ တိုက်ခိုက်လိုက်သည်။ ယင်းသူတို့သည် ပြန်လည်၍ခုခံနိုင်စွမ်းမရှိခဲ့။ ယင်းသူတို့၏ စစ်သည်(၁၀)ဦးသေဆုံးခဲ့ရသည်။ ယင်းသူတို့ကို ဖမ်းမိရာတွင်ယောကျာ်း မိန်းမအသက်ကြီးရင့်သူများနှင့် ကလေးငယ်တို့ ဖမ်းမိခဲ့သည်။ ယင်းသူတို့ထံမှ ကုလားအုတ် အစီး(၂၀၀၀)နှင့် ဆိတ်သိုးအကောင်(၅၀၀၀)ကိုလည်း ရရှိခဲ့သည်။

စစ်သုံ့ပန်းအဖြစ် ဖမ်းခံရသူတို့သည် အိမ်ထောင်စုပေါင်း(၂၀၀)ဖြစ်သည်။ ယင်းသူတို့ကို တမန်တော်မြတ်အနေဖြင့် အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်ဒါအ်ဝတ်ပြုလိုသောဆန္ဒရှိသည်။ သို့ရာတွင်ရှိနေသောအစဉ်အလာကို ပယ်ဖျက်၍ ဤသို့ပြုမှုခြင်းသည် အစဉ်အလာဟောင်းကို ချိုးဖောက်ရာရောက်သည်။ အစဉ်အလာဟောင်းအရ ယင်းဖမ်းမိသော သုံ့ပန်းများသည်စစ်သည်တော်တို့၏ ဝေစုဖြစ်သည်။ သို့ဖြစ်၍ယင်းအရေးကို မည်သို့မည်ပုံ အကောင်းဆုံးဖြစ်အောင်စီမံရမည်ကို

တမန်တော်မြတ် က တိတ်ဆိတ်စွာ စဉ်းစားနေသည်။

ယင်းမျိုးနွယ်စု၏ ခေါင်းဆောင်ဟာရိစ်ဘင်နိအဗိဒရာရ်၏ သမီးမုဆိုးမ ဖြစ်သူ ဂျူဝေရီယာသည်လည်း ယင်းဖမ်းမိ စစ်သုံ့ပန်းတို့တွင် ပါဝင်သည်။ ဤသူမ ကို စစ်သုံ့ပန်းတို့ကို ခွဲဝေရာတွင် ဆာဗိတ်ဘင်နိကိုင်စ်အန်ဆွာရီ ( ) ဝေစုတွင်ပါရှိလာ သည်။ ယင်းပုဂ္ဂိုလ်သည် သူမကို ထိုက်တန်သော ကြေးငွေဖြင့် လဲလှယ်လွတ်လပ် စေလိုသည်။ဂျူဝေရီယာသည် တမန်တော် မြတ်အထံတော် လာရောက်ကာ သူမ၏ လွတ်မြောက်ရေးအတွက် အခကြေးငွေတောင်းခံမှုပြု၏။ တမန်တော်မြတ်က ယင်းသူမအတွက် ကျသင့်သောငွေများကိုပေးဆပ်သည့်အပြင် သူမအား ဇနီးအဖြစ် တောင်းခံမှုပြု၏။ သူမသည်လည်းတမန်တော်မြတ်၏ အဆိုပြုချက်ကို သဘော တူညီလိုက်သည်။

ဤသို့အားဖြင့် ဂျူဝေရီယာသည် လွတ်ငြိမ်းချမ်းသာခွင့်ရရှိရုံမက တမန်တော်မြတ်၏ဇနီးသည်အဖြစ် တင်မြှောက်ခံရမှုကြောင့် ယင်းမျိုးနွယ်စု ဝင်တို့သည် သူတို့၏ အစဉ်အလာအရ တမန်တော်မြတ်၏ ဆွေမျိုးသားချင်းဖြစ လာတော့သည်။ ဤသို့ တမန်တော်မြတ်က ဂျူဝေရီယာကို ဇနီးအဖြစ် ပေါင်းသင်းကြောင်း မုဟာဂျိရင်နှင့် အန်ဆွာရီတို့က သိသောအခါ သူတို့ဖမ်းဆီး ထားသော ယင်းမျိုးနွယ်ဝင် စစ်သုံ့ပန်းတို့ကို လွတ်ငြိမ်းချမ်းသာခွင့်ပြု လိုက်တော့သည်။ ယင်းမျိုးနွယ်စုဝင်တို့ကလည်း မွတ်စလင်မ်တို့၏ စိတ်နေသဘော ထားကို သိမြင်ဆက်ဆံရသောအခါ ယင်းသူတို့အားလုံး အစ္စလာမ်လူ့ဘောင်သို့ တခဲနက်ဝင်ရောက်လာတော့သည်။ သို့ဖြစ်၍လည်း အာအေရှာသခင်မ ( ) က ဆိုလေ့ရှိသည်။ ဂျူဝေရီယာ ( ) ကဲ့သို့ သူတို့မျိုးနွယ်စု အတွက် အကျိုးဖြစ်ထွန်း စေသော အမျိုးသမီးများ ဤလောကကြီးတွင် ရှိပါ့မလား``ဟူ၏။

## ယနေ့မျက်မှောက်ခေတ်ကာလ မွတ်စလင်မ်လှုပ်ရှားမှုများ

မျက်မှောက်ခေတ်ကာလတွင် မွတ်စလင်မ်တို့သည် အစ္စလာမ်၏ အဟ်ယာရှင်သန်မှုအတွက် အမျိုးစုံသော လှုပ်ရှားမှုများကို ပြုခဲ့ကြသည်။ ယင်းလှုပ်ရှားမှုများတွင် ကျော်ကြားလှသော လှုပ်ရှားမှုအဖြစ် ထင်ပေါ်ခဲ့ရသော

ဖြစ်စဉ်လည်း ရှိပါသည်။ သို့ရာတွင် ယင်းလှုပ်ရှားမှုများသည် သူတို့၏ ရည်ရွယ်ချက်နှင့် ရည်မှန်းချက်တွင် အောင်မြင်မှုကို မရှိခဲ့ကြပေ။ ဤသို့ဖြစ်ရခြင်းမှာ ယင်းလှုပ်ရှားမှုများသည် အလ္လာဟ်အရှင်မြတ်က သတ်မှတ်ပြုလုပ်ထားသော သဘာဝစည်းစနစ်ဖယားကို မလိုက်နာကြ၍ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်က ဖြစ်စေလိုသော စနစ်ဖယားလမ်းကြောင်းကို လိုက်နာခြင်းလည်းမရှိ အလ္လာဟ်အရှင်မြတ်က သူတို့အတွက် သတ်မှတ်ထားသော လမ်းညွှန်ချက်တရားပြသမှုကို ပုံစံအဖြစ် မသတ်မှတ်၍လည်း ဖြစ်ပြန်သည်။ ယင်းလှုပ်ရှားမှုများသည် အလ္လာဟ်အရှင်မြတ်က ဖြစ်စေလိုသော ဆိပ်ငြိမ်စွာပြုရသော လှုပ်ရှားမှုကိုမပြုပဲ အော်ဟစ်ဆူညံသောနည်းစဉ်ကို ပြုခဲ့ကြသည်။ သူတို့သည် သဘာဝတရား၏ လမ်းကြောင်းအတိုင်း မလျှောက်လှမ်းဘဲ ဖြတ်လမ်းဖြင့် ပန်းတိုင်သို့ရောက်လိုကြသည်။ ယင်းသူတို့သည် သိပ်သည်းမှုကို မပြုပဲ ကြီးမားသော လုပ်ငန်းဆောင်တာများကို ပြုလုပ်လိုကြသည်။ ယင်းသူတို့သည် ခိုင်ခံ့မှုကို မရှာပဲ ဖြစ်လိုသော သူတို့၏ သဘောပုံဖော်မှုကို ပြုခဲ့ကြသည်။ ယင်းသူတို့သည် အခြေခံ အုတ်မြစ်ကို မတည်ဆောက်ပဲ စိတ်ကူးယဉ်အုတ်မြစ်ကို တည်ဆောက်ခဲ့ကြသည်။

ယင်းသူတို့သည် ဆင့်ကဲဖြစ်လာမှု လမ်းကြောင်းဖြင့် လျှောက်လှမ်းခြင်း မပြုဘဲ အမြင့်ခုန်လွှားခြင်းဖြင့် အဖြေရှာခဲ့သည်။ ယင်းသူတို့သည် ရလဒ်ကို တဖြည်းဖြည်း ရယူရမည်ဟူသော အသိထက် လျှပ်တပြက် အကျိုးအမြတ်ရရှိရေးကို ဦးတည်ခဲ့ကြသည်။ ဤလုပ်ထုံးလုပ်နည်း၏ ရလဒ်သည် ဆုံးရှုံးမှုကို သူတို့ရရှိကြခြင်းဖြစ်သည်။

ဤအလ္လာဟ်အရှင်မြတ်၏ လောကကြီးတွင် အလ္လာဟ်အရှင်မြတ်၏ နည်းပေးလမ်းညွှန်ချက်အားဖြင့် လျှောက်လှမ်း ခြင်းပြုပါက မုချအမှန် အောင်မြင်မှုကို ဆွတ်ခူးရရှိမည်ဖြစ်သည်။ ထို့မှအပ အခြားနည်းလမ်းအားဖြင့် အောင်မြင်မှုကို မမျှော်လင့်စေလိုပါ။ ဤလောကကြီး၏ အောင်မြင်မှုကို အလ္လာဟ်အရှင်မြတ်က ဆွဲဘရိကြိုးကြိုးခံမှုဖြင့် တည်ဆောက်စေရာ အကယ်၍ လျှပ်တပြက်နည်းလမ်းအားဖြင့် တည်ဆောက်မှုပြုလျှင် ဘာမျှရမည်မဟုတ်ပါ။ အလ္လာဟ်အရှင်မြတ်က ဆိပ်ငြိမ်စွာ ရှာကြသော နည်းလမ်းကို ပေးထားပါလျက် အော်ဟစ်ဆူပူခြင်းဖြင့် အဖြေမှန်ကို

မရနိုင်ပါ။ အလ္လာဟ်အရှင်မြတ်က အကြောင်းအရာတစ်ခုကို ပြည့်မြောက်ဖြစ်ထွန်းစေဖို့ရန် အချိန်သတ်မှတ်ပေးထားသော်လည်း အလျင်စလို ပြုလုပ်မှုဖြင့် ပြည့်ဝသော အခြေကို ဖြစ်ထွန်းမလာစေပါ။

အလ္လာဟ်အရှင်မြတ်၏ သဘာဝဖြစ်စဉ်တွင် အဆင့်ဆင့်သော ကျော်ဖြတ်ဖြစ်ထွန်းမှုစနစ်ကို ပေးထားပါလျက် ယင်းအဆင့်ကိုဖြတ်လမ်းအားဖြင့် ဖြတ်ကျော်ကြ လျှင် လိုရာမရောက်ဖြစ်မည်သာ၊ ဤလောကကြီးကို ရှုမြင်ရာတွင် မှန်ကန်သောနည်းလမ်း ယထာဘူယျနည်းစဉ်ကို ကျော်ဖြတ် ပြီး မမှန်ကန်သော နည်းလမ်းဖြင့် စိတ်လိုက်မာန်ပါ ပြုပါမူ လိုရာဆန္ဒနှင့် ဝေးမည်သာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်က လူတစ်ဦးစီတွင် လုပ်ဆောင်သော စွမ်းဆောင်တတ်မှုအရည်အချင်းကို ဖွံ့ဖြိုးအောင် မပြုပဲ ပရစ်ပတာ နည်းလမ်းအားဖြင့် လူ့အဖွဲ့အစည်း တိုးတက်မှုကို ပြု၍ မရနိုင်ပါ။ ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏သတ်မှတ်ထားသော နည်းပေးလမ်းညွှန်ချက်ဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ဥပဒေလည်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ ဥပဒေသည် ဘယ်တော့အခါမျှ ပြောင်းလဲသည်ဟူ၍ မရှိပါ။

အခန်း(၇)

# အစ္စလာမ်နှင့် သိပ္ပံပညာ

ကျွန်ုပ်သည် တစ်ခါက သိပ္ပံဘွဲ့ရတစ်ဦးနှင့် ဆုံတွေ့ခဲ့သည်။ သူသည် ဘာသာတရားနှင့်သမိုင်းဆိုင်ရာကိုလည်း လေ့လာထားသည်။သို့သော်ဖန်ဆင်းရှင် အလ္လာဟ်အရှင်နှင့် ဘာသာတရားကို လက်ခံခြင်းမရှိပါ။ သူနှင့် ဆွေးနွေးရင်းက သူကမေးလိုက်သည်။ ''အကယ်၍ လူ့သမိုင်းမှ အစ္စလာမ်ကို နုတ်သိမ်းပစ်လိုက်လျှင် ဘာမျှ လျော့နည်းသွားမှာလဲ။'' ကျွန်တော်က ပြန်လည်ဖြေကြားလိုက်သည်မှာ ''ဤသို့အားဖြင့် အစ္စလာမ်မပေါ်ထွန်းခင်က လူ့သမိုင်းခေတ်သို့ ပြန်ရောက်သွားမည် ဖြစ်သည်။''

ဤပထဝီမြေကြီးပေါ်တွင် လူသားတို့အနေဖြင့် နှစ်ပေါင်းထောင်ချီ၍ ရပ်တည်လာခဲ့ကြသည်။ သို့ရာတွင် ယနေ့ သိပ္ပံဟုဆိုရသော ဘာသာရပ်ကို အစ္စလာမ် မတိုင်ခင်က လက်လှမ်းမမီခြင်းမရှိခဲ့ပါ။ ဤသို့ဘာကြောင့် ဖြစ်ရသနည်း။ ယင်း၏ အဖြေသည် ရှင်းလင်းလှသည်။ အစ္စလာမ်မတိုင်ခင်ကာလ လူသားတို့ပေါ်တွင် ရှိရက်သည် လွှမ်းမိုးနေ၍ဖြစ်သည်။ ရှိရိက်၏ အတားအဆီးကြောင့် သဘာဝ လောကကြီးကို လူတို့စူးစမ်းလေ့လာနိုင်ခြင်းမရှိ ဖြစ်နေသည်။ အကြောင်းမှုရှိရိက် ကြောင့် သဘာဝလောကကြီးသည် စူးစမ်းလေ့လာရသော အရာမဟုတ် ကိုးကွယ် ဆည်းကပ်ရာသာဖြစ်နေသည်။ သိပ္ပံပညာ သည် သဘာဝလောကကြီးကို စူးစမ်း လေ့လာ သုတေသနပြုခြင်းမှ ပေါ်ထွန်းဖြစ်ပေါ်လာရခြင်းဖြစ်သည်။

မုရှိရိက်တို့သည် လကို ဆည်းကပ်စရာဟု မှတ်ယူကြသည်။ သို့ဖြစ်၍ လပေါ်သို့ ခြေချ၍ ရသည်ကို မစဉ်းစားနိုင်ပေ။ ယင်းသူတို့သည် ရေလွှမ်းမိုး၍ ရေတက်ခြင်းကို ဆည်းကပ်စရာဟု မှတ်ယူကြသည်။ သို့ဖြစ်၍ ရေအားထိန်းသိမ်း ချုပ်ကိုင်ခြင်းဖြင့်လျှပ်စစ်ဓါတ်အားထုတ်လုပ်နိုင်သည်ကိုမစဉ်းစားနိုင်ပေ။

အစ္စလာမ်သည် သက်ရှိသိမြင်တတ်မှုသမိုင်းတွင် ပထမဦးဆုံးအကြိမ်

အဖြစ် ရှိရိက်အမြင်ကို ဖြတ်ချ ပယ်ဖျက်လျက် သောင်ဟိဒ်သဘောတရားကို လူတို့သိမြင်အောင် ပြုနိုင်ခဲ့သည်။ အစ္စလာမ်က ဆည်းကပ်ကိုးကွယ်ရသော အရှင်သည် တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်ဖြစ်ပြီး ကျန်အရာမှန်သမျှသည် အလ္လာဟ် အရှင်မြတ်၏ ဖန်ဆင်းခံများဖြစ်ကြသည်။ ထိုမှတဖန် အစ္စလာမ်သည် ယင်းသွန်သင်ချက်အားဖြင့် သဘာဝလောကကြီးကို စူးစမ်းလေ့လာရသော သုတေသနပြုမှု တံခါးကို ဖွင့်လှစ်ပေးလိုက်သည်။ ဤသို့အားဖြင့် လူသားတို့သည် သဘာဝလောကကြီး၏ အစွမ်းထက်မှုကို အောင်မြင်နိုင်သော နည်းလမ်းများကို သိရှိလာခြင်းဖြစ်သည်။ အစ္စလာမ်မတိုင်ခင်က သိပ္ပံဟူသည် ရှိရိက်ပေါ်တွင် ပုံဖော်ထားချက်ဖြစ်ပြီး ခေတ်သစ်သိပ္ပံကို အစပျိုးခဲ့သော သိပ္ပံပညာဟူသည် သောင်ဟီးဒ် သဘောတရားပေါ်တွင် အခြေခံခြင်းဖြစ်သည်။

အစ္စလာမ်သည် သိပ္ပံပညာပေါ်ထွန်းလာစေဖို့ လမ်းဖွင့်ပေးလိုက်ခြင်းသာဖြစ်သည်၊ သိပ္ပံတာသာအတွက် ဖြစ်လာသောယုံကြည်ချက်မဟုတ်ပါ။ အစ္စလာမ် သာသနာပေါ်ထွန်းလာခြင်းမရှိခဲ့လျှင် ယနေ့ခေတ်သစ်သိပ္ပံဟု ခေါ်သော ပညာရပ်သည် တံခါးဖွင့်ပေးခံရမည်မဟုတ်ပေ။ သိပ္ပံပညာနှင့် သုတေသနပြုမှုဆိုင်ရာ၏ တိုးတက်လာမှုသည် သောင်ဟီးဒ်၏ အခြေခံပေါ်တွင် တည်ဆောက်ခြင်းဖြစ်သည်ကို သမိုင်းပညာရှင်ကြီး အားနိုးတွိန်ဗီ(၁၈၈၉–၁၉၇၅)က ဝန်ခံထားသည်ကို တွေ့ရသည်။

## သိပ္ပံပညာသည်အစ္စလာမ့်တော်လှန်ရေးမှပေါက်ဖွား လာခြင်းဖြစ်

သောင်ဟီးဒ်၏ အခြေခံသဘောတရားပေါ်တွင် ဖြစ်ပေါ်လာခဲ့သော တော်လှန်ရေးကြောင့် ဖြစ်ထွန်းလာခဲ့သော ရလဒ်များအနက် လူသားတို့သည် သဘာဝလောကကြီးကို ရှုမြင်ရာတွင် သဘာဝလောကကြီးသည် တစ်ခုခုသော အင်အားစုကို မှီခိုနေရသော ဖန်ဆင်းခံဖြစ်သည်။ လူသားတို့တွင် ယင်းသဘာဝ အင်အားစုကို အသုံးပြုနိုင်ရန် သိမြင်ပိုင်ခွင့် ရှိသည်။

ယင်းသိမြင်တတ်မှုအသိ၏ အစသည် အုမိုင်ယာမင်ဆက်(ဟိဂျရီ ၆၆၁– ၇၅၀)ကာလ ဒမာစ်ကစ်မြို့တွင် ကွန့်မြူး ပေါ်ထွန်းလာခြင်းဖြစ်သည်။ မူလကရိ

ရှေးဟောင်းပညာရှင်တို့သည် ဓါတုဗေဒဟူသောဘာသာရပ်ဟူသည် ငွေကို ရွှေဖြစ်အောင်ပြုသောအဂ္ဂရတ်ပညာကိုခေါ်သည်။ ခါလိဒ်ဘင်နယဇိဒ်ဘင်န် မူအာဝီယာသည်ယခင်ကရှိနေသောဓါတုဗေဒပညာဟုခေါ်သည့်အဂ္ဂရတ်မှသည် အသုံးချဓါတုဗေဒ ဘာသာရပ်အဖြစ်သို့ တိုးတက်ဖြစ်ပေါ်လာအောင် ဆောင်ရွက်ပေး နိုင်ခဲ့သည်။

ဤဓါတုဗေဒပညာသည် အဗ္ဗာဆီယာမင်းဆက်တွင် ထပ်မံ၍ တိုးတက်လာခဲ့ပြန်သည်။ ထို့မှတစ်ဖန် ယင်းပညာရပ်သည် စပိန်နိုင်ငံနှင့်စီစလီကျွန်း အထိကျယ်ပြန့်လာတော့သည်။ ယင်းခေတ်ကာလက မွတ်စလင်မ်တို့သည် ပညာရေးနှင့်ယဉ်ကျေးမှုဆိုင်ရာတွင် ကမ္ဘာလောကကြီး၏ အထွတ်အထိပ် တွင်ရှိနေခဲ့သည်။ ဤမွတ်စလင်မ်တို့၏ အဖက်ဖက်တွင် တိုးတက်ကြီးပွားသော ခေတ်ကာလကိုအနောက်တိုင်းရှိ သမိုင်းပညာရှင်တို့က အမှောင်ခေတ်ဟုခေါ်သည်။ သို့ရာတွင် ယင်းအမှောင်ခေတ်သည် ဥရောပတိုက်သားတို့အတွက်သာလျှင်ဖြစ်သည်။ မွတ်စလင်မ်ကမ္ဘာအတွက်မဟုတ်ပါ။ ကမ္ဘာ့စွယ်စုံကျမ်းပြုဆရာကြီး ဒယ်ရစ်အေဂျရ်က ရေးသား ထား သည်မှာ

The term dark ages cannot be applied to the splendid Arab culture which spread over north Africa and into Spain.

'အမှောင်ခေတ်ဟူသော ဝေါဟာရသည် ခမ်းနားကြီးကျယ်လှသော အရပ်ယဉ်ကျေးမှုနယ်ယယ်တွင် သက်ရောက် ခြင်းမရှိပါ။ ယင်တို့၏ယဉ်ကျေးမှုသည် ထိုစဉ်ကာလ က မြောက်အာဖရိကနှင့် စပိန်ဒေသအဝှမ်းတွင် ပျံ့နှံ့လျက်ရှိနေသည်။

ရှိရိက်သဘော သည် သိပ္ပံပညာတိုးတက်ရေးအတွက် အဟန့်အတားဖြစ်နေသည်။ ဤအချက်နှင့် ပတ်သက်၍ ပိုမိုရှင်းလင်းစွာ သိမြင်နိုင်ရန် ကျွန်ုပ်အနေဖြင့် သက်သေသာဓကများနှင့် မှိုငြမ်းရှင်းလင်းပါမည်။ရှေးဟောင်းဂရိတို့က ပထဝီမြေကြီး နှင့် နေ၏ လည်ပတ်မှုနှင့် ပတ်သက်၍ သဘောတရားနှစ်ရပ်ကို တင်ပြခဲ့ဘူးသည်။

တစ်ခုက အောစကာဒ်၏ သဘောတရား။ ယင်းသဘောတရားက ပထဝီမြေကြီးက နေကို လှည့်လည်ပတ်နေသည်ဟု ဖော်ပြထားသည်။

နောက်ထပ် သဘောတရားတစ်ခုက တော်လမီ၏ သဘောတရား

ယင်းသဘောတရားက ပထဝီမြေကြီးကို နေက လှည့်ပတ်နေသည်ဟူသော သဘောတရားဖြစ်သည်။ ပထမသဘောတရား၏ ဖော်ပြချက်အရ ပထဝီမြေကြီးသည် လုံးနေသည်။ ဒုတိယသဘောတွင် ပထဝီမြေကြီးသည် ပြားချပ်နေသည်။

ကွန်စတင်တိုင်၏ ဦးဆောင်မှု(ခရစ်သက္ကရာဇ် ၂၇၂-၃၃၇)ဖြင့် ဥရောပ တိုက် တွင် ခရစ်ယာန်ဘာသာသို့ ဝင်ရောက် လာသော လူအဖွဲ့အစည်းနိုင်ငံတော်က ဒုတိယသဘောတရားဖြစ်သော တော်လမီ၏သီအိုရီသဘောတရားကို လက်ခံခဲ့ကြသည်။ ဤသို့ဖြင့်ပထမသဘောတရာသည် ပယ်ချခံခဲ့သည်။ အကြောင်းမူ ခရစ်ယာန်တို့သည် ခရစ်တော်ကို ဘုရားသခင်အဖြစ် သတ်မှတ်ပြီး ယင်းသတ်မှတ်ချက်ကြောင့် ပထဝီမြေကြီးသည် ထူးမြတ်သော နယ်ဖြစ်လာသည်။ အကြောင်းမူ ပထဝီမြေကြီးသည် ဘုရားသခင်၏ မွေးဖွားရာ ဘူမိနက်သန်နေရာဖြစ်ခြင်းကြောင့် ဖြစ်သည်။

သို့ဖြစ်၍ ဘုရားသခင်မွေးဖွားရာ ပထဝီကမ္ဘာကြီး သည် အခြားသော အရာကို ဝန်းရံလှည့်ပတ်သွားလာနေသည့် Satellite ဟူ၍ ဖြစ်နိုင်စရာမရှိဟု သတ်မှတ်ခြင်း ကြောင့်ဖြစ်သည်။ သို့ဖြစ်၍ ပထဝီမြေကြီးကိုအလေးအနက် စွဲကိုင်ထားမှု သီအိုရီ ကြောင့် ယင်းသဘာဝလောကကြီးကို စူးစမ်းလေ့လာမှုသည် ထပ်ဆင့်တိုးတက် လာခြင်းမရှိတော့ပါ။

ဤရှုရိုက်နှင့်သိပ္ပံပညာတို့စပ်ကြားဖြစ်လာခဲ့ရသော အငြင်းပွား တိုက်ခိုက်လာမှုနှင့် ပတ်သက်၍ လေ့လာလိုပါလျှင် ဒယ်ရိပယ် (၁၈၁၁-၁၈၈၂)၏ ရေးသားပြုခဲ့သောကျမ်း Conflict between Science and Religion ကို လေ့လာဖတ်ရှုနိုင်ပါသည်။

အဗ္ဗဆီယာမင်းဆက်အလ်မာမုန်(၇၈၆-၈၃၃)ခေတ်ကာလတွင် မွတ်စလင်မ်ကမ္ဘာတွင် ဗိုင်သုလ်ဟိကမ်မသ် တည်ဟူသော သုတဗိမာန်ကြီးကို တည်ဆောက်ခဲ့ကြသည်။ နိုင်ငံတော်၏ ဦးဆောင်မှုဖြင့် နိုင်ငံရပ်ခြားပညာရပ်များကို အရဗီဘာသာသို့ ပြန်ဆိုမှုကို အကြီး အကျယ်ပြုလုပ်လာခဲ့ကြသည်။ မွတ်စလင်မ် တို့သည် အထက်တွင် ဖော်ပြထားသော နေနှင့် ပထဝီစပ်ကြားသဘောတရား

နှစ်မျိုးစလုံးကို ပြန်ဆိုရေးသားမှုကို ပြုလုပ်ခဲ့သည်။ မွတ်စလင်မ်တို့အနေဖြင့် ယင်းတို့ကို လေ့လာမှုပြုရာတွင် တစ်စုံတစ်ခုကိုအစွဲအလန်ဖြင့် အကြောင်းပြု လေ့လာခြင်းမရှိဘဲ လွတ်လပ်စွာ လေ့လာစူးစမ်းမှုကို ပြုခဲ့ကြသည်။ ထို့ကြောင့် ပထမသီအိုရီကို ဖြစ်နိုင်ခြေ သီအိုရီအဖြစ် သတ်မှတ်ခဲ့ကြသည်။

အုပ်ချုပ်မင်း လုပ်သူအလ်မာမုန်သည် ကိုယ်တိုင် သိပ္ပံဘာသာရပ်ကို ပိုင်နိုင်သော ပညာရှင်တစ်ဦးဖြစ်သည့် အားလျော်စွာ ယင်းအကြောင်းအရာကို အထူးပြုလေ့လာကာ အရေးပါမှုကိုသိမြင်သူဖြစ်သည်။ သို့ဖြစ်၍လည်း အလ်မာမုန်က ပထဝီနှင့် သဘာဝသိပ္ပံဆိုင်ရာပညာရှင်တို့ကို ပထဝီမြေကြီးသည် လုံးသည်ဟူသော အချက်ကို မှုတည်ချက်ရယူကာ ပထဝီမြေကြီး၏ စက်ဝိုင်းCircumferenceကို သိမြင်လေ့လာ စေခဲ့သည်။

ထို့မှဆက်၍ ကျယ်ပြန့်သော လွင်ပြင်ရပ်ပေါ်တွင်ပထဝီမြေကြီး၏ ကျယ်ပြန့်မှုဒီဂရီTerrestrialDegreeကိုအကြောင်းပြု၍ တိုင်းတာမှုကိုပြုခဲ့သည်။ ထို့မှတစ်ဖန် ကမ္ဘာကြီး ၏ အချင်းကို တိုင်းတာမှုကို ပြုစေခဲ့သည်။ ထိုစဉ်ကာလ မွတ်စလင်မ်ပညာရှင်တို့၏ လက်ဝယ်တွင် ယင်းတို့ကို တိုင်းတာမှုပြုသော ကိရိယာများQuadrant နေနာရီနှင့် ပထဝီပုံဖော်မှုကိရိယာများကို စမ်းသပ်ရယူခဲ့ကြပြီးဖြစ်သည်။ ယင်းတို့အားဖြင့် ပထဝီမြေကြီးအကြောင်းကို စူးစမ်းမှုပြုခဲ့ကြခြင်းဖြစ်သည်။

ဤတိုင်းတာစမ်းသပ်မှုပြုနိုင်ရန် ယူဖရေးတီးမြစ်၏ မြောက်ဖက် တွင်ရှိသော ဆင်ဂျာPalmeraနှင့် အနီးကို ဒေသလွင်ပြင်များ ကို ရွေးချယ်ခဲ့သည်။ တစ်နေရာတွင် မြောက်ဝင်ရိုးစွန်းအမြင့်ကို တိုင်းတာမှုပြုရန် ကိရိယာဖြင့် တိုင်းတာခဲ့ရာ ၅၆ ၂/၃ ပိုင်းမြောက်ဖက်သို့သွားတိုင်း မြောက်ဝင်ရိုးစွန်း တိုင်းတာမှုသည် တစ်ဒီဂရီရှိလာသည်ကိုတွေ့ရှိခဲ့သည်။

သို့ဖြစ်၍ တစ်ဒီဂရီသည် ၅၆ ၂/၃ မိုင်ရှိကြောင်း သိရှိပြီး ယင်းပထဝီမြေ၏ ကျယ်ပြန့်မှုCircumferenceသည်မိုင်ပေါင်း (၂၀၄၀၀)ကျော်ဖြစ်ရမည်ကိုသိရှိခဲ့ရသည်။ စက်ဝိုင်းသည် (၃၆၀)ဒီဂရီ ဖြစ်၍ (၃၆၀)ဒီဂရီကို ၅၆ ၂/၃ ဖြင့်

မြှောက်ခြင်းအားဖြင့် မိုင်ပေါင်း(၂၀၄၀၁) ရရှိခြင်းဖြစ်သည်။

ဤကဲ့သို့ပင် စမ်းသပ်မှုတစ်ခုကို ယူဖရေးတီးမြစ်ဝှမ်း ကူဖာသဲကန္တာရတွင် ပြုလုပ်ခဲ့ပြန်သည်။ ဤအကြိမ်လည်း မူလအဖြေကို ရရှိခဲ့ပြန်သည်။ ဤစမ်းသပ်မှုသည် အဖြေမှန်ထက် အလွန်နီးစပ်လွန်းအားကြီးသော အံ့ဘွယ်ရာဖြစ်ခဲ့သည်။

ယနေ့ခေတ်ကာလတွင် နောက်ဆုံးပေါ် သိပ္ပံနည်းကျစမ်းသပ်မှုများအရ ယင်း၏ အရှည်မှာ (၂၅၀၀၀)မိုင်ဖြစ်သည်။ ယင်းမွတ်စလင်မ်တို့၏ စဉ်းသိပ္ပံဆိုင်ရာကြိုးပမ်းမှု အကြောင်းအရာများကို သေချာစွာ လေ့လာလိုသော ပုဂ္ဂိုလ်များအနေဖြင့် Philip K Hitti.ရေးသားပြုစုထားသော History of the Arabs၏ Scientific and Literary Progress အခန်း၂၇၊ စာမျက်နှာ(၃၇၅)ကို လေ့လာစေလိုပါသည်။

## သိပ္ပံပညာမွတ်စလင်မ်ကမ္ဘာမှ နုတ်ထွက်ပုံ

သိပ္ပံပညာရပ်သည်မွတ်စလင်မ်ကမ္ဘာတွင် သိပ္ပံဘာသာရပ်ပေါင်းစုံတွင် အဖက်ဖက်တွင် တိုးတက်လာချိန်တွင် ညီညွတ်မှုပျက်ပြားမှုနှင့်အချင်းချင်း ပဋိပက္ခများကြောင့် အဗ္ဗာဆီမင်းဆက်ကို ခေလာဖသ်ပုံစံဖြင့် မွတ်စလင်မ်ကမ္ဘာက လက်ခံထားခြင်းသည် ပြိုပျက်ခဲ့ရတော့သည်။

ထိုမွတ်စ်ဖန်မွတ်စလင်မ်ကမ္ဘာကြီး၏ဦးဆောင်မှု တာဝန်ကို အော်တိုမန်တူရကီ(၁၅၁၇-၁၉၂၂)က သူတို့၏ အလံအောက်သို့ သိမ်းသွင်းရယူနိုင်ခဲ့သည်။ ဤသို့အားဖြင့် (၁၆)ရာစုနှစ်ဦးပိုင်းတွင် မွတ်စလင်မ်ကမ္ဘာကြီး၏ အခြေခံနိုင်ငံရေးဗဟိုသည် အာရပ်တို့ထံမှ တူရကီတို့၏ လက်အောက်သို့ ရောက်ရှိလာတော့သည်။ ထိုအချိန်မှစ၍ သမိုင်းတွင် တော်လှန်ရေးသစ်တစ်ရပ ပေါ်ထွန်းလာခဲ့သည်။ ယင်းအကြောင်းအရာဖြစ်ရပ်များသည် သမိုင်းကြောင်းကို အခြားဖက်သို့ လွှဲပြောင်းပစ်လိုက်တော့သည်။

သမိုင်းကြောင်းအရ လူတစ်ဦးဖြစ်စေ၊ သို့မဟုတ် လူအဖွဲ့အစည်းတစ်ရပ်ဖြစ်စေ၊ အကြောင်းအရာတစ်ခုကို လိမ္မာချော်မောပြေပြစ်စွာ ဆောင်ရွက်နိုင်သကဲ့သို့ အခြားတစ်ဖက်တွင် ဆိုးရွားသော ဒုက္ခကို ဖန်တီးသူများဖြစ်

လာကြသည်လည်း ရှိသည်။ ဤအချက်၏ သာဓကအနေဖြင့် အုမိုင်ယာမင်းဆက်မှ အုပ်ချုပ်မင်းလုပ်သူ ဆုလိုင်မန်ဘင်န်အဗ်ဒွလ်မလစ်က်ကို လေ့လာ၍ရသည်။

ဤပုဂ္ဂိုလ်သည် သူတို့၏ အစဉ်အဆက်မင်းများတွင် ခုလ်ဖာအေ ရာရှိဒင်န်လေးဦးပြောက်တွင် ပဉ္စမခလီဖါဟုတွင်ရစ်သူ အုမရ်ဘင်န်အဗ်ဒွလ်အဇီဇ်ကို ဖန်တီးနေရာပေးနိုင်ခဲ့သည်။ ဤပုဂ္ဂိုလ်သည်ပင်လျှင် သူ၏ခေတ်ကာလက ကျော်ကြားလှသော စစ်သူရဲကောင်းဗိုလ်ချုပ်ကြီးများကို ကွပ်မျက်ခဲ့ သည့်သာဓက ကရှိနေသည်။ ဤစစ်သူရဲကောင်းကြီးများ၏ စွမ်းဆောင်မှုကြောင့် မွတ်စလင်မ် ကမ္ဘာကြီး၏ နယ်နိမိတ်သည် အာရှနှင့် အာဖရိကတိုက်အဝှမ်း ကျယ်ပြန့်နေရာမှ ဤကွပ်မြတ်ခဲ့ခြင်းကြောင့် တုံ့ခဲ့ရသည်။ ဆက်လက်၍ နယ်နိမိတ်ကို ချဲ့၍မဖြစ်ခဲ့ရ သည်။

ဤကဲ့သို့ပင် အော်တိုမန်တူရကီတို့နှင့်လည်း ဤနည်းနှင်နှင်ဖြစ်ခဲ့ ရပြန်သည်။ တူရကီတို့၏ အစ္စလာမ်အောင်လံကို လွှင့်ထူနေချိန်ကာလသည် မွတ်စလင်မ်ကမ္ဘာတစ်ခုလုံး ယိမ်းယိုင်ယိုးယွင်နေချိန်ဖြစ်နေသည်။ အော်တိုမန် တူရကီတို့သည် ရာစုနှစ်ပေါင်း များစွာကြာညောင်းသည်အထိ ဥရောပခရစ်ယံနှင့် မွတ်စလင်မ်ကမ္ဘာစပ်ကြားတွင် တံတိုင်းကြီးပမာ မားမားမတ်မတ် ရပ်တည် စောင့်ရှောက်နိုင်ခဲ့သည်။ ထို့ကြောင့်လည်း သူတို့၏ စွမ်းဆောင်ချက်များသည် သမိုင်းတွင်ရစ်သော စွမ်းဆောင်နိုင်မှုဟု အသိအမှတ်ပြုခံရသည်။

ယင်းသူတို့၏ စွမ်းဆောင်ချက်များနည်းတူ သူတို့၏ အားနည်းချက် များကြောင့် မွတ်စလင်မ်ကမ္ဘာကြီးရှိသိပ္ပံတာသာရပ်ဆိုင်ရာစူးစမ်းလေ့လာမှု သုတေ သနပြုမှုအဝဝသည်လက်လွှတ်ဆုံးရှုံးကာယင်းပညာရပ်၏ ဗဟိုသည် ဥရောပတိုက် ဖက်သို့ လွှဲအပ်ပေးခံခဲ့ရခြင်းဖြစ်သည်။

အော်တိုမန်တူရကီတို့သည် အလွန်မှပင် ရဲစွမ်းသတ္တိနှင့် ပြည့်စုံရုံမက အောင်မြင်ရေးကိုသံဓိဋ္ဌာန်ချဆောင်ရွက်တတ်သောအလေ့ရှိသောစွမ်းဆောင်နိုင်သူများ ဖြစ်ကြသည်။ သူတို့၏ အားနည်းချက်က ယင်းသူတို့သည် တတ်သိပညာခေါင်းပါးသူ ပညာမဲ့သူများဖြစ်ကြသည်။ ပညာရေးဆိုင်ရာသုတေသန၏ အရေးပါမှုကို မသိရုံမက

ပညာရှိခြင်းသည် နိုင်ငံရေးအရ အန္တရာယ်ဖြစ်နိုင်သည်ဟု ခံယူကြသည်။

သူတို့က ပြည်သူတို့တွင် ပညာတတ်ပေါ်ကြွယ်ဝလာသည်နှင့်အမျှ တွေးခေါ်မှုများလာမည်။ ဤသို့အားဖြင့် ပြည်သူတို့ကို ထိန်းချုပ်ရန် ခက်ခဲလာမည် သစ္စာခံယူမည်သူများရှိမည်မဟုတ်။ သို့ဖြစ်၍လည်း ပညာရေးဆိုင်ရာ သုတေသနနှင့် စူးစမ်းမှုကိုအကြမ်းတမ်းဆုံးအနေအထားဖြင့်ကိုင်တွယ်ခဲ့ကြသည်။

မွတ်စလင်မ်လူအဖွဲ့ အစည်းနိုင်ငံတော်ကြီး၏ ဗဟိုသည် ဘဂ္ဂဒတ်မြို့မှ အစ်တန်ဘူမြို့သို့ပြောင်းရွှေ့သတ်မှတ်ခံရသည်။ထိုအခါ မွတ်စလင်မ်ပညာရှင်ကြီးများသည် ဒေသအသီးသီးမှ တူရကီတို့၏ အစ်တန်ဘူလ်မြို့တော်ဖက်သို့ ထွက်လာခဲ့ကြသည်။ ယင်းပုဂ္ဂိုလ်တို့သည် ဒေသအသီးသီးတွင် သိပ္ပံပညာဆိုင်ရာ သုတေသနလုပ်ငန်းများ လုပ်ဆောင်နေကြသူများဖြစ်ကြသည်။

အဗ္ဗာဆီယာခေတ်ကာလက ယင်းပညာရှင်တို့ကို အုပ်ချုပ်မင်းလုပ်သူတို့က အထူးအားပေးမြှောက်စားခဲ့ကြသည်။ ယင်းသူတို့အတွက် လိုအပ်သော ငွေကြေး ထောက်ပံ့မှုများကို စဉ်ဆက်မပြတ် ပေးခဲ့သည်။ယခုအော်တိုမန်တူရကီတို့က မူယင်း ပညာရှင်တို့ကိုရှုမြင်ရာတွင် ရွံရှာဖွယ်အကြည့်ဖြင့်မြင်ခဲ့ကြသည်။ ဤသို့ အဖက် ဖက်မှနှိပ်ချဆက်ဆံခြင်းကြောင့် ယင်းပညာရှင်တို့အဖို့ရာတွင် သူတို့၏ အနာဂတ် သည် မှောင်မဲနေသယောင်မြင်လာခဲ့သည်။

သူတို့၏ အနာဂတ်သည် မကောင်းမှုန်း သိသောအခါ ယင်းပညာရှင်တို့ သည် အော်တိုမန်တူရကီတို့၏ အုပ်ချုပ်ရေးကို စွန့်ကာ ဥရောပတိုက်ရှိ အီတလီနိုင်ငံနှင့် ပြင်သစ်နိုင်ငံဖက်သို့ ဦးတည်ခဲ့ကြတော့ သည်။ ဤသို့အားဖြင့် သိပ္ပံသုတေသနလုပ်ငန်းများသည် မွတ်စလင်မ်ကမ္ဘာမှ ဥရောပတိုက်သို့ လွှဲပြောင်းရောက်ရှိသွားတော့သည်။ အော်တိုမန်တူရကီတို့၏ ပညာရေးဆိုင်ရာ ပုဂ္ဂိုလ်တို့ကို အားမပေးသည့်အပြင် နှိမ့်ချခဲ့မှုနှင့် ပတ်သက်ပြီး မုဟမ္မဒ် ကရ်ဒ်အလီရှာမိ ရေးသားပြုစုထားသော သာရီခ္ခလ် ဟဇာရသူလ် အရဗီယာကျမ်းကို လေ့လာနိုင်ပါသည်။

ဥရောပတိုက်တွင် ဤသိပ္ပံပညာရှင်တို့ကို အလွန်လိုက်လှဲစွာ ကြိုဆို လက်ခံခဲ့ကြသည်။အတိတ်ကာလက ကရူးဆိတ်စစ်ပွဲကာလ(၁၀၉၅–၁၂၇၁) အတွင်း မွတ်စလင်မ်တို့ ရှေ့မှောက်တွင် ဥရောပတိုက်သားတို့ အကြိမ်ကြိမ်အရှုံးနှင့် ရင်ဆိုင်ခဲ့ရသည်။ အကြောင်းမှု မွတ်စလင်မ်တို့သည် သိပ္ပံပညာနှင့် နည်းပညာ ရပ်တွင် အလွန်တိုးတက်သော အနေအထားတွင် ရှိနေ၍ဖြစ်သည်။ ယင်းစစ်ပွဲ ကာလတွင် ရောမ စစ်သည်တို့သည် Greek Fine ဟုခေါ်သည်။ ယမ်းအရည်ကို သုံးစွဲခဲ့သည်။ ယင်းကြောင့် မွတ်စလင်မ်တို့ အထိနာခဲ့ရသည်။ ဒဏ်ရာလည်းရ၊ အပျက်အစီးလည်းရှိခဲ့သည်။ ယင်းယမ်းအရည်ကို ဓါတုဗေဒနည်းလမ်းဖြင့် ဖော်စပ်ခဲ့ကြသည်။ မွတ်စလင်မ်သိပ္ပံပညာရှင်တို့သည် ယင်းတို့ထက် သာလွန်သော လက်နက်တစ်မျိုးကို ချက်ချင်းတီထွင်နိုင်ခဲ့သည်။ ယင်းလက်နက်သည် အလွန် ဝေးလံသော ဒေသအထိ သွားရောက်နိုင်ပြီး ရောမတို့၏ လက်နက်ထက်သာ လွန်သော ထက်မြက်သော လက်နက်ဖြစ်ကြောင်း တွေ့မြင်ခဲ့ရသည်။

ဥရောပတိုက်ရှိ ခရစ်ယာန်တို့သည် မွတ်စလင်မ်တို့ထက် သိပ္ပံပညာရပ်တွင် နိမ့်ကျနေမှုကိုကုစားရန် မူလကတည်း က စိတ်ပြင်းပြနေကြသည်။ ယခုမွတ်စလင်မ် တို့ထံမှ သိပ္ပံပညာရှင်တို့ရောက်ရှိလာသောအခါ သူတို့၏ ပြင်းပြမှုများကို ကုစားခွင့်ရရှိတော့သည်။ သို့ဖြစ်၍ ယင်းပညာရှင်တို့နှင့် ပူးပေါင်းဆောင်ရွက်မှုများကို ဖောက်ချပြုလုပ်ခဲ့ကြသည်။ ဤသို့အားဖြင့် ဥရောပတိုက်တွင် သိပ္ပံပညာ တိုးတက်မှုသည် မူလ အစ္စလာမ်လူ့အဖွဲ့အစည်း နိုင်ငံထက် အဆပေါင်းများစွာ ဖြစ်ထွန်းလာခဲ့ကြခြင်းဖြစ်သည်။

(၁၆)ရာစုနှစ်မှ (၁၉)ရာစုကာလ နှစ်ပေါင်း(၃၀၀)ကာလအတွင်း ဥရောပတိုက်တွင် တော်လှန်ရေးကြီး ပြုပြင်ပြောင်းလဲမှုများ အကြီးအကျယ် ဖြစ်ထွန်း လာခဲ့သည်။ ယင်းတော်လှန်ရေးများတွင် စက်မှုတော်လှန်ရေး၊ အတွေးအခေါ် တော်လှန်ရေးနှင့် သိပ္ပံပညာတော်လှန်ရေးတို့သည် အသွင်အမျိုးမျိုးဖြင့် ထွက်ပေါ်လာခဲ့ကြသည်။မွတ်စလင်မ်တို့၏ ဥရောပတိုက်သားတို့အပေါ် အကျိုးပြုမှုကို လေ့လာလိုလျှင် ဘရီဖလက်က ရေးသားပြုစုသည့် Making of Humanily ကို

လေ့လာစေလိုပါသည်။

(၁၆)ရာစုအထိ မွတ်စလင်မ်တို့သည် ပညာရေးနယ်ပယ်တွင် ခေါင်းဆောင်မှုစာရင်းတွင် ပါဝင်ခဲ့ကြသည်။ ယင်းနောက်ပိုင်းကာလတွင် ဥရောပတိုက်သားတို့သည် ပညာရေးနှင့် သိပ္ပံနယ်ပယ်၏ ခေါင်းဆောင်ဖြစ်လာပြီး မွတ်စလင်မ်တို့ အား ပညာဆည်းပူးရသူအဆင့်သို့ ပို့ဖြစ်သွားသည်။ မွတ်စလင်မ်တို့သည် သူတို့ကိုယ်တိုင်စတင်ခဲ့သောတော်လှန်ရေးတွင် အခြားသော ကမ္ဘာလူ့အဖွဲ့အစည်းဝင်တို့၏နောက်တွင် ကျန်ရစ်ခဲ့တော့သည်။ သို့ရာတွင် ယခုအချိန်တွင်လည်း မျှော်လင့်ချက်က ရှိနေပါသေးသည်။ မွတ်စလင်မ်တို့အနေဖြင့် ဥရောပတိုက်သားတို့ထံမှ ပညာရေးသုတေသန စူးစမ်းလေ့လာမှုကို ရယူအသုံးချ ရန်ကြိုးစားရပါမည်။ ဥရောပတိုက်သားတို့သည်မွတ်စလင်မ်တို့၏ ပညာရေးကို အခြေခံ၍ ရှေ့သို့တိုးတက်ကြီးပွားအောင်ပြုခဲ့ကြသည်။ ယခု မွတ်စလင်မ်တို့အနေဖြင့် ယင်းပညာရပ်များကို ရယူကာထပ်မံ၍ တိုးတက်အောင်ပြုရပါမည်။ သို့ရာတွင် ယင်းသို့ ပြုမှုရာတွင် အကြောင်းရင်းခံနှစ်ခုသည် လမ်းမကြီးကို ပိတ်ဆို့စေပြီး ဤသည် သမိုင်းဖြစ်ရပ်ဖြစ်ထွန်းပြောင်းလဲ ပေါ်ထွန်းလာစေဖို့ အဟန့်အတားဖြစ်နေခြင်းဖြစ်နေသည်။

## သိပ္ပံဘာသာရပ်များနှင့်စပ်လျဉ်း၍ မျက်မှောက်မွတ်စလင်မ်တို့၏ လစ်လျူရှုမှုများ

(၁) ရာစုနှစ်ပေါင်းများစွာ ကြာမြင့်ပြီးမှသိပ္ပံပညာနှင့်ကင်းကွာနေကြသော မွတ်စလင်မ်တို့အဖို့ရာတွင် သူတို့တွေ့ရသော သိပ္ပံပညာဟူသည် ပညာသက်သက် မဟုတ်၊ ယင်းသည်နိုင်ငံကိုချုပ်ကိုင်သော လက်နက်အသွင်ဖြင့် ရှုမြင်ခဲ့ရ တော့သည်။ မွတ်စလင်မ်တို့ထံ သိပ္ပံပညာသယ်ဆောင်လာခဲ့ကြသောသူတို့ မွတ်စလင်မ်တို့ထံမှ အချုပ်အခြာပိုင်ဆိုင်မှုများကို အဓိကမိတ်း သိမ်းဆည်းရယူခဲ့ကြသောသူများ ဖြစ်ကြသည်။ ထို့မျှမက မွတ်စလင်မ်တို့၏ ယဉ်ကျေးမှုဆိုင်ရာနှင့် ယုံကြည်ချက်များကို တိုက်ခိုက်ကြသောသူများလည်း ဖြစ်ကြသည်။

ဤသို့သော အခြေအနေတွင် မွတ်စလင်မ်တို့အနေဖြင့် စူးစမ်း

ဆင်ခြင်မဲ့သောနည်းလမ်းဖြင့် ယင်းအခြေကို ဆုံးဖြတ်ခဲ့ကြသည်။ စင်စစ်အားဖြင့် ရှုမြင်အပ်သောနည်းလမ်းသည်ကားအနောက်တိုင်းသားတို့၏သိပ္ပံပညာကို အနောက်တိုင်းသားတို့၏ နိုင်ငံရေးနှင့် ခွဲခြားစွာရှုမြင်ရမည်ဖြစ်သည်။ သို့ရာတွင် မွတ်စလင်မ်တို့အနေဖြင့် ဤသို့ရှုမြင်နိုင်ခြင်းမရှိခဲ့။ မွတ်စလင်မ်တို့သည် အနောက်တိုင်း သားတို့အား ရန်သူအဖြစ် မြင်ကြသကဲ့သို့ သူတို့၏ ပညာကိုလည်း ရန်သူအဖြစ် ရှုမြင်ခဲ့သည်။

အနောက်တိုင်းသားတို့၏ ပညာရေးနှင့် သိပ္ပံလက်ဆင့်ကမ်းပေးမှုများကို မွတ်စလင်မ်မဟုတ်သောလူ့အဖွဲ့အစည်းဝင်တို့က ကြိုဆိုလက်ခံသင်ယူ ခြင်းပြုခဲ့ကြသည်။ မွတ်စလင်မ်တို့ကမူ ဤသည်ကို ရန်သူအဖြစ် သတ်မှတ်တိမ်ရှောင်ထွက်ပြေးခဲ့ကြသည်။ ဤသို့အားဖြင့်မွတ်စလင်မ်တို့သည် အတူနေ အခြားလူမျိုးနွယ်တို့နှင့်ပညာရေးတွင် နှစ်ပေါင်း(၁၀၀)မျှ နောက်ကျကျန်ရစ်ခဲ့ခြင်းဖြစ်သည်။ သို့ဖြစ်၍ ပညာရေးတွင် ဦးဆောင်မှုပြုရန် အကြောင်းဖြစ်မလာပါ။

(၂) နောက်ထပ်ဆုံးရှုံးမှုတစ်ရပ်ကား ပညာရေးတွင်နိုးကြားလာသည်ဟု ဆိုရသောသူမွတ်စလင်မ်တို့သည် ပညာရေးဆိုင်ရာ၏အရေးပါမှုကိုတင်ပြရန် အရည်အချင်းမရှိသူနှင့် တင်ပြစည်းရုံးနိုင်စွမ်းမရှိသူများဖြစ်ခဲ့ရသည်။ ယင်းသူတို့သည် မှန်ကန်သော လုပ်ငန်းဆောင်တာကို မှားယွင်းသော ချဉ်းကပ်မှုဖြင့် ပြုခဲ့ကြသည်။ သို့ဖြစ်၍လည်း ပညာဆည်းပူးမှုနှင့် သိပ္ပံဘက်သို့ ချဉ်းကပ်မှုများသည် မွတ်စလင်မ်တို့တွင်ပေါ်ထွန်းမလာခဲ့ပါ။ အကယ်စင်စစ် ဖြစ်ထွန်းလာမည့်အခြေသည် ရှိရမည်ဖြစ်သည်။

သာဓက ဥပမာအားဖြင့် ဖော်ပြရသော် ခေတ်သစ်သိပ္ပံနှင့် ပညာရေးဆိုင ရာ၏ အရေးပါမှုကိုဖော်ပြရာတွင်ကျမ်းတော်မြတ်ကုရ်အာန်နှင့် ဟဒီးစ်ဩဝါဒတော်ကျမ်း တွင် ဖော်ပြထားသော အိလ်မ်ပညာကို ဖော်ထုတ်ပြရာတွင် ဘာသာရေးမဟုတ်သောအနေအထားဖြင့် မွတ်စလင်မ်တို့အား တင်ပြခဲ့ကြသည်။ သဘောက ယင်းပညာအိလ်မ်ဟူသည် တက္ကသိုလ်များကောလိပ်များတွင်ပို့ချသော ပညာသာလျှင်ဖြစ်သယောင် တင်ပြခဲ့ကြသည်။ ဤသည်မှန်ကန်သောစကားရပ်ကို မမှန်ကန်

သော နည်းလမ်းဖြင့် ချဉ်းကပ်ခြင်းသာလျှင် ဖြစ်နေသည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသော အိလ်မ်ပညာသည် လူ့တဝကို အစ္စလာမ်နည်းကျ ကုရ်အာန်၏ လမ်းညွှန်ပြချက်အတိုင်းတည်ဆောက်ခြင်းဖြစ်သည်။ ဤသည်မည်သည့်ဘာသာရပ်ကိုရည်ညွှန်းချက်ပါသော ပညာမဟုတ်ပါ။ အိလ်မ်ပညာရေးအတွက် ကြိုးပမ်းအားထုတ် ဆည်းပူးခြင်းသည် မွတ်စလင်မ်တို့အတွက် အရေးကြီးသော်လည်း ယင်းကိုပြဆိုရာတွင် ယင်းပညာကိုရယူလာမှုစွမ်းဆောင် ချက်သည်သာလျှင် ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ထုတ်လမ်းညွှန်ရမည်ဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင် စွမ်းအားကို မွေးထုတ်ကာ ဆန့်ကျင်နေသော အင်အားစုတို့အပေါ် လွှမ်းမိုးချုပ်ကိုင်မှုရယူရန်ဆိုထားသည်။

မျက်မှောက်ခေတ်ကာလတွင် ခေတ်သစ်သိပ္ပံနှင့် နည်းပညာအရသာလျှင် ယင်းချုပ်ကိုင် လွှမ်းမိုးမှုကို ပြုနိုင်ပါမည်။ ဤအဆင့်သို့ တက်လှမ်းရယူနိုင်ရန် မွတ်စလင်မ်တို့အနေဖြင့် မျက်မှောက်ခေတ်ကာလ၏ တိုးတက်နေသော ပညာရပ်များကို လေ့လာရယူချုပ်ကိုင်ရမည်ဖြစ်သည်။ ဤသို့ ပညာရေးဘက်သို့ ချဉ်းကပ်ခြင်းမရှိလျှင် ကျမ်းတော်မြတ်ကုရ်အာန်(၈း၆၀)က ဆိုသော ကူဝသေမရ်ဟဗာ ترهبون به ကို ပိုင်ဆိုင်သူဖြစ်လာမည်မဟုတ်ပါ။

သို့ဖြစ်၍ ကျမ်းတော်မြတ် ကုရ်အာန်၏ လမ်းညွှန်ပြသချက်ကို ပြည့်စုံသောလိုက်နာမှုပြုရန် မျက်မှောက်ခေတ် အခြေအနေတွင် မွတ်စလင်မ်တိုင်းသည် ပညာဆည်းပူးရယူရမည် ယင်းပညာကို မွတ်စလင်မ်တို့နှင့်အစ္စလာမ်၏ ခိုင်မြဲသောအခြေသို့ရောက်အောင် အမှီအခိုပြုရမည်ဖြစ်သည်မျက်မှောက်ခေတ် ပညာရေးဆိုင်ရာကို လှုံ့ဆော်တင်ပြသော ပုဂ္ဂိုလ်တို့၏ မှားယွင်းသောချဉ်းကပ်ပြောဆိုမှုများကြောင့် ဘာသာရေးသီးသန့်အုပ်စုဝင်တို့၏ အတိုက်အခံပြုခြင်းကိုခံနေရခြင်းဖြစ်သည်။ပညာသင်ယူရှာဖွေခြင်းသည် မွတ်စလင်မ် အားလုံးအတွက် ဖရဇ်တာဝန်ဖြစ်သည်။

طلب العلم فر يضة على كل مسلم

ဤကဲ့သို့သောဟဒီးစ်ဩဝါဒတော်များကိုဘာသာရေးသီးသန့်အုပ်စုဝင်တို့က ဖွင့်ဆိုရာ

တွင် ကျမ်းတော်မြတ် ကုရ်အာန်နှင့် ဟဒီးစ်ဩဝါဒတော်များကို ဆည်းပူးခြင်းဖြစ်သည်။ ဤဟဒီးစ်ကဲ့သို့သော ဩဝါဒတော်ကို ခေတ်ဆန်ပညာရေး လှုံ့ဆော်သူတို့က မျက်မှောက်ခေတ်ပညာကိုညွှန်းဆိုသောအခါ ဖော်ပြပါဘာသာရေးသီးသန့် အုပ်စုဝင်တို့က ဤသည် အစ္စလာမ်ကိုပုံပျက်အောင် လုပ်နေသည်ဟု မြင်လာသည်။ သို့ဖြစ်၍ ယင်းသူတို့ကို ရန်သူအဖြစ်သတ်မှတ်ကြတော့သည်။ ဤနေရာတွင် နှစ်ဖက်စလုံးသည် မှားယွင်းသော ရပ်တည်ချက်ကို ပြနေသည်။ မူလကျမ်းတော်မြတ်ကုရ်အာန်လာ လမ်းညွှန်ချက်နှင့် ဟဒီးစ်ဩဝါဒတော်များသည် မွတ်စလင်မ်တို့တွင် စွမ်းအားနှင့်စွမ်းဆောင်ချက်အတွက် အရင်းအနှီးအဖြစ်ပညာ၏လိုအပ်မှုကို ယင်းသူတို့ အားလုံးသတိလက်လွတ်ဖြစ်နေကြခြင်းဖြစ်သည်။

## အစ္စလာမ်တွင် သိပ္ပံပညာ၏ အရေးပါမှု

အစ္စလာမ်သာသနာတွင် သိပ္ပံပညာ၏ အရေးပါမှုသည် အကြောင်းများအပြားနှင့် သက်ဆိုင်နေသည်။ ယင်းတို့အနက် အချို့ကို ဖော်ပြပါမည်။

၁။ သိပ္ပံပညာဟူသည် သဘာဝလောကကြီး၏ ဖြစ်ထွန်းမှုကို လေ့လာခြင်းကို ခေါ်သည်။ ဤအရေးအချင်းသည် အီမာန်ရှင်တွင် ရှိအပ်သော ဆိုဖသ်အဖြစ် ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ညွှန်ပြသည်။

ပထဝီမြေကြီးနှင့် သဘာဝလောကကြီးဆမာဝါသ်၏ ဖန်ဆင်းမှုတွင်လည်းကောင်း၊ နေ့နှင့်ည၏ပြောင်းလဲဖြစ်ပေါ် လာမှုတွင်လည်းကောင်း၊ ဆင်ခြင်တုံတရားထားရှိသော ပညာရှင်တို့အတွက် သက်သေလက္ခဏာတော်များရှိသည်။ ယင်းသူတို့သည် ရပ်လျှက်လည်းကောင်း၊ ထိုင်လျှက်လည်းကောင်း၊ လဲလျောင်းလျှက်လည်းကောင်း အခြေအနေအမျိုးမျိုးတွင် အလ္လာဟ်အရှင်မြတ်ကို သတိရလျှက် ပထဝီမြေကြီးနှင့် ဆမာဝါသ်အမြင့်လောက၏ ဖန်ဆင်းတည်ရှိမှုနှင့် စပ်လျဉ်း၍ စဉ်းစားဆင်ခြင်မှုကို ပြနေကြသည်။ ( ၃း၁၉၁)

သို့ဖြစ်၍ သိပ္ပံသုတေသီတစ်ဦးသည် မိုအ်မင်န်တစ်ဦး၏ အလုပ်ကို ပြုနေသည်ကို တွေ့ရသည်။ သို့ရာတွင် မိုအ်မင်န်နှင့် သာမာန်သိပ္ပံပညာရှင်တို့

စပ်ကြားတွင် ကွာခြားချက်ရှိနေသည်။ သိပ္ပံပညာရှင်သည် သုတေသနပြုမှု သက်သက်အတွက်စူးစမ်းလေ့လာမှုပြုသည်။မိုအ်မင်နိ၏ စူးစမ်းမှုက ယင်းဖြစ်တွန်းမှုမှ သတိတရားရယူရေးဖြစ်သည်။ သိပ္ပံပညာရှင်သည် ပညာကိုရယူမှုသက်သက်ဖြစ်သည်။ မိုအ်မင်နိကမူ ပညာအားဖြင့် ရယူလိုသော ရည်မှန်းချက်ဖြစ်သည်။ သိပ္ပံပညာရှင်သည် ပညာတိုးပွားလာမှုကို ကျေနပ်ကြသည်။ မိုအ်မင်နိကမူ သိပ္ပံတွေ့ရှိချက်အားဖြင့် အီမာန်ပြည့်စုံမှုကို ရယူနိုင်မှုကျေနပ်ကြသည်။

ဤသို့တွေးခေါ်မှု၏ ခြားနားချက်သည် သိပ္ပံပညာရှင်နှင့် မိုအ်မင်နိတို့ စပ်ကြားတွင် ခြားနားလွန်းလှသည်။ သိပ္ပံပညာရှင်၏ ဆင်ခြင်သုံးသပ်လေ့လာမှုသည် အရာဝတ္ထု၏ အထူးပြုမှုလောက်ကိုသာလျှင် ကန့်သတ်မှုပြု၏။ သိပ္ပံပညာရှင်သည် အရာဝတ္ထု၏ လုပ်ဆောင်လည်ပတ်မှုကို ယင်း၏ဖစ်မြစ်တရားမှ ခွဲထုတ်ပစ်သည်။ သိပ္ပံပညာရှင်သည် သဘာဝလောကကြီးကို ရှုမြင်ရာတွင် လူသားတို့၏ ဆင်ခြင်တတ်သော ဉာဏ်ပညာကိုသာ အသုံးချကြသည်။ လူတို့၏ ဆင်ခြင်တတ်သော အသိဉာဏ်သည် ကန့်သတ်ထားသော အမြင်လောက်ကိုသာလျှင် ရှုမြင်နိုင်စွမ်းရှိသည်။ ဤသို့ဖြစ်ရခြင်းမှာ လည်း သိပ္ပံပညာရှင်တို့သည် သူတို့၏ စူးစမ်းသိမြင်လိုသောအရာလောက်ကိုသာလျှင် သိမြင်လိုသော ဘောင်ခတ်ထားမှုကြောင့် ဖြစ်သည်။

မိုအ်မင်နိကမူ သူတို့၏ ဆင်ခြင်သုံးသပ်နိုင်သော အသိဉာဏ်သာမက နဗီဝသ်ကပေးသော အသိလမ်းပေးမှုကိုလည်း အသိအမှတ်ပြု အသုံးပြုကြသည်။ သို့ဖြစ်၍ အရာဝတ္ထု၏ ဘောင်ခတ်ထားမှု အနေအထားကို ကျော်လွန်ပြီး အရာဝတ္ထု၏ ဖစ်မြစ်အထိ လေ့လာသုံးသပ်နိုင်စွမ်းရှိလာခြင်းဖြစ်သည်။ မိုအ်မင်နိဖန်ဆင်းခံများသည်ဖန်ဆင်းရှင်နှင့် တွဲဖက်၍ရှုမြင်တတ်သည်။ ဤကွာခြား ခြားနားမှုသည် မိုအ်မင်နိတို့၏ သဘာဝလောကကြီးကို ရှုမြင်တတ်မှု၏ အလွန်လေးနက်သော သိမြင်မှုကို ဖြစ်ပေါ်လာစေပါသည်။ သဘာဝလောကကြီးကို စူးစမ်းလေ့လာ သုံးသပ်သောအခါ ယင်းတို့တွင် အလ္လာဟ်အရှင်မြတ်၏ ဆိုယာမ်၏ ရောင်ပြန်ကို ရှုမြင်ရတော့သည်။ သို့ဖြစ်၍လည်း သဘာဝလောကကြီးကို ရှုမြင်ရယူနေစဉ်တွင် အလ္လာဟ်

အရှင်မြတ်ကိုလည်းတွေ့ရှိရတော့သည်။ ဤသည်ကိုပင်လျှင်ရယူနိုင်စေဖို့ တမန်တော်မြတ်၏ နည်းပေးလမ်းညွှန်ချက်ဖြင့် အီမာန်ရယူခြင်းဖြစ်သည်။

၂။ ကျမ်းတော်မြတ်ကုရ်အာန်တွင် သဘာဝလောကကြီး၏ ဖြစ်ထွန်းပြောင်းလဲမှုကို အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်အဖြစ် ဖော်ပြထားသည်ကို တွေ့မြင်ရမည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသော အကြောင်းအရာများနှင့် လမ်းညွှန်ပြသချက်များသည် သဘာဝလောကကြီးနှင့် ထပ်တူထပ်မျှရှိနေကြောင်းကိုလည်း တွေ့မြင်ရ မည်ဖြစ်သည်။

သိပ္ပံပညာနှင့် သိပ္ပံနှင့် ဆက်နွယ်သောအရာဟုခေါ်ဆိုကြသော အရာများသည် သိပ္ပံပညာရှင်က အမည်ခေါ်ဝေါ် သတ်မှတ်မှုဖြစ်လာကြသည် မဟုတ်။ ယင်းအရာများသည် မူလကတည်းက ရှိနေပြီး သိပ္ပံဆိုင်ရာရှာဖွေတွေ့ရှိချက် ဟူသည် အလ္လာဟ်အရှင်မြတ်က သဘာဝလောကကြီးတွင် သတ်မှတ်ပေးထားသော စနစ်ဖယားစည်းမျဉ်းကို ရှာဖွေခြင်းကို ခေါ်သည်။ ဤအချက်အလက်တစ်စုံတစ်ခုကို ရှာဖွေတွေ့ရှိခဲ့လျှင် ယင်းသည် အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းထားမှု၏ စနစ်ဖယား သာလျှင် ဖြစ်ပေသည်။ ဤသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာကို လူတို့သိမြင်ခြင်းပင်ဖြစ်တော့သည်။

သိပ္ပံပညာသည် သိပ္ပံပညာသက်သက်ကို လေ့လာသူတို့အဖို့ရာတွင် ယင်းသည် ပညာကိုတတ်လာမှုနှင့် လူ့လောက ကြီးကို တည်ဆောက်မှုသာလျှင် ဖြစ်သော်လည်း မိုအ်မင်နတစ်ဦးသည် သိပ္ပံပညာကို တတ်မြောက်ကာ သိပ္ပံနည်းကျရှုမြင်နိုင်ခဲ့ပါလျှင် ဤသည် မှန်ကန်သော ဒါအ်ဝဟ်ဖိတ်ခေါ်မှုအတွက် လက်နက်သဖွယ် အသုံးချနိုင်သော မိုးငြိမ်းပစ္စည်းဖြစ်လာတော့သည်။ ဤသည် မိုအ်မင်နတို့အတွက် လူသားတို့ကို ဖိတ်ခေါ်မှုပြုနိုင်စွမ်းဖြစ်သည်။ ဤသည် မိုအ်မင်နတို့အတွက် လူသားတို့ကို ဖိတ်ခေါ်မှုပြုရာသက်သေခံပစ္စည်းသဖွယ်ဖြစ်ပေသည်။

၃။ သိပ္ပံပညာ၏ နောက်ထပ်ရှုဒေါင့်တစ်ခုက သိပ္ပံပညာဟူသည် ယနေ့ခေတ်ကာလတွင် စွမ်းအားတစ်ခုဖြစ်နေသည်။ ဤအကြောင်းကို ဖော်ပြခဲ့ပြီးဖြစ်သည်။ ဤသိပ္ပံစွမ်းအားကိုရရှိအောင်ပြုရေးသည်အစ္စလာမ်နှင့်မွတ်စလင်မ်တို့၏ ဂုဏ်သိက္ခာ

ကို လူသားတို့အလယ်တွင်ဂုဏ်ယူဦးမောက်လာစေနိုင်သည်ကို သတိပြုသင့်သည်။ ဤသို့ပြုနိုင်ရေးအတွက် မွတ်စလင်မ် တို့အဖို့ သိပ္ပံပညာကို ဆည်းပူးလေ့လာလျက် စိတ်ပါဝင်စားစွာဖြင့် ယင်းဘာသာရပ်တွင် စူးစမ်းလေ့လာသုတေသနပြုမှ သာလျှင် ဖြစ်နိုင်ပေမည်။ ဤသို့ပြုရာတွင် ကြိုးပမ်းမှုအားစိုက်မှု အလုံးစုံဖြင့် ယင်း ဘာသာရပ်၏ ဒိမာဖ်ရှေ့ဆောင်အဖြစ် ခံယူရရှိသော အဆင့်အထိ ပြုရပါမည်။

(၁၉)ရာစုလွန်နှစ်မှစတင်ခဲ့သော လှုပ်ရှားမှုတစ်ခုဖြစ်သော ကိုလိုနီနယ်ချဲ့များကို မွတ်စလင်မ်လူ့အဖွဲ့အစည်း၏ ပထဝီ နယ်ပယ်မှ မောင်းထုတ်ရေးကို မွတ်စလင်မ်အဖွဲ့အစည်းဝင်တို့ကအားခွန်းစိုက်ပြုခဲ့ကြသည်။ ဤသည် မွတ်စလင်မ်တို့အတွက် ဩဇာလွှမ်းမိုးမှုအတွက် အပေါ်စီးရယူမှုဟု မှတ်ခဲ့ကြသည်။ ဤအရေးအောင်မြင်ဖြစ်ထွန်းလာစေရေးအတွက် သွေးနှင့်သွေးရင်းကာ အသက်ရာပေါင်း ထောင်ပေါင်းများစွာ စတေးခဲ့ရသည်။ သို့ရာတွင် ယနေ့အခါတွင်လည်း ကမ္ဘာ့မွတ်စလင်မ်ထုအဖို့ရာတွင် သိပ္ပံနှင့် နည်းပညာ နယ်ပယ်တွင် ယင်းသူတို့၏ ကျွန်သဖွယ်ဖြစ်နေသည်။

လူတို့အတွက် အရေးတကြီး လိုအပ်နေသောအချိန်သိရှိရေး ကိရိယာဖြစ်သောနာရီမှစ၍ ပြည်ပရန်ကို တွန်းလှန်ရသော လက်နက်အစုံ အရာမှန်သမျှကို မွတ်စလင်မ်တို့အနေဖြင့် ယင်းသူတို့ထံ အားကိုးနေရဆဲဖြစ်နေသည်။ သတိထားသင့်သည့် အချက်က မျက်မှောက်ခေတ်ကာလတွင် ခေတ်သစ်သိပ္ပံနှင့် နည်းပညာကို မှီခိုအားထားနေရသည်။ ဤအားနည်းချက်ကိုမှတည်၍လည်း ယနေ့ခေတ်ကာလတိုင်အောင် မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့သည် ယင်းသူတို့၏ ကူညီမှုကို အမှီသဟဲပြုနေပြီး၊ သူတို့၏ ရုပ်သေသဖွယ်နေရာတစ်ကာတွင် အသုံးခံနေရခြင်းဖြစ်သည်။

အလယ်ခေတ်ဟုဆိုရသောမွတ်စလင်မ်တို့၏ ပညာရေးနှင့်တည်ဆောက်ရေး ခေတ်ကြီးကို ထိုခေတ် ထိုကာလက တိုးတက်ရေးတက်လှမ်းလိုကြသော သူတို့သည် အတုယူခဲ့ကြသည်။ (၁၈)ရာစုစဦးပိုင်းက အိန္ဒိယတိုက်နယ် ဂျေပူစော်ဘွားကြီး ရာဂျာဂျေဆင့်သည် ယင်းမွတ်စလင်မ်တို့၏ ပညာရေးနှင့်

တည်ဆောက်မှုကိုသဘောကျကြ၊ အိန္ဒိယနိုင်ငံတွင်လည်း အာကာသ လေ့လာရေးမျှော်စင်များကို တည်ဆောက်ခဲ့သည်။ ဒေလီမြို့တွင် တွေ့ရသော ဂျန်သရ်မန်သရ်မျှော်စင်ကြီးသည် ယင်းပုဂ္ဂိုလ်ကြီး၏လက်ရာဖြစ်သည်။ ယင်းလမ်းမကြီးကိုပင်လျှင် ဂျန်သရ်မန်သရ်လမ်းမကြီးဟုခေါ်သည်။

စော်ဘွားကြီးသည်အိန္ဒိယတိုက်နယ်၏ အခြားဒေသအများ အပြားတွင်လည်း ယင်းအာကာသလေ့လာရေး မျှော်စင်ကြီးများကို တည်ဆောက်ကာ သူ၏ လူမျိုးနွယ်ဝင်တို့ကို သိပ္ပံပညာကို စိတ်ဝင်စားလာအောင်ပြုလုပ်နိုင်ခဲ့သည်။

ရှေးခေတ်ကာလက မွတ်စလင်မ်တို့သည် ပညာရေးဆိုင်ရာ၏ အိမာမ်ရှေ့ဆောင်လမ်းပြဖြစ်သည်။ သို့ဖြစ်၍လည်း အခြားသူတို့က မွတ်စလင်မ်တို့၏ နည်းလမ်းကို လျှောက်လှမ်းကာ အောင်ပွဲကို ခံယူနိုင်ရန် ကြိုးစားခဲ့ကြသည်။ သို့ရာတွင် မွတ်စလင်မ်တို့၏ သတိလက်လွတ်ပြုမူမှုကြောင့် ဤရှေ့ဆောင်လမ်းပြအဖြစ်မှ ရုတ်သိမ်းခံရသည်။ ဤရှေ့ဆောင်လမ်းပြ အဖြစ် အနောက်တိုင်းသားတို့လက်ဝယ် ရောက်ရှိလာတော့သည်။ လွန်ခဲ့သော နှစ်ပေါင်း(၃၀၀)အလျင်က လူများသည် သိပ္ပံဆိုင်ရာမျှော်စင်နှင့် နည်းပညာကို လေ့လာလိုလျှင် ဘဂ္ဂဒတ်ဝန်းကျင်ရှိ မွတ်စလင်မ်တို့၏ တိုးတက်သော မြင်ကွင်းကို ရှုမြင်အောင် ကြိုးစားခဲ့ကြသည်။ သို့သော် ယနေ့ မွတ်စလင်မ်တို့အနေဖြင့် ဤကဲ့သို့ သိပ္ပံဆိုင်ရာ နေရာဌာနကို တည်ဆောက် လိုပါလျှင် ယင်းအတွက်နည်းပညာနှင့် လိုအပ်သော ပစ္စည်းများကို အနောက်တိုင်းပါရဂူတို့ထံ ချဉ်းကပ်ရယူနေရခြင်းဖြစ်သည်။

ဤအခြေအနေသည်ပင်လျှင် မွတ်စလင်မ်တို့၏ မူလကရှိခဲ့သော ဂုဏ်ရည်နှင့်ဦးမော့မှုများ၏ ဆုံးမှတ်ဖြစ်ခဲ့ပြီ၊ ယင်းဆုံးမှတ်မှစ၍ မွတ်စလင်မ်လူအဖွဲ့အစည်းဝင်တို့သည် ပညာရေးနယ်ပယ်တွင် လျှောက်လှမ်းကာ ခရီးဦးကို စတင်ရတော့မည်ဖြစ်သည်။

''အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအလ္လာဟ်ရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား အသိပညာအရာတွင်တိုးတက်ဖွံ့ဖြိုး ပွားများစေတော်မူပါ'' ( ၂၀ း ၁၁၄ )

အို–နဗီတမန်တော်၊ ထိုသူတို့အား ပြောကြားပါလော့။ အသိအလိမ္မာဉာဏ်ပညာရှိသောပညာရှိသူတို့နှင့် အသိအလိမ္မာ ဉာဏ်ပညာ ကင်းမဲ့သောသူတို့သည် တူကြပါသလော။ စင်စစ်ဤအဖြစ်မှန်ကို ဉာဏ်ရှင်များသာလျှင် နားလည်သိမြင်နိုင်မည်ဖြစ်သည်။(၃၉ း ၉ )

## အခန်း(၈)

## ဂျဒိဒ်မအ်ကူလာသ်(ဒါ) ခေတ်ဆန်နည်းစနစ်ဖြင့် ချဉ်းကပ်မှု

ဂျဒိဒ်မအ်ကူလာသ်ဟူသည် ခေတ်ဆန်ဉာဏ်ကြီးရှင်တို့ကို သိမြင်နားလည်အောင် ဒီင်န်၏သဘောကို တင်ပြမှုဖြစ်သည်။ ဤသည် ခေတ်မှီစည်းစနစ်အားဖြင့် ယထာဘူယျနည်းလမ်းအားဖြင့် ချဉ်းကပ်ကာ အစ္စလာမ်၏ သွန်သင်ပြသချက်များကိုဖော်ပြခြင်းပင်ဖြစ်သည်။ ခေတ်ဆန်ဉာဏ်ကြီးရှင်ဟူသည်စကားရပ်သည်သိပ္ပံနည်းကျဆန်းစစ်လေ့လာ သောသူတို့ကိုခေါ်ဆိုပါသည်။ ယင်းသူတို့သည် အခြေအနေအကြောင်းအရာ၏ နည်းစဉ်သည် မျက်မှောက်ခေတ် လူတို့ကို တွေးခေါ်မှုပြုရာတွင် မှန်ကန်သော ဆန်းစစ်တတ်မှုနှင့် ယထာဘူယျနည်း ကျလေ့လာဆုံးဖြတ်မှုကို အခြေခံအဖြစ် သတ်မှတ်ထားသည်။

ဤသို့မဟုတ်သော ပုံပြင်ဒဏ္ဍာရီဆန်သော လူတို့၏ စိတ်ကူးယဉ်ဖြင့် မှန်းဆဖော်ပြနေမှုများကို လူတို့ငြင်းပယ်နေကြပြီးဖြစ် သည်။ ဤသို့ဖြစ်ရခြင်းမှာ မျက်မှောက်ခေတ် တွေးခေါ်မှုဆိုင်ရာ တော်လှန်ရေးသည် သဘာဝတရား၏ စစ်မှန်သော အခြေအနေပေါ်တွင် အခြေခံ၍ဖြစ်ပေသည်။

စက်တီထွင်မှုသည် လေယာဉ်ပျံ လမ်းဘေးရောင်ဝှိုင်မှသည် ကြီးမားလှသော စက်ရုံကြီးများသည် သဘာဝဖြစ်စဉ်၏ စည်းစနစ်ပေါ်တွင် တည်ဆောက်ထားခြင်းဖြစ်သည်။ ဤသည်ပင်လျှင် မျက်မှောက်ကမ္ဘာကြီး၏ အကြီးမားဆုံးသော ပြုပြင်ပြောင်းလဲမှုတော်လှန်ရေးဖြစ်သည်။ ဤသည်ပင်လျှင် မျက်မှောက်လူသားတို့၏ ဘဝဆိုင်ရာပြဿနာရပ်အားလုံးပေါ်တွင် ချုပ်ကိုင်ထားမှုဖြစ်နေသည်။ ဤတွေးခေါ်မှုကြောင့်ပင်လျှင် လူတို့သည် တင်ပြမှုနည်းစနစ်(အိလ်မုလ်ကလာမ်)ကို ပြောင်းလဲ အသုံးပြုခြင်းဖြစ်သည်။

လူတို့သည် နှစ်ပေါင်းထောင်ချီသော ကာလကာစ၍ သံကို ရွှေဖြစ်စေသော အင်္ဂရတ်ထိုးသော လျှို့ဝှက်ကျင့်စဉ်ကို အကောင်အထည်ဖော် ကြိုးပမ်းခဲ့ကြသည်။ သို့ရာတွင် အောင်မြင်မှုက မရရှိခဲ့။ ယခုအခါ သဘာဝဖြစ်စဉ် ဥပဒေသကို

ရှာဖွေတွေ့ရှိသောအခါ လူတို့သည် သံကို စက်များယန္တရားများအဖြစ် ပြောင်းလဲ၍ ရနေသည်။ ဤသည် ရွှေဖြစ်စေသော စိတ်ကူးယဉ်နည်းထက် အဆမတန် တန်ဖိုးရှိပြီး အလွန်ကြီးမားလှသော အကျိုးဖြစ်ထွန်းမှုကို ပေးနေသည်။

ဤသို့သောအချိန် အခါမျိုးတွင် လူတို့အဖို့ သဘာဝနည်းလမ်းကျသော စကားရပ်များ၊ ယထဘူယျကျသော တွေးခေါ်မှုကိုသာလျှင် ပြုမည်မှာ အမှန်ပင် ဖြစ်သည်။ ဤစကားရပ်သည်သာလျှင် အလေးထားမှုရှိပြီး ယုတ္တိဗေဒနည်းကျ မည်ဖြစ်သည်။ ယနေ့ခေတ် လူသားသည် သဘာဝနည်းကျသော အခြေခံကျသော တင်ပြမှုကိုသာလျှင် စိတ်ဝင်စားမှု အားသန်မှုများနှင့် ယုံကြည်မှုရှိနေ သည်။

ခေတ်ဟောင်းကလူနှင့် ခေတ်သစ်ကလူတို့၏ အတွေးအမြင်ခြားနားမှုကို ဥပမာအားဖြင့် ဖော်ပြလိုပါသည်။ နှစ်ပေါင်း(၅၀) ကျော်အလျင်က လူတို့ထံမှ အောက်ပါစကားများကို ကြားသိခဲ့ရသည်။ မိရိုးဖလာသုံးဆေးဝါး၊ ရိုးရာဆေးကုနည်း၊ နန်းတွင်းသုံး ဆေးဝါး၊ လျှို့ဝှက်ချက်၊ အကြားအမြင်ဖြင့် ဖော်စပ်ထားသော သွားတိုက်ဆေး၊ အမွှေးတိုင်၊ စသည်ဖြင့် ရှေးနှစ်ပေါင်း အလျင်ကစ၍ တဖြည်းဖြည်း အပြောနည်းလာခဲ့ကြသည်။

ယနေ့ကာလတွင်မူ ဆေးဝါးတစ်မျိုး၊ သွားတိုက်ဆေး၊ လိမ်းဆေးနှင့် ပတ်သက်၍ ဆေးဝါးဘက်ဆိုင်ရာ ကျွမ်းကျင်သူတို့၏ အထောက်အထားများ၊ သမားတော်ကြီးများ၊ ဆရာဝန်ကြီးများ၏ ညွှန်ကြားချက်နှင့် ဆေးဘက်ဆိုင်ရာ ပုဂ္ဂိုလ်တို့၏ အကြံပေးချက်ကို အထူးပြုကြတော့သည်။ ဤအချက်များကို ဖော်ပြကြသော သူတို့ကလည်းကောင်း၊ အကြံဉာဏ်တောင်း ခံကြသူတို့က လည်းကောင်း၊ သိပ္ပံနည်းကျတင်ပြမှုကို အခြေခံကြခြင်းဖြစ်သည်။

သိပ္ပံနည်းကျဟူ၍ ဆိုရာတွင် ယင်းဝတ္ထုပစ္စည်းကို သေချာကျနစွာ စစ်ဆေးပြီးနောက် ယင်း၏ အကျိုးနှင့်အပြစ်များ ကို ဆန်းစစ်ခြင်းပင်ဖြစ်သည်။ ထို့မှုမက ယင်းဝတ္ထုပစ္စည်းများကို မကျေနပ်ချက်တစ်စုံတစ်ခုရှိလာလျှင် ပြန်လည်၍ စစ်ဆေးပိုင်ခွင့်လည်းရှိနေသည်။ အတိတ်ကာလက မိရိုးဖလာကုထုံးက မျိုးရိုးစဉ်ဆက်နည်းလမ်းဖြင့် ကုသခဲ့သည်။ ဤနည်းလမ်းနှင့် စပ်လျဉ်းပြီး

စစ်ဆေးခြင်းနှင့် အကျိုးအပြစ်များကို ရှာဖွေရန် မလိုဟု၍ သတ်မှတ်ထား ချက်များရှိနေသည်။

ခေတ်သစ်သိပ္ပံပညာ၏ ပေါ်ထွန်းတိုးတက်လာမှု မတိုင်ခင်က လူတို့သည် စဉ်းစားတွေးခေါ်မှုကို မှန်းဆချက်အားဖြင့် ပြုခဲ့ကြသည်။ သို့ရာတွင် ခေတ်သစ် သိပ္ပံပေါ်ထွန်းလာပြီးနောက် လူတို့သည် အရာရာတိုင်းကို ဆန်းစစ်မှုနှင့် အခြေခံ သဘောကို သိမြင်လိုမှုရှိလိုကြသည်။ ဤဖော်ပြပါသဘောတရားကို သဘောပေါက် ပါက အတိတ်ခေတ်ဟောင်းက ရှိခဲ့သော အိုင်မှုလ် ကလာမ်နှင့် ခေတ်သစ်အိုင်မှုလ် ကလာမ်၏ ခြားနားချက်ကို သဘောပေါက်နိုင်မည်ဖြစ်သည်။ ခေတ်ဟောင်းက တင်ပြမှုများ သည် ဒဿနဆန်းသော စကားရပ်များကို ပြောဆိုတင်ပြသည်။

ခေတ်သစ်တင်ပြမှုက ယုတ္တိဗေဒနည်းကျသော သက်သေ သာဓကများကို အခြေခံ၍ တင်ပြချက်ဖြစ်သည်။ အတိတ်က စိတ်ကူးယဉ်မှန်းဆချက်ဒဿနကို လူတို့ ယုံလွယ်အောင်ပြောကြ သော်လည်း ခေတ်သစ်တင်ပြမှုက ယုတ္တိဗေဒနည်း ကျနှင့်သိပ္ပံနည်းကျလူတို့ သိမြင်နိုင်သော ဆင်ခြင်နိုင်သော အသိတရားပေါ် တွင် အခြေခံနေခြင်းဖြစ်သည်။

ခေတ်သစ်နည်းစနစ်အားဖြင့် ဆန်းစစ်လေ့လာတင်ပြမှုသည် အခြား သူတို့အတွက် အသစ်အဆန်းဖြစ်နေမည်မှန်းလည်း အစ္စလာမ်နယ်ပယ်တွင်မူ ယင်းသည် အစ္စလာမ်စဦးကာလကတည်းက ကျင့်သုံးခဲ့သော နည်းလမ်းဖြစ်သည်ကို တွေ့မြင်နိုင်သည်။ ကျမ်းတော်မြတ်ကုရ်အာန်က လူသားတို့ကို တင်ပြချဉ်းကပ်သော နည်းစဉ်သည် ယနေ့ မျက်မှောက်ကမ္ဘာတွင် လူတို့က ကျင့်သုံးနေသော သိမြင်လိုသော နည်းစဉ်ဖြစ်နေသည်။ သို့ဖြစ်၍ မျက်မှောက်ခေတ်ကာလတွင် ခေတ်သစ်တင်ပြသော နည်းစဉ်အရ ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြပုံ တင်ပြနည်းဖြစ်နေသည်။ ဉာဏ်ပညာရှင်တို့ကို ချဉ်းကပ်သောနည်းစဉ် ဂျဒိဒ် မအ်ကုလာသ်သည် ကျမ်းတော်မြတ်ကုရ်အာန်ဖက်သို့ ပြန်လှည့်ခြင်းပင်ဖြစ် တော့သည်။

ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားသည်မှာ အိဒ်ရာဟိမ်နဗီသည်

နှစ်ပေါင်း(၄၀၀၀)အလျင်က ရှေးဟောင်းအီရတ်ပြည်ရှိ မှရှ်ရိက်တဖက် နိုင်းယှဉ်ကိုးကွယ်သူတို့၏ ရှေ့မှောက်တွင် သောင်ဟီးဒ်သဘောတရားကို တင်ပြသော အခါ ကြယ်၊နက္ခတ်တာရာတို့ သဘာဝဖြစ်စဉ် သက်သေသာဓကအားဖြင့် သောင်ဟီးဒ်အတွက် သက်သေထူခဲ့ခြင်းပြုခဲ့သည်။ တမန်တော်မြတ်ကြီး ၏အကြောင်းတစ်ရပ်ကို စူရာဟ်အန်အာမ်တွင် ဖော်ပြထားရာ ယင်းအာယတ်တော် တွင် အောက်ပါအတိုင်း ပါရှိသည်။

**تلك حجتنا آيتنا ها ابرا هيم على قومه**

''ဤသည် ငါ၏သက်သေသာဓကတော်ဖြစ်သည်။ ဤသည်ကို ငါသည် အိဗ်ရာဟိမ်နဗီအားဖြင့် သူတို့၏ လူအဖွဲ့ အစည်းပေါ်သို့ ပို့ချခဲ့သည်။''(၆း၈)

ဤဖော်ပြပါ အာယတ်တော်တွင် حجتنا ဟူသောဝေါဟာရသည် အိဗ်ရာဟိမ်နဗီ၏ တင်ပြပုံတင်ပြနည်းသည် အလ္လာဟ်အရှင်မြတ်၏ တင်ပြပုံ တင်ပြနည်းဖြစ်ကြောင်းတွေ့နိုင်သည်။ ဤအချက်အားဖြင့် သိရှိရသည်မှာ အလ္လာဟ်အရှင်မြတ်၏နည်းစဉ်ဖြင့်ပို့ချမှုပြုရာတွင်သဘာဝလောကကြီးကို သက်သေပြု ဖော်ပြခြင်းပင်ဖြစ်ကြောင်း သိနိုင်သည်။ ထို့မျှမက အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်တော်ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ်က လမ်းညွှန်ဖော်ပြမှုပြုရာတွင် ယင်းအချက်အလက် များကို သဘာဝလောကကြီး၏ဖြစ်စဉ် သက်သေသာဓက အားဖြင့် လူသားတို့ကို သိနားလည်အောင် ဖော်ပြခဲ့ကြောင်း သိမြင်နိုင်သည်။ ဤအလ္လာဟ်က သက်သေပြုသော အရာထက်ကြီးကျယ်မြင့်မြတ်သော သက်သေပြုချက်များ ရှိပါမလား။ သို့ဖြစ်၍လည်း ကျမ်းတော်မြတ်ကုရ်အာန်က ဆိုသည်မှာ **هذ اكتا بنا ينطق عليكم با لحق**

ဤသည် ငါအရှင်မြတ်၏ မှတ်တမ်းစာအုပ်ပင်။ငါးမှတ်တမ်းစာအုပ်သည် အသင်တို့နှင့်ပတ်သက်၍ တိကျမှန်ကန်စွာ ပြောပြနေပေသည်။ စေန်မလွဲ ငါ အရှင်မြတ်သည် အသင်တို့ ကျင့်မူခဲ့ကြသည်ကို ရေးမှတ်စေလျက် ရှိတော်မူခဲ့ပေ သတည်း။ (၄၅ း၂၉)

တစ်ဖက်တွင်လည်း သဘာဝလောကကြီးနှင့် ပတ်သက်၍ အောက်ပါအတိုင်း

ဖော်ပြထားသည်ကို တွေ့ရသည်။

**ما خلقنا هما الا بالحق**

စစ်စစ်အားဖြင့် ငါအရှင်မြတ်သည် ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေ နှစ်ခုစလုံးကို နက်နဲသိမ်မွေ့တိကျမှန်ကန်သောအကြောင်းနှင့်တကွ ဖန်ဆင်းတော်မူခဲ့၏။ ၄၄ း၃၉ )

ကျမ်းတော်မြတ်ကုရ်အာန်နှင့်သဘာဝလောကကြီးနှစ်ခုစလုံးသည်တစ်ခုတည်းသောစနစ်ဇယားတင်ပြချက်အတွက် အလ္လာဟ်အရှင်မြတ်၏ဖွင့်ဟပြောပြချက်ဖြစ်သည်။သို့ဖြစ်၍ ကျမ်းတော်မြတ်ကုရ်အာန်က တစ်နေရာတွင် ဖွင့်ဆိုချက်ကို စကားလုံးအားဖြင့် ပြောဆိုရှင်းပြသလို တစ်နေရာတွင် လှုပ်ရှားသွားလာနေသော လက်တွေ့ဖြစ်စဉ်အားဖြင့် ရှင်းပြနေကြောင်း တွေ့မြင်နိုင်သည်။

ကျမ်းတော်မြတ် ကုရ်အာန်အရ သိရှိရသည် နောက်ထပ်အချက်တစ်ခုက အတိတ်ကာလကပေါ်ထွန်းခဲ့ကြသော တမန်တော်အပေါင်းသည် ဤသက်သေသာဓကအားဖြင့်သာလျှင် သောင်ဟီးဒ်၏ သဝဏ်ကို လူသားတို့အား ပို့ချတင်ပြခဲ့ကြောင်း ဖြစ်သည်။ နုဟ်နဗီသည် လူ့သမိုင်းတွင် အလွန်ရှေးကျသော တမန်တော်တစ်ပါးဖြစ်သည်။သူ၏လူ့အဖွဲ့အစည်းဝင်တို့အား တင်ပြပုံကို ကျမ်းတော်မြတ်ကုရ်အာန်တွင်လေ့လာကြည့်သောအခါလည်းဤသဘာဝလောကကြီး၏ ဖြစ်စဉ်သာဓကသာလျှင်ဖြစ်ကြောင်း တွေ့ရသည်။

ထိုကဲ့သို့ ဖိတ်ခေါ်ရာတွင် ယင်းတို့အားဤသို့ပြောကြားခဲ့ပါ၏။အသင်းတို့ အသင်တို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားအသနားခံကြလေကုန်။ မလွဲဧကန်ထိုအရှင်မြတ်သည်အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူသောအရှင် ဖြစ်တော် မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အပေါ်ဝယ် မြောက်မြားစွာ ရွာသွန်းသောမိုးကို စေလွှတ်တော်မူ ပေမည်။ ထို့ပြင် ထိုအရှင်မြတ်သည် အသင်တို့အား ပစ္စည်းဥစ္စာများ ချီးမြှင့်တော်မူခြင်းအားဖြင့်လည်း ကောင်း။ သားသမီးများချီးမြှင့်တော်မူခြင်းအားဖြင့် လည်းကောင်း၊ စောင်မ ကူညီတော်မူပေမည်။ထို့ပြင် အသင်တို့အဖို့ဥယျာဉ်များကို ဖန်ဆင်း၍ ပေးသနားတော်မူသည့်ပြင် အသင်တို့အဖို့ ချောင်းများကိုလည်း စီးတွေစေတော်မူပေမည်။ အသင်တို့၌ မည်သည့် အကြောင်းရှိ၍ အလ္လာဟ်အရှင်မြတ်၏

ထူးကဲမြင့်မြတ်မှုကို မယုံကြည် ကြသနည်း။

စင်စစ်ကေန် ထိုအရှင်မြတ်သည် အသင်တို့အားရုပ်ဆင်း အမျိုးမျိုးနှင့်၊ နည်းအမျိုးမျိုးပြောင်း၍ အဆင့်ဆင့်ဖန်ဆင်းတော်မူခဲ့၏။ အလ္လာဟ်အရှင်မြတ်သည် မိုးခုနစ်ခုကိုမည်သို့မည်ပုံအထပ်ထပ်ဖန်ဆင်းတော်မူခဲ့သည်ကိုအသင်တို့သည်လေ့လာဆင်ခြင်တွေ့မြင်ခဲ့ကြသည် မဟုတ်လော။

ကြင်းပြင် ထိုအရှင်မြတ်သည်ယင်းမိုးများ၌ ''လ''ကိုလင်းရောင်ခြည် ဖြစ်စေတော်မူခဲ့၏။ ထို့ပြင် ''နေ''ကို မီးရှူးမီးတိုင်ပြုလုပ်တော်မူခဲ့၏။ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ အား အထူးနည်းမျိုးနှင့် မြေပြင့်ဖန်ဆင်းတော်မူခဲ့၏။ထို့နောက်တစ်ဖန် ထိုအရှင်မြတ်သည် အသင် တို့အား ယင်းပထဝီမြေထဲသို့ပင် ပြန်ရောက်စေတော်မူပေမည်။ ထို့နောက်တစ်ဖန်အသင်တို့အားယင်း မြေထဲမှအပြင်သို့ ထွက်စေတော်မူပေမည်။ထိုမှတစ်ပါးအလ္လာဟ်အရှင်မြတ်သည်အသင်တို့အကျိုးငှာ ပထဝီမြေကိုအခင်းအကျင်း ပြုလုပ်တော်မူခဲ့၏။ သို့မှသာလျှင် အသင်တို့သည်ယင်းပထဝီမြေ၏ လမ်းကျယ်များဝယ် သွားလာနိုင်ကြကုန်အံ့ သတည်း။ (၇၁ း၁၀-၂၀)

ကျမ်းတော်မြတ်ကုရ်အာန်တစ်ခုလုံးတွင်တင်ပြပုံတင်ပြနည်းသည် ဤသဘာဝလောကကြီး၏ ဖြစ်စဉ်ကိုအခြေခံကြောင်း တွေ့ရသည်။

ဤသည်ပင်လျှင်ကျမ်းတော်မြတ်ကုရ်အာန်၏လူသားတို့အားချဉ်းကပ်ဒါအ်ဝဟ်ပေးသော နည်း စဉ်ဖြစ်သည်။

ဤပင်လျှင်တမန်တော်မြတ်တို့အားလုံးခံယူခဲ့ကြသည်။ဤသည်ကိုလည်း ကျမ်းတော်မြတ်ကုရ်အာန်တွင် တွေ့မြင်နိုင်သည်။

ကုလားအုတ်များသည် အဘယ်ကဲ့သို့ ဖန်ဆင်းခြင်း ခံခဲ့ကြရသည် ကိုကြင်းတို့သည် ကြည့်ရှုလေ့လာဆင်ခြင်သုံးသပ်ခြင်းမပြုကြလေသလော။ထိုနည်းတူစွာ မိုးကောင်း ကင်သည် အဘယ်ကဲ့သို့ မြင့်စွင့်စေခြင်းကို ခံခဲ့ရသည်ကိုလည်းကောင်း။ထိုအတူတောင်များသည် အဘယ်ကဲ့သို့ စိုက်ထူခြင်းကို ခံခဲ့ကြရသည်ကိုလည်းကောင်း။ထိုမှတပါး ပထဝီမြေသည် အဘယ်ကဲ့သို့ ခင်းကျင်းထားခြင်း ခံခဲ့ရသည်ကိုလည်း ကောင်း။ ကြည့်ရှုလေ့လာဆင်ခြင်သုံးသပ်ခြင်းမပြုကြလေသလော။ သို့ဖြစ်ပေရာ အသင်သည် ဆုံးမသွန်သင်ပြသပါလျက် ရှိပါလေ။ အသင်သည် ဆုံးမသွန်သင်ပြသသူတစ်ဦးမျှသာဖြစ်ပေသည်။ ( ၈၈ း၁၇-၂၁)

ဤသည် ကျမ်းတော်မြတ်ကုရ်အာန်၏ သက်သေပြချက်ဖြစ်သည်။ ဤသည်ပင်လျှင်တမန်တော်မြတ်အပေါင်းတို့က ခံယူခဲ့ကြသော နည်းလမ်းဖြစ်သည်။ ယင်းဖော်ပြချက်ကို ကျမ်းတော်မြတ်ကုရ်အာန်တစ်ခုလုံးတွင် တွေ့မြင်ရမည်ဖြစ်သည်။

သို့ရာတွင် ဟိဂျရည်ဒုတိယရာစုနှစ်တွင် အဗ်ဗာသီယာမင်းဆက်ကာလ အစ္စလာမ်ရေးရာပညာရပ်များကို ပြုစုခဲ့သောအခါ ကံအားလျော်စွာ ဟုဆိုရပါမည်။ အစ္စလာမ်၏ အီလ်မုလ်ကလာမ်ဟူသော အစ္စလာမ်တင်ပြမှု ဘာသာရပ်ကို ရှေးဟောင်းဂရိ ယုတ္တိဗေဒနှင့် ဒဿနပညာကို အခြေခံ၍ပြုစုခဲ့ရာ အီမာမ်ဂဇာလီ၏ ခေတ်ကာလတွင် ယင်းသင်ရိုးသည် အစ္စလာမ်ရေးရာပို့ချ သော ကျောင်းတော်ကြီးများအတွက် သင်ရိုးညွှန်းတမ်းဖြစ်လာခဲ့သည်။

ယင်းသည် မျိုးဆက်တစ်ခုပြီးတစ်ခု စဉ်ဆက်မပြတ် လက်ဆင့်ကမ်းခဲ့ရသည်။ ဤအီလ်မုလ်ကလာမ်ဘာသာရပ်သည် ယုတ္တိဗေဒဘာသာရပ်အဖြစ် နိုင်မာစွာရပ်တည်လာတော့သည်။သို့ရာတွင်ယင်းဘာသာရပ်သည် ကျမ်းတော်မြတ်ကုရ်အာန် ၏ တင်ပြပုံတင်ပြနည်းနှင့် လွဲချော်နေပါသည်။ ယုတ္တိဗေဒ ဘာသာရပ်သည် ကယာစ်ဟုခေါ်သည့် တင်ပြချက်ပေါ်တွင် အခြေခံသည်ဖြစ်သောကြောင့် အိစ်လာမ်၏ အီလ်မုလ်ကလာမ်သည် လည်း တင်ပြချက်များအပေါ်တွင် တည်လာခဲ့ကြခြင်းဖြစ်သည်။ သို့ရာတွင် ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြမှု အခြေခံသည် ကား သဘာဝလောကကြီး၏ ရှုမြင်နိုင်သော မယိမ်းမယိုင်နိုင်သော စနစ်ဖယားဖြစ်စဉ်အပေါ်တွင် အခြေခံတင်ပြသော နည်းသာလျှင်ဖြစ်သည်။

ဤယုတ္တိဗေဒကို အခြေခံသော အစ္စလာမ်၏ အီလ်မုကလာမ်သည် မွတ်စလင်မ်တို့အပေါ်တွင် ဩဇာကြီးမားစွာဖြင့် နှစ်ပေါင်း(၁၀၀၀)နီးပါး လွှမ်းမိုးလာခဲ့သည်။ ယနေ့ခေတ်ကာလတွင်မူ ပြင်ပဝန်ကျင်တွင် ဖြစ်ပေါ်ထွန်းလျက်ရှိနေသော အခြေအနေအရပ်ရပ်သည် ဤခေတ်ဟောင်းယုတ္တိဗေဒကို အခြေခံထားမှုကို စွန့်လွှတ်ရန် တောင်းဆိုနေပြီးဖြစ်သည်။ ထိုမှတစ်ဖန်မူလက အရှိတရားဖြစ်သော ကျမ်းတော်မြတ်ကုရ်အာန်ဖက်သို့ လှည့်ရန်ဖြစ်နေသည်။

ခေတ်သစ်သိပ္ပံ၏ ပေါ်ထွန်းလာမှုတော်လှန်ရေး မတိုင်ခင်က ဤယုတ္တိဗေဒဘာသာရပ်သည် ပညာရပ်တစ်ခုအဖြစ် တန်ဖိုးရှိခဲ့သော်လည်း ယနေ့ခေတ်ကာလတွင်မူ တန်ဖိုးမဲ့ ရသောအဖြစ်သို့ ရောက်နေသည်။ ဤဘာသာရပ်တွင် ဒါအ်ဝဟ်ဖိတ်ခေါ်မှုအတွက် မူလကတည်းက အစွမ်းသတ္တိမရှိခဲ့ပါ။ ယခုမူ သာ၍ပင်လျှင် အစွမ်းမဲ့သောအရာဖြစ်နေပါသည်။

ဆန်းသစ်သော အိလ်မုလ်ကလာမ်ဟုခေါ်သည့် ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြပုံတင်ပြနည်း အိလ်မုလ်ကလာမ် အသစ်က အဘာယ်အရာ ဖြစ်ပါသနည်း။ ဤဘာသာရပ်ကို ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြမှုကို ကျမ်းတော်မြတ်ကုရ်အာန် ၏ အဆက်အစပ်အားဖြင့် ကွင်းစပ်ရယူနိုင်ပါသည်။ ဤအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်ုပ်အနေဖြင့် ကျမ်းတော်မြတ် ကုရ်အာန်၏ တင်ပြမှု ဥပမာများကို ရှင်းပြလိုပါသည်။ ဤဖော်ပြမည့်အချက်အလက်များသည် ကျမ်းတော်မြတ်ကုရ်အာန်၏အိလ်မုလ်ကလာမ်ကို သိမြင်နိုင်စေဖို့ရန် အခြေခံဖြစ်သည်ကို သတိပြုစေလိုပါသည်။

၁။ ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြမှုနည်းစဉ်၏ စည်းမျဉ်းစည်းကမ်း ပထမအချက်ကိုသိမြင်အောင်ပြုရေးအတွက် အောက်ပါအာယတ်ကို သတိပြုစဉ်းစားလေ့လာကြည့်ပါ။

**ويسألونك عن الروح قل الروح من أمر ربي وما أوتيتم من العلم إلا قليلا**

ဝင်စစ် ကျွင်းတို့သည် အသင့်အား 'ရူဟ်' နှင့် စပ်လျဉ်း၍ မေးမြန်းကြကုန်၏။ အသင်သည် ကျွင်းတို့အား ဤသို့ပြောကြားပါလေ။ အသင်းတို့ ရူဟ်သည် ငါအားဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်၏အမိန့်တော်အတိုင်း ဖြစ်လာသည်။ ဝင်စစ်အသင်တို့သည်အနည်းငယ်မျှသောအသိပညာကိုသာ ချီးမြှင့်ပေးသနား တော်မူခြင်းခံခဲ့ကြရကုန်သတည်း။(၁၇ း၈၅)

လူတို့သည်ရူဟ်နှင့် ပတ်သက်၍ မေးမြန်းကြသောအခါ သူတို့အား ပြောပြသည်မှာ ရူဟ်ဟူသည် ဖန်ဆင်းပြုစုပျိုးထောင်သောအရှင် အလ္လာဟ်အရှင်မြတ်၏ စနစ်ဖယားအားဖြင့် ဖြစ်ပေါ်လာခြင်းဖြစ်သည်။ လူသားတို့အား အနည်းငယ်သော

ပညာဇဟုသုတပေးထားခြင်းဖြစ်သည်။ယင်းအားဖြင့်သိမြင်ရန်ခက်ခဲလှသည်။

အထက်ဖော်ပြပါ ကျမ်းတော်မြတ်ကုရ်အာန်၏ အာယတ်တော်တွင် မေးသူက မေးခွန်းတစ်ခွန်းမေးပြီး အဖြေကို စောင့်မျှော်နေသည်။ သို့ရာတွင် ယင်းမေးခွန်းကို ဖြေကြားခြင်းမရှိဘဲ မေးခွန်းကို မနှစ်မြို့သည့် အသွင်ပြသခဲ့သည်။ ဤဖော်ပြပါအချက်မှ သိရှိရသည်မှာ အချို့အချို့သော မေးခွန်းများ၏ စစ်မှန်သော အဖြေသည် လူတို့အဖို့ သိမြင်နိုင်စွမ်း၏ အခြားမဲ့၌ရှိနေကြောင်း သိရှိနိုင်သည်။ ယင်းမေးခွန်း၏ အဖြေကို မိခင်ဝမ်းတွင်းမှ မမွေးရသေးသော သားငယ်က ဝမ်းအတွင်းမှနေ၍ အပြင်ပလောကကြီးကို မသိမြင်နိုင်သကဲ့သို့ ဖြစ်နေသည်။ သို့ဖြစ်၍ မသိမမြင်နိုင်သော ဉာဏ်ရည်ကို ကျော်လွှားဖြတ်သန်းရသော မေးခွန်းကို မမေးသည်သာ အကောင်းဆုံးဖြစ်သည်။ ထိုမှတစ်ပါး ယင်းသူတို့ကို ပဟေဠိဆန်သော ဖြစ်ရပ်များနောက်သို့ မလိုက်ရန် တားမြစ်ရမည်ဖြစ်သည်။ ဤသို့မဟုတ်ပဲ ယင်းမေးခွန်းကို အဖြေပေးရန် ပြင်ဆင်သောသူသည် လမ်းကြောင်းမှန်ကို ရှာဖွေတွေ့ရှိမည်မဟုတ်ပဲ၊ လမ်းလွဲသို့ရောက်ရှိသွားမည်ဖြစ်သည်။

ကျွန်တော်နှင့် လူတစ်ဦးဆုံခဲ့ဘူးသည်။ ယင်းသူက သူသည် နှစ်အတော်ကြာကတည်းက အဖြေရှာမရသော အကြောင်းရှိနေသည်။ ယင်းအကြောင်းကို ရှင်းပြစေလိုကြောင်းဆို၏။ သူကဆိုသည်မှာလူသည် သေဆုံးချိန်မှစပြီးသူ၏ လုပ်ရပ်၏ ခံစားရမှုအကျိုးနှင့် အပြစ်ကို စတင်ကြောင်း ဟဒီးစ်ကျမ်းများအရ သိရှိရသည်။ အကယ်၍ အပြစ်ဒဏ်ကျခံရ သောသူနှင့် နှစ်ပေါင်း(၁၅၀၀)အလျင်က သေခဲ့ရသော ပြစ်ဒဏ်ကျခံရသော သူတို့သည် တစ်ဦးထက်တစ်ဦး နှစ်ပေါင်း(၁၅၀၀)မျှ ပိုမိုပြစ်ဒဏ်ကျခံစရာရှိနေပါသည်။ ဤသို့ပင် အကျိုးတရားကို ခံစားရသူတို့သည်လည်း ဤနည်းနှင်နှင် တစ်ဦးထက်တစ်ဦး ပိုနေမည်ဖြစ်သည်။ သို့ဖြစ်၍ အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့အားလုံးကို တစ်ချိန်တည်းတွင် မွေးဖွားပြီး တစ်ချိန်တည်းတွင် သေအောင်ပြုမှုသာလျှင် မျှတမည်ဖြစ်သည်ဟု ထိုသူက ဆို၏။

ဤကဲ့သို့သော မေးခွန်းမျိုးသည် ဦးနှောက်၏ ထွေရာလေးပါး စဉ်းစားခြင်းမှ ပေါက်ပွားလာသော စိတ်ကူးယဉ်အမေး ဖြစ်သည်။ ကျွန်ုပ်တို့သည်

ကန့်သတ်ထားသော ကမ္ဘာကြီး၏ စနစ်ဖယားဘောင်အတွင်း နေထိုင်ကြသည်။ ကျွန်ုပ်တို့၏ ဆင်ခြင်တတ်သော ဉာဏ်ရည်သည် ကန့်သတ်ထားသောဘောင်အတွင်းရှိနေပြီး ယင်းထက်ကျော်လွှား၍ သိမြင်နိုင်ခြင်းမရှိပါ။

ဤသို့သော် အခြေအနေတွင် ကျွန်ုပ်တို့အဖို့ရာတွင် ကန့်သတ်ခြင်းမဲ့သော ထိုကမ္ဘာ၏ အခြေအနေအရပ်ရပ်ကို သိမ်းကြုံးသိမြင်နိုင်စွမ်းရှိမည်မဟုတ်ပါ။ ယင်းကမ္ဘာကြီးနှင့် ပတ်သက်၍ ကျွန်ုပ်တို့အနေဖြင့် ဝေါဟရာပိုင်ဆိုင်ရာ အသိအမြင် ပညာလောက်သာ သိမြင်နိုင်စွမ်း ရှိနေသည်။ ကျွန်ုပ်တို့အဖို့ ဤ ဝေါဟာရပိုင်းဆိုင်ရာ သိမြင်မှု ပညာလောက် ကို ကျော်လွှား၍ စဉ်းစားကြလျှင် ဘောင်လွတ်ကာ ဉာဏ်ရည်ဆိုင်ရာအန္တရာယ်ကို ဆုံတွေ့နိုင်မည်ဖြစ်သည်။

ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြသည်မှာ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်သည် နှစ်မျိုးရှိသည်။ တစ်ခုက မိုဟ်ကမာဟ်ဟုခေါ်သည့် စဉ်းစား၍ သိမြင်လွယ်သောအာယတ်တော်၊ နောက်တစ်မျိုးက မုသရှာဗိဟာသ်ဟူသော အာယတ်တော် များ ဖြစ်ကြသည်။ မိုဟ်ကမဟ်ဟူသည် ကျွန်ုပ်တို့၏ သက်ရှိကမ္ဘာနှင့် မျက်မြင်အသိနှင့် သက်ဆိုင်သည်။ သို့ဖြစ်၍ သိမြင်ရန် လွယ်ကူလှသည်။ ဤသို့သော အခြေအနေတွင် အလ္လာဟ်အရှင်မြတ်သည် အမိန့်ပေးရာတွင် တိုက်ရိုက် အဓိပ္ပာယ်ထွက်သော စကားရပ်ကို လူတို့သိမြင်အောင် ပေးထားသည်။ ယင်း အာယတ်တော်များကို လွယ်လင့်တကူ သိရှိ နားလည် နိုင်ပေသည်။

မုသရှာဗိဟာသ်ဟူသည် လူတို့၏ မျက်ကွယ်မှ အကြောင်းအရာများကို ဖော်ပြသော အချက်ဖြစ်သည်။ ဤသို့သော ဖော်ပြချက်များတွင် အလ္လာဟ် အရှင်မြတ်သည် လူသားတို့ကို ဥပမာပေးသောစကားလက်ာSymbolic Language ဖြင့် ဖော်ပြသည်။ မိုဟ်ကမာဟ် နည်းလမ်းအားဖြင့် မြွက်ဆိုထားသော စကား၏ အတွင်း အနက်အထိ ထိုးဖောက် စဉ်းစားယူ၍ ရနိုင်သည်။ သို့ရာတွင် မုသရှာဗိဟာသ် ကို ထိုးဖောက် ဝင်ရောက်ခြင်း ပြုပါက လွဲမှားသော အဖြေကို ရနိုင်ချေရှိနေသည်။

ဤသို့ ခွဲခြားထားသော စည်းမျဉ်းစည်းကမ်းများသည် ပညာရပ်ဆိုင်ရာ၏

သဘောသဘာဝအတိုင်းဖြစ်သည်။ မျက်မှောက်ခေတ်၏ ခေတ်သစ်သိပ္ပံမှ တွေ့ရှိချက်များက လူသားတို့၏ သိမြင်နိုင်စွမ်းအခြေအနေသည် ဘောင်ခတ် ကန့်သတ်ချက်ရှိနေကြောင်းလက်ခံကြသည်။ ခေတ်သစ်ကမ္ဘာက လူသားတို့သည် ဘောင်ခတ်သတ်မှတ်ထားမှုကြောင့် မြင်တွေ့ခံစားရသော ပညာကို ရယူနိုင်သော်လည်း ယင်း၏ဖြစ်ပေါ်လာမှုရင်းမြစ် علم كلى အထိ ဝင်ရောက်နိုင်ခြင်းအထိ မစွမ်းနိုင်သဖြင့် မရှိဟု ဆိုနေသည်။ ဤခေတ်သစ်သိပ္ပံပညာ၏ ဖော်ပြချက်နှင့် ကျမ်းတော်မြတ်ကုရ်အာန်၏ စည်းမျဉ်းစည်းကမ်းများသည် တူညီနေသော ပညာပေးမှုဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်၏ စည်းမျဉ်းစည်းကမ်းကို ခေတ်သစ် လူသားတို့က စူးစမ်းကြရာမှ တွေ့မြင်ကြပြီးဖြစ်သည်။

(၂)ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြမှုနည်းစဉ်၏ ဒုတိယစည်းမျဉ်းက သဘာဝလောကကြီးကို သက်သေပြုခြင်းဖြင့် စူးစမ်းသိမြင်အောင်ပြုခြင်းပင် ဖြစ် သည်။ ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြထားသည်မှာ အောက်ပါအတိုင်း ဖြစ် သည်။

سنريهم آياتنا في الآفاق وفي أنفسهم حتى يتبين لهم أنه

မကြာမြင့်မီပင် ငါအလ္လာဟ်အရှင်မြတ်သည် အသင်တို့အား မိုးကုပ်စက်ဝိုင်း မိုးမြေစပ်ကြားသဘာဝလောကကြီးတွင်လည်းကောင်း၊ အသင်တို့၏ ခန္ဓာကိုယ်၌လည်းကောင်း၊ငါအရှင်မြတ်၏သက်သေလက္ခဏာတော် များကို ပြတော်မူမည်။ ဤသို့အားဖြင့် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည်သစ္စာတရားဖြစ်မှန်ကန် ကြောင်း မျက်ဝါးထင်ထင်ရှုမြင်ကြရမည်ဖြစ်သည်။ (၄၁ ၊ ၅၃)

ဤအချက်နှင့် စပ်လျဉ်း၍ သက်သေသာဓက အချို့ကို တင်ပြဆွေးနွေးလိုပါသည်။

(က) ကျမ်းတော်မြတ်ကုရ်အာန်၏ဒါဝသ်ဖိတ်ခေါ်မှုတွင်ဆိုထားသည်မှာ လောကကြီးတစ်ခုလုံး၏အရှင်သခင်သည် အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းကိုသာလျှင် ယုံကြည်ခြင်း ရှိရမည်။ ဤယုံကြည် မှုဆိုင်ရာနှင့်ပတ်သက်ပြီး လွန်လေပြီးသော ခေတ်ကာလက မုသလ်လိမင်န် တို့သည် သူတို့၏ အတွေးအမြင်အတိုင်းယုတ္တိဗေဒနည်းဖြင့် ရှင်းလင်းဖော်ဆောင် ခဲ့ကြသည်။ သို့ရာ

တွင် အလ္လာဟ်အရှင်မြတ်၏ သင်္ကေတလက္ခဏာအားဖြင့် ကျမ်းတော်မြတ် ကုရ်အာန်က လောကကြီးကို ရှုမြင်သုံးသပ်ဆင်ခြင်သော နည်းလမ်းကို သင်္ကေတလက္ခဏာအားဖြင့် ဖော်ပြခဲ့သည်။ ကုရ်အာန်က ဆိုသည်မှာ- ဤသဘာဝလောကကြီးသည် အသင်တို့၏ မျက်စိရှေ့မှောက်တွင် ရှိနေသည်။ ယင်းအရာများကို လူတို့အနေဖြင့် ငြင်းဆို၍မရပါ။ ဤသည်ပင်လျှင် လောကကြီးတစ်ခုလုံး၏ အရှင်သခင်သည် အလ္လာဟ် အရှင်မြတ်တစ်ပါးတည်း သာလျှင် ဖြစ်သည်ကို ကုရ်အာန်က ဆိုသည်။

أولم يرى الذين كفروا أن السماوات والأرض كانتا تقتاهما وجعلنا من الماء كل شىء حى أفلا يؤمنون

စင်စစ် မိုးကောင်းကင်များသည်လည်းကောင်း၊ ပထဝီမြေသည်လည်းကောင်း၊ စုလျက်ရှိခဲ့သည်။ ထို့နောက် ငါအရှင်မြတ်သည်ယင်းမိုးကောင်းကင်နှင့် ပထဝီမြေ နှစ်ခုစလုံးကို ဖွင့်ပေးတော်မူခဲ့သည်။ ဤသည်ကို ကာဖိရ်များ မသိမမြင်ခဲ့ကြလေ သလော။ ထို့ပြင်ငါအရှင်မြတ်သည် ရေဖြင့် သက်ရှိသတ္တဝါ ခပ်သိမ်းကို ဖန်ဆင်း တော်မူခဲ့၏။ သို့ပါလျက် ယင်းသူတို့သည်သင်ဝင်ယုံကြည်ခြင်းမရှိကြလေသလော။
(၂၁း၃၀)

ဤအာယတ်တွင် ထင်ရှားစွာဖြင့် ယနေ့ခေတ်ကာလတွင် တွေ့ရှိသိမြင် ခဲ့ရသော(Bigbang Theory)မဟာပေါက်ကွဲမှုသီဝရီကို ရည်ညွှန်းဖော်ပြ နေခြင်းဖြစ် သည်။ အနန္တစကြဝဠာစတင်ချိန်က ဖြစ်ပေါ်ခဲ့သောမဟာပေါက်ကွဲမှုကြီးကို Big Bang ဟုခေါ်သည်။ လွန်ခဲ့သော နှစ်သန်းပေါင်း(၁၅၀၀၀)ခန့်က အလွန်ပူပြင်း၍ အကန့်အသတ်မဲ့ သော သိပ်သည်းမှုဖြင့် ပေါင်းစည်းနေသည့် အလုံးအခဲကလေး သည် ကန့်သတ်မှုရှိသော အချိန်တွင် ပေါက်ကွဲခဲ့ရာမှ လက်ရှိအနန္တစကြဝဠာတွင် ပါဝင်နေသော အားလုံးသော ဒြပ်နှင့် စွမ်းအင်ကို ဖြစ်တည်ခဲ့သည်ဟု ဆိုသည်။

ဖော်ပြပါ စကြဝဠာဖြစ်တည်စဉကလေးသည် ဒြပ်နှင့် စွမ်းအင်ကို အရပ်ရှစ်မျက်နှာသို့ ဖြာ၍ထုတ်လိုက်ရာ ယင်းဒြပ်များသည် တစ်စတစ်စပြန့် ကားခဲ့သည်။ ယနေ့တိုင်လည်း ပြန့်ကားဆဲဖြစ်သည်ဆို၏။ ဖော်ပြပါ ဒြပ်နှင့်စွမ်းအင်

များဖြင့် လက်ရှိဖြစ်ပေါ်နေသော ကြယ်များ၊ ဂြိုလ်များ၊ မဟာစကြဝဠာအများသည် ဖြစ်တည်ခဲ့၏။ ပေါက်ကွဲသောပုံ၊ တစ်လုံးမှအစအနများ လွင့်စင်ထွက်ပေါ်သကဲ့သို့ မဟာပေါက်ကွဲမှုမှဒြပ်အစအနများသည်မဟာစကြဝဠာအများအဖြစ်သို့ တည်ဖြစ်ခဲ့ကြသည်။ဖော်ပြပါ မဟာပေါက်ကွဲမှုသီအိုရီကို၁၉၂၇ခုနှစ်တွင်A GGLemaitre |1894-1966|ကစတင်ဖော်ထုတ်ခဲ့သည်။ ၁၉၄၆ခုနှစ်တွင်Geroge Gamow |1904-68| ကပြုပြင်၍ ဖော်ထုတ်ခဲ့သည်။

**Big Crunch** မဟာပေါက်ကွဲမှုကြီး(Big Bang)ဖြစ်တည်စေသကဲ့သို့ ဆန့်ကျင်၍ ဖြစ်ပျက်မည့်သဘောကို(Big Crunch)ဟု ခေါ်သည်။ အနန္တစကြဝဠာတစ်ခုလုံးသည် လက်ရှိပြန့်ကားလျက်ရှိနေရာမှ အလွန့်အလွန်ပြင်း၍ အကန့်အသတ်မဲ့သော သိပ်သည်းမှု အလုံးအခဲလေးအသွင်သို့ ပြန်ရောက်ကာ အလွန်အမင်းချုံ့၍သွားမည်။ မဟာစကြဝဠာများတွင် ဒြပ်ထုအလုံအလောက်ရှိနေသဖြင့် ယင်းတို့၏ ဒြပ်ဆွဲအားများက ဖော်ပြပါ လက်ရှိပြန့်ကားနေရာမှ ပြန်လည်၍ ချုံ့သွားကာ နောက်သို့ပြန်ဆုတ်သည့် ဖြစ်စဉ်ကို ပေါ်ပေါက်စေမည်ဟုဆို၏။

**Expanding Universe**နက္ခတ္တဗေဒလေ့လာတွေ့ရှိချက်များအရ အနန္တစကြဝဠာတွင် ပါဝင်နေကြသော မဟာစကြဝဠာတို့သည် တစ်ခုထံမှ တစ်ခုနောက်သို့ ဆုတ်ခွာနေကြသည်ကို တွေ့ရသည်။ တစ်နည်းဆိုသော် အနန္တစကြဝဠာသည် ပြန့်ကားလျက်ရှိနေသည်ဟူ၏။ ၁၉၂၉ခုနှစ်တွင် အက်ဒဝင်ဟာဘယ်လ်(၁၈၈၉-၁၉၅၃)က အနန္တစကြဝဠာသည် ပြန့်ကားနေကြောင်းကို အထောက်အထားဖြင့် ထုတ်ဖော်ခဲ့၏။ အနန္တစကြဝဠာတွင် မဟာစကြဝဠာပေါင်း သန်းထောင်ပေါင်းများစွာ ရှိနေကြောင်း မဟာစကြဝဠာတွင်လည်း တစ်ခုစီတစ်ခုစီတွင် ကြယ်ပေါင်း သန်းထောင်များစွာ ပါဝင်ကြောင်း၊ ဖော်ပြပါ မဟာစကြဝဠာများသည် တစ်ခုထက်တစ်ခု ကြီးမားသောအဟုန်ဖြင့် နောက်သို့ဆုတ်ခွာနေကြကြောင်း ဤဖြစ်စဉ်ကို ဟာဘယ်လ်EdwinHubbleက ဖော်ထုတ်ခဲ့သည်။ (၁၉၆၅)ခုနှစ်ကလည်း လေ့လာတွေ့ရှိချက်တစ်ရပ်ရှိခဲ့သည်။ Big Bang မဟာပေါက်ကွဲမှု၏ ပဲ့တင်သံဟုဆိုနိုင်သည်။ အင်အားနည်း၍ ချောညက်သော နောက်ခံဖြာထွက်ရောင်ခြည်တို့သည် ကောင်းကင်

ယံတစ်ခုလုံး၏ ဘက်ပေါင်းစုံမှ ဖြာထွက်လျက်ရှိကြသည်ကိုတွေ့ခဲ့သည်။ တတိယတွေ့ရှိမှုမှာ မကြာသေးသော နှစ်များအတွင်းက မဟာစကြဝဠာများသည် ကျပန်းပြန့်ကျဲတည်ရှိနေကြသည်မဟုတ်မူဘဲ၊ အစီအစဉ်ပြုထားသော ပုံပေါင်းများအသွင်ဖြင့်တည်ရှိဖြစ်နေကြသည်ကိုတွေ့ရသည်။ ထို့ကြောင့် အနန္တ စကြဝဠာသည် ပြန့်ကားနေသည်ဟု ဆိုကြခြင်းဖြစ်သည်။

**GaLaxy** ကြယ်တာရာများ၊ ဓါတ်ငွေ့တိမ်တိုက်ကြီးများ၊ ဖုန်မှုန့် တိမ်တိုက်ကြီးများ၊ ဂြိုလ်များနှင့် အခြားသော အာကာသအရာ များပါဝင်သော မဟာစကြဝဠာကို Galaxy ဟုခေါ်သည်။ မှောင်မိုက်၍ မိုးသားကင်းစင်သော ညဥ့်တွင် ဖျော့တော့စွာ တောက်ပနေသော ကောင်းကင်ယံကို ပေါင်းခုံးသဖွယ်ဖြင့် အပြားပုံသဏ္ဍာန် ကြယ်အစုအဝေးကြီးကို မြင်နိုင်ကြသည်။ ယင်းသည် နွားနို့စီးကြောင်းနှင့် အလာသဏ္ဍာန်တူသဖြင့် နို့ရည်ဆမ်းလမ်း(သို့မဟုတ်) နဂါးငွေ့တန်း မဟာစကြဝဠာဟုခေါ် ခြင်းဖြစ်သည်။ မှန်ပြောင်းဖြင့် ကြည့်လျှင် နွားနို့စီး ကြောင်းဟူသည် မှေးမှိန်သော ထောင်ပေါင်းများစွာသော ကြယ်များဖြစ်သည်ကို တွေ့ရမည်။ ကမ္ဘာပါဝင်သော နဂါးငွေ့တန်း မဟာစကြဝဠာသည် အချင်းအားဖြင့် အလင်းနှစ်တစ်သန်းဖြစ်သည်။

အလင်းတစ်နှစ် = $5.8785 \times 10^{12}$ မိုင်

မဟာစကြဝဠာတွင် ဘဲဥပုံ သဏ္ဍာန်၊ Elliptical ခရုပတ် သဏ္ဍာန် Spiralနှာမောင်းနှစ်ခုပါသော Barredနှင့်ပုံမမှန်သောGrregular မဟာစကြဝဠာများ ရှိနေကြသည်။

အလ္လာဟ်အရှင်မြတ်၏ ရွေတော်မှောက် ကျမ်းတော်မြတ် ကုရ်အာန် တွင်ဖော်ပြချက်တွင် အစဦးမှသည် အဆုံးအထိရည်ညွှန်းချက်မှာ လူသားများသာ လျှင် ဖြစ်ကြသည်။ အလ္လာဟ်အရှင်မြတ်သည် ငြင်းပယ်သောသူတို့ကို ဆိုသည်မှာ တစ်ပါးတည်းသော ကိုးကွယ်ထိုက်သောအရှင်၏ သက်သေသာဓကသည် ဤသဘာဝလောကကြီးတွင် တည်ရှိနေသည်။ ယင်းတို့ကို လူသားတို့ အနေဖြင့် မျက်စိဖြင့် ရှုမြင်နေရသည်။ သို့ဆိုလျှင် ဘာကြောင့် ငြင်းဆိုမှုကို ပြုချင်နေပါသနည်း။

(၁၉၁၂)ခုနှစ်က အာကာသကို စူးစမ်းလေ့လာသူ အမေရိကန်နိုင်ငံသား ပညာရှင်ကြီး ဗါစ်တို မဲလဝင်န် ဆလီဖာVestoMelvinSlipher က သုတေသနပြု လေ့လာစူးစမ်းနေရာမှ ကြယ်စုများသည် အခြားဘက်သို့ လျင်မြန်စွာ ရွေ့လျား သွားနေသည်ကို တွေ့ရှိခဲ့သည်။ ယင်းနောက် အဲဒ်ဝင်ဟာဗလ်EdwinHubbleနှင့် မလ်တန်ဟူမီဆန်MiltonHumasonတို့က မောင့်ဝလ်ဆန်ရှိ အဆင့်မြင့်အဝေးကြည့် မှန်ပြောင်းမှ စူးစမ်းလေ့လာ ခဲ့ရာမှ ကြယ်စုများသည် မိမိတို့၏ အပြင်ဘက်သို့ လျင်မြန်စွာ ရွေ့လျားသွားနေကြောင်း တွေ့ရပြန်သည်။

ယင်းနောက် ဒချ်လူမျိုးနက္ခတ်ဗေဒပညာရှင်ကြီး ဝိလစ်ဒီစတာရ်Willem de Sitter က ဖော်ပြပြီးဖြစ်သော စူးစမ်းမှုကို တိုးချဲ့အသိပေးခဲ့သည်။ (၁၉၆၅)ခုနှစ်တွင် နယူကျာဆီမှ အာနိုပင်ဖယ်ArnoPenziasနှင့် ရောဘတ်ဝိလ်ဆန် Robert Wilsonတို့က အာကာသတွင် စတင်ပေါက်ကွဲခဲ့စဉ်က ထွက်ရှိလာခဲ့ကြသော ရောင်ခြည်များRadiationကို ရှာဖွေတွေ့ရှိခဲ့ကြသည်။

ဤဖော်ပြပါ စူးစမ်းလေ့လာတွေ့ရှိချက်များသည် မူလကရှိခဲ့သော မဟာပေါက်ကွဲမှု သီအိုရီ၏ မှန်ကန်မှုနှင့် ဖြစ်ပေါ်လာခဲ့မှုများကို အားဖြည့်သော တွေ့ရှိလာသော ဆန်းစစ်မှုဖြစ်ခဲ့သည်။ ဤမဟာပေါက်ကွဲမှုသီအိုရီအရ သိရှိ ရသည့်အချက်မှ ဤမဟာစကြဝဠာသည် မူလကမရှိခဲ့ ဤသည်ဖြစ်ထွန်း ပေါ်ပေါက် လာရခြင်းဖြစ်ကြောင်း သိရသည်။ ဤသည် အချိန်တစ်ခုက စတင်ခဲ့ရခြင်း ဖြစ်သည်။

၂ဤသီအိုရီက ဖော်ပြသည်မှာ ကျွန်ုပ်တို့၏ ကမ္ဘာသည်လည်း ယခုကျယ်ပြန့်လာသော စကြဝဠာလောကကြီးတွင် ပါဝင်သည်။ ကျွန်ုပ်တို့၏ ဝန်းကျင်ရှိကြယ်စု များသည် လျင်မြန်သော နှုန်းဖြင့် သွားနေရွေ့လျားနေကြသည်။ ကိန်းဂဏာန်းရှာဖွေတွေ့ရှိချက်အရဆိုရသော် ဤလျင်မြန်စွာ သွားနေသော နှုန်းသည် အတွင်းဘက်သို့ စုစည်းလာပါက နှစ်ပေါင်းသန်းပေါင်း(၂၀၀၀၀)တွင် ယင်းကြယ်နက္ခတ်တာရာများ သည် တစ်နေရာသို့ ပေါင်းစည်းလာမည်ဖြစ်သည်။ ဤသဘောတရားသည် အလ္လာဟ်အရှင်မြတ်၏ စည်းစနစ်ဇယား၏

တည်ရှိမှုအတွက် သက်သေသာကေဖြစ်နေသည်။

အကြောင်းမှ စုစည်းထားသော ဒြပ်ထုလုံးကို သတ်မှတ်ထားသော အချိန်တွင် အပြင်ဘက်သို့ စဉ်ဆက်မပြတ် ရွှေလျားနေခြင်းသည် ဩဇာသက်ရောက်မှု တစ်စုံတစ်ရာ မပါရှိပဲ မဖြစ်နိုင်ပါ။ ဤသဘော တရားဖြစ်ထွန်းမှုနှင့် ပတ်သက်၍ အမေရိကန်သိပ္ပံပညာရှင်ကြီး ရောဘတ်ဂျက်စ်ရှ Robert Jastrowက ၁၉၈၀ခုနှစ် အောက်တိုဘာလထုတ် ရီဒါဒိုင်ဂျက်စ်မဂ္ဂဇင်းတွင် ဆောင်းပါး တစ်ပုဒ်ရေးသားခဲ့ရာ ယင်းဆောင်းပါး၏ ခေါင်းစဉ်က Have Astromers Found God''နက္ခတ်ဗေဒပညာရှင်တို့က အလ္လာဟ်အရှင်မြတ်ကို တွေ့ရှိကြမည်လော''ဖြစ်သည်။

(ခ) ကျမ်းတော်မြတ်ကုရ်အာန်ကဆိုသည်မှာ ဤမျက်မှောက်ကမ္ဘာကြီးသည် နောက်ဆုံးနိဂုံးဘဝမဟုတ်ပါ။ ယင်းကမ္ဘာကြီး နောက်တွင် ကမ္ဘာကြီးတစ်ခု ရှိပါသေးသည်။ ဤဖော်ပြပါ နောက်ထပ်ကမ္ဘာကြီးကို ကျွန်ုပ်တို့မျက်မှောက်တွင် မြင်တွေ့ရမည် မဟုတ်။ သို့ရာတွင် ယင်းသည် ပြည့်စုံစွာဖြင့် တည်ရှိနေသည်။ ဤအချက်ကို ရှင်းလင်းရာတွင် ရှေးခေတ်မုသကလ္လိမင်န်တို့က ဒဿနအမြင်ဖြင့် ထင်မြင်ယူဆချက်များကို မူတည်၍ ရှင်းလင်းဖော်ပြခဲ့သည်။

သို့ရာတွင် ယင်းအချက်နှင့် ပတ်သက်၍ ကျမ်းတော်မြတ်ကုရ်အာန်၏ သက်သေသာဓက ဖော်ပြချက်ကို လူတို့အနေဖြင့် ပညာဗဟုသုတအမြင်အားဖြင့် စူးစမ်းလေ့လာ လျှင် သိမြင်နိုင်ပေသည်။ ကျမ်းတော်မြတ်ကုရ်အာန်က ဖော်ပြသည်မှာ– ومن كل شئى خلقنا زوجين لعلكم تزكرون

''အလ္လာဟ်အရှင်မြတ်သည်အရာဝတ္ထုမှန်သမျှကို စုံတွဲအားဖြင့် ဖန်တီးထားသည်။ဤသို့ပြုခြင်းမှာ အသင်တို့ စူးစမ်းလေ့လာမှုပြုရန်ဖြစ်သည်။''

(ကုရ်အာန်–၅၁း၄၉)

ဤကျမ်းတော်မြတ်ကုရ်အာန်၏ ဆိုလိုချက်သည်ကား အရာဝတ္ထုတိုင်းသည်သူ၏တွဲဖက်စုံတွဲနှင့်ပြည့်စုံခြင်းကိုဖြစ်စေသည်။သို့ဆိုရလျှင်သဘာဝလောကကြီး၏ စနစ်ဖယားအရ ဤပထဝီကမ္ဘာကြီးအတွက် စုံ တွဲတက်ရှိရပါမည်။ ဤပထဝီ

ကမ္ဘာကြီးအတွက် စုံတွဲ တွဲဘက်မှာ အာခေရသ်ပင်ဖြစ်သည်။လူနှင့်တိရစ္ဆာန်တို့တွင် စုံတွဲအဖြစ် တည်ရှိနေမှုကို လူတို့အနေဖြင့် ရှေးပဝေသဏီကတည်းက သိမြင်ခဲ့ကြပြီးဖြစ် သည်။ ယင်းနောက် ရုက္ခဗေဒနယ် ပယ်တွင် စုံတွဲအဖြစ် ရှိနေမှုကို သိခဲ့ရသည်။

(၁၉၂၈)ခုနှစ်မတိုင်ခင်အထိ ဒြပ်ထုများတွင်လည်း စုံတွဲရှိနေသည့် အသိကို လူတို့မသိမြင်ခဲ့ပါ။ယင်းနှစ်တွင်ရူပဗေဒပညာရှင်ကြီး ပေါလ်ဒီရက်Paul A.M.Diracက စတင်၍ ဒြပ်တို့တွင် ပူးတွဲလျက်ရှိနေသော အရာနှင့် ပတ်သက်၍ ထုတ်ဖော်ခဲ့သည်။ (၁၉၃၃)ခုနှစ်တွင် ကေအင်တာဆင်K.Anderson က ကောစ်မစ်ရောင်ခြည်ကို စူးစမ်းရာမှ အီလက်ထရွန်နှင့် တွဲဖက်ထားသော အရာတစ်ခုကို သူ၏ ဆန့်ကျင်ဖက် အဖြစ် တွေ့လိုက်ရသည်။ ယင်းအရာကို အင်တီအီလက်ထရွန်ဟူ၍ အမည်ပေးခဲ့ သည်။

ဤစူးစမ်းမှုသည် တိုးချဲ့ဖြစ်ထွန်းလာခဲ့ရာ သဘာဝလောကကြီးတွင် ဒြပ်မှန်သမျှ သည် ဆန့်ကျင်ဖက် ဒြပ်Pair Particlesနှင့် တွဲနေတည်ရှိကြောင်း တွေ့ခဲ့ရသည်။ ဒြပ်နှင့်တွဲ၍ အင်တီဒြပ်၊ အက်တမ်နှင့် တွဲ၍အင်တီအက်တမ်၊ မီတာအတွက် အင်တီမီတာ၊ ထို့မျှမက တစ်နည်းကမ္ဘာWorldအတွက် အင်တီကမ္ဘာAntiWorldရှိသည်ဟု (၁၉၃၃)ခုနှစ်တွင် ဒီရက်က ကြေငြာခဲ့သည်။

ယနေ့ခေတ်သစ်သိပ္ပံ၏ ပညာရှင်အများအပြားက ဆန့်ကျင်ဖက် ကမ္ဘာသည် ကျွန်ုပ်တို့ကမ္ဘာနှင့် တွဲဖက်၍ရှိနေသည်။ မျက်မှောက်ကမ္ဘာကို မီတာဖြင့် တည်ဆောက်ထားပြီး တွဲဖက်ဆန့်ကျင်ကမ္ဘာကို အင်တီမီတာဖြင့် တည်ဆောက် တည်ရှိနေသည် ဟုဆို၏။ လွန်ခဲ့သော နှစ်သန်း(၂၀၀၀၀)အလျင်ကာလက မဟာပေါက်ကွဲမှုတွင် ယင်းဖြစ်စဉ်က ရှိလာပြီး ကမ္ဘာနှင့် ဆန့်ကျင်ဖက်သည် တည်ဆောက်နေပြီဖြစ်သည်ဟုဆိုနေကြ၏။

ဤဖော်ပြပါ သဘောတရားကို ဦးစွာပထမ ဆွီဒင်နိုင်ငံသား ရူပဗေဒပညာရှင်ကြီး အောစ်ကာကလင်OskerKleinနှင့် ရူပနက္ခတ်တ္တဗေဒ ပညာရှင်ကြီး ဟိုင်နစ်အဲလ်ဖင်HannesAlfenတို့က စတင်ခဲ့ခြင်းဖြစ်သည်။

(၁၉၆၃)ခုနှစ်တွင် ယင်းသူတို့က စူးစမ်းတွေ့ရှိ လေ့လာမှုမှ တွေ့ရှိချက်ကို တင်ပြခဲ့သည်။ တစ်ဖန် ရုရှရူပဗေဒပညာရှင်ကြီး ဒေါက်တာဂေါ်စ်တော့နန်Gustav Naanက ပိုမိုကျယ်ပြန့်စွာ သုတေသနပြုလုပ်သည်။ ဒေါက်တာဂေါ်စ်တော့နန်က ဆိုသည်မှာ အင်တီဝေါလ်(ဆန့်ကျင်ဖက်ကမ္ဘာ)နှင့် ပတ်သက်၍ မျက်မှောက်ပညာရပ်နှင့် စနစ်ဇယားကို အသုံးပြု၍ ကျယ်ပြန့်စွာ ဖော်ပြနိုင်မည်မဟုတ်ဟုဆို၏။ သူက အင်တီဝေါလ်သည် တစ်ကယ်တန်းရှိသည်ကို သူယုံကြည်သည်ဟုလည်း ဆိုသည်။

သို့ရာတွင် ယင်းအင်တီဝေါလ်သည် ကျွန်ုပ်တို့ ကမ္ဘာကြီးနှင့် လွတ်လပ်စွာ အခြေခံတွင် သီးခြားစနစ်ဇယားဖြင့် တည်ရှိနေသည်။ ကျွန်ုပ်တို့၏ ကမ္ဘာတွင်ရှိသော အင်တီပါတီကယ်လ် (ဆန့်ကျင်ဖက်ဒြပ်)များသည် တည်မြဲမှုမရှိသော အခြေအနေတွင်Stable ရှိနေပြီး အင်တီဝေါလ်တွင်မူ တည်မြဲသော အခြေတွင် ရှိနေကြောင်း ဆို၏။ အကြောင်းမူ အက်တမ်အားလုံး၏ နယူးကလိယသည် (အဖိုဓါတ်ဆောင် ပရိုတွန်နှင့် အဖိုအမမဲ့ နယူထရွန်) ဓါတ်ဆောင်ပြီး အီလက်ထရွန်သည် အမဓါတ်ဆောင်နေသည်။

(ဂ) ကျမ်းတော်မြတ်ကုရ်အာန်ကို လေ့လာရာတွင်နောက်ထပ်သာဓကတစ်ခုကိုဖော်ပြလိုပါသည်။

فاليوم ننجيك ببدنك لتكون لمن خلفك اية وان كثيرا من الناس عن اياتنا لغافلون

အမှန်စင်စစ်သော်ကား အသင်သည်ယခုမနစ်မြုပ်မီအလျင်အထိမထိမဲ့မြင်ပြုခဲ့ ရုံမျှမက အသင်သည် ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သူတို့တွင်လည်း တစ်ဦးအပါအဝင် ဖြစ်ခဲ့ချေ သတည်း။

သို့ဖြစ်ပေရာ ငါအလ္လာဟ်အရှင်မြတ်သည် အသင့်အား အသင်၏ခန္ဓာကိုယ်ရုပ်ကလာပ်နှင့်တကွ အသင်သည် မိမိနောင်လာနောက်သားတို့အဖို့မှတ်သားလောက်သောအထိမ်းအမှတ်၊လက္ခဏာ၊သံဝေဂရဖွယ်တစ်ရပ် ဖြစ်အံ့သောငှာဆယ်တင်ထားတော်မူမည်။သို့ရာတွင်များစွာသောလူတို့သည် ငါအရှင်မြတ်၏သက်သေ၊လက္ခဏာတော်များကို လျစ်လျူရှု မေ့ပျောက်၍သွားသော သူများသာ ဖြစ်ကြပေသတည်း။

(ကုရ်အာန်-၁၀း ၉၂)

ယင်းအာယတ်တော်အရ အလ္လာဟ်အရှင်မြတ်သည် ဖာရိုး၏ ရုပ်ကလာပ်

ကို နောင်လာနောက်သားတို့ သံဝေဂရစေရန်အတွက် ထားရှိခဲ့ကြောင်း သိရသည်။ (၁၈၉၀)ခုနှစ်က အနောက်တိုင်းရှိ ရှေးဟောင်း သမိုင်းဆိုင်ရာ ပါရဂူတို့က ဖာရိုး၏ရုပ်ကလာပ်ကိုအီဂျစ်ပြည်ရှိရှေးဟောင်းမြို့တော်ဖြစ်သောသီဗစ် THEBESတွင် ရှေးဟောင်းပိရမစ်များ ကို တူးဖော်သုတေသနပြုရင်းက တွေ့ရှိခဲ့ သည်။ ပါရဂူတို့က ဆိုသည်မှာ မူဆာနဗီသည် သူ့ခေတ်ကာလက ဖာရိုနှစ်ဦး၏ ရင်ဆိုင်တွေ့မြင်ခဲ့ရသည်။

မူဆာနဗီသည် ရီမစ်ဒုတိယမြောက်ခေတ်ကာလတွင် မွေးဖွားခဲ့သည်။ သို့ရာတွင်ပင်လယ်တွင်မြှုပ်ခဲ့ရသည့်အဖြစ်ကသူ၏ သားဖြစ်သူမိရင်ဖာတ Meraeptah သာလျှင် ကြုံခဲ့ရသည်။ ဤသည် ခရစ်မပေါ်ခင်(၁၃၀၀)ရာစုက (ဘီစီ ၁၃၀၀)ကဖြစ်သည်။ ယင်းဖာရိုနှစ်ဦးစလုံး၏ မမ်မီရုပ်အလောင်းသည် ကိုင်ရိုမြို့ ရှိပြတိုက်ကြီးတွင် ရှိနေပါသည်။ ခေတ်သစ်သမိုင်းဆိုင်ရာ သိပ္ပံနည်းကျစူးစမ်း လေ့လာချက်အရ မူဆာနဗီခေတ်က ရင်ဆိုင်ခဲ့ရသော ဖာရိုသည် မိရင်ဖာတဖြစ် ကြောင်း ပြောရှုရနိုင်ပြီး ဖြစ်သည်။ ယင်းဖာရိုသည် မူဆာနဗီကို နောက်မှ လိုက်ရင်းက ပင်လယ်ရေတွင် နစ်မြုပ်ခဲ့ရသူဖြစ်သည်။

သမ္မာကျမ်းက ဖာရိုသည် နိုင်းလ်မြစ်တွင် နစ်မြုပ်ကြောင်းဆို၏။ သူ၏ ရုပ်အလောင်းနှင့် စပ်လျဉ်းပြီး နှုတ်ငြိမ်နေသည်။ သမိုင်းသည်လည်း ယင်းကိစ္စနှင့် ပတ်သက်၍ နှုတ်ငြိမ်နေပြန်သည်။ ကျမ်းတော်မြတ်ကုရ်အာန်ကျရောက် လာချိန်မှစ၍ နှစ်ပေါင်း(၁၀၀၀)ကျော်ကာလအထိ လူသားတို့ကို ဖာရို၏ ရုပ်ကလာပ်နှင့် စပ်လျဉ်းပြီး ဘာမျှမသိကြပေ။ ကျမ်းတော်မြတ်ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက်စကားရပ်ဖြစ်၍ ယင်း၏သက်သေသာဓက အဖြစ် အံ့သြဖွယ်ရာလက္ခဏာအဖြစ် ဖာရို၏ ရုပ်ကလာပ်သည် ထင်ရှားစွာ စောင့်ရှောက်ခံနေရခြင်းဖြင့် တည်ရှိနေသည်။

ဤဖာရို၏ ရုပ်ကလပ်အကြောင်းနှင့် ပတ်သက်ပြီး စူးစမ်းလေ့လာရေး သားခဲ့သူ ဒေါက်တာမော်ရစ်ဘူကေက သူ၏ The Bible, The Quran and Scienceကျမ်းတွင် (၁၀)မျက်နှာခန့် အကျယ်တဝင့်ရေးသားပြီး နောက်အဆုံး

စာမျက်နှာ(၂၄၁)တွင် အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရသည်။ ``အချို့သော သူတို့သည် ကောင်းကင်ကျမ်းများနှင့် ပတ်သက်ပြီး မှန်ကန်ကြောင်းကို ခေတ်မီသော နည်းလမ်းများကို သက်သေအဖြစ် တောင်းခံနေကြသည်။ ယင်းသူတို့သည် ကျမ်းတော်မြတ်ကုရ်အာန်ကို ဖတ်ရှုလေ့လာစေလိုပါသည်။ ထို့နောက် ကိုင်ရိုမြို့ရှိ ရှိုင်ရယ်ပြတိုက်ရှိ မာမိတို့ကို ထားရှိရာအခန်းသို့ သွားရောက်ရှုစားကြည့်လျှင် ကောင်းမြတ်မှန်ကန်သော သက်သေသာဓကကို တွေ့မြင်ရမည်ဖြစ်သည်။``

ဤဖော်ပြပါ အချက်အလက်များနှင့် စပ်လျဉ်းပြီး အသေးစိပ်လေ့လာလိုသူများသည် Dr. Maurics Bucaille ၏ The Bible, the Quran and Science ကို လေ့လာစေလိုပါသည်။ ဤကျမ်းသည် လေ့လာထိုက်သော ကျမ်းဖြစ် ပါသည်။ ကျမ်းပြုဆရာကြီးသည် ကျမ်းတော်မြတ်ကုရ်အာန်၏ သိပ္ပံနှင့် ဆက်နွယ်သောအကြောင်းအရာများကို ခေတ်သိပ္ပံနှင့် ယှဉ်တွဲဖော်ပြလေ့လာလိုသည်။ ဤဘာသာရပ်ကိုပြုစုနိုင်ရန် အရဗီစာပေကို ကိုယ်တိုင်ကိုယ်ကျ လေ့လာပြီး ကျမ်းတော်မြတ် ကုရ်အာန်၏ ဆိုလိုရင်းအချက်များကို ကိုယ်တိုင်ကိုယ်ကျ ဖွင့်ဆိုသိနားလည်နိုင်စေရန် နှစ်အတော်ကြာသည်အထိ သုတေသန ပြုခဲ့သည်။ အလ္လာဟ်အရှင်မြတ်၏ ဖွင့်ဟဆိုချက်များကို နားလည်နိုင်စေဖို့ရန် အရဗီစာပေတတ်မှုဖြစ်မည်ကို သူခံယူထားသည်။ ယင်းနောက်ယင်းကျမ်းကြီးကို ပြုစုခဲ့ခြင်းဖြစ်သည်။

ဒေါက်တာမော်ရစ်ဘူကေသည် သူ၏ကျမ်းတွင် များမြောင်လှစွာသော သိပ္ပံဘာသာရပ်ဆိုင်ရာ တွေ့ရှိချက်များကို ကျမ်းတော်မြတ်ကုရ်အာန်နှင့် ယှဉ်တွဲလေ့လာခဲ့သည်။ ဒေါက်တာမော်ရစ်ဘူကေကဆိုသည်မှာ ရှေးဟောင်းစာပေကျမ်းဂန် တစ်အုပ်ကို ခေတ်သစ်သိပ္ပံနှင့် ယှဉ်တွဲ၍ ဖော်ပြနိုင်ခြင်းသည် ဤကျမ်းဂန်သည် လူသားတို့၏ ဖွင့်ဆိုသော စကားရပ်မဟုတ်ပဲ အရာဟူဟူသမျှကို ဖန်ဆင်းပြုစုပျိုးထောင်သောအရှင်၏စကားရပ်အဖြစ် ပေါ်ထွန်းလာခြင်းဖြစ်သည်။ သူ၏ ကျမ်း၏နောက်ဆုံးစာပိုဒ်ကို ဤစကားရပ်များဖြင့်

အဆုံးသတ်ခဲ့ကြောင်းတွေ့ရသည်။

"မုဟမ္မဒ် ﷺ ၏ ခေတ်ကာလတွင် ဖြစ်ထွန်းနေသော ပညာရေးအဆင့် ရှုဒေါင့်အားဖြင့် ကျမ်းတော်မြတ်ကုရ်အာန်၏ များမြောင်လှစွာသော သိပ္ပံဆိုင်ရာ ဖော်ပြချက်များသည် လူသားတစ်ဦး၏ ရေးသားပြုစုထားသော ကျမ်းမဖြစ်နိုင်ပါ။ ကျမ်းတော်မြတ်ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက်တရား အားဖြင့် အဆင့်မြင့်မားလှသောစကားရပ်ဖြစ်သည်။ကျမ်းတော်မြတ်ကုရ်အာန်သည် သူ၏ မှန်ကန်မှုအတွက် အာမခံခြင်းပြု၏။ ကျမ်းတော်မြတ်ကုရ်အာန်က သက်သေ ထူသော သိပ္ပံဆိုင်ရာ သက်သေသာဓကတို့သည် ယနေ့ခေတ်ကာလတွင် လေ့လာကြည့်သောအခါ ယင်းကျမ်းဂန်တော်သည် လူသားတို့ကို ဖိတ်ခေါ်ကာ အားပြိုင်မှုပြုသော စိမ်ခေါ်မှုတစ်ရပ်ဖြစ်ကြောင်း တွေ့ရသည်။"

(၃) ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြမှုနည်းစဉ်၏ အခြေခံတစ်ခုက သဘာဝလောကကြီး၏ တည်ရှိမှုသည် တိကျသော ဟန်ချက်ညီညီ တည်ဆောက် နေမှုနှင့်တည်ရှိမှုရှိသည်အချက်ကိုဖော်ပြခြင်းဖြစ်သည်။ ယင်းကိုမီဇာန်ဟု သတ်မှတ်ခေါ်ဝေါ်သည်။ ကျမ်းတော်မြတ် ကုရ်အာန်က လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ နည်းပေးလမ်းညွှန်ချက်အားဖြင့်သာလျှင် ဘဝ တည်ဆောက်လျက်၊ မိမိတို့၏ ရပ်တည်ရှိနေမှုကို အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် နာခံတော်အဖြစ် ဝပ်တွားခြင်းပင်ဖြစ်သည်။ ဤပုံဖော်လုပ် ဆောင်မှုအတွက် ကျမ်းတော်မြတ်ကုရ်အာန်သည် ဒဿနဆန်သော တင်ပြမှုကို မပြုပေ။ ကုရ်အာန်က ပုံဖော်ထားပုံက သဘာဝလောကကြီး၏ လှည့်ပတ်တည် ရှိမှုဖြင့်သက်သေထူခြင်းဖြစ်သည်။ဤအကြောင်းကို သိမြင်လိုပါလျှင် ကျမ်းတော်မြတ် ၏ ဤအာယတ်တော်(ကုရ်အာန်-၅၇း၂၅) တစ်ခုကိုသာ လေ့လာကြည့်ပါ။

لقد أرسلنا رسلنا بالبينات وأنزلنا معهم الكتاب والميزان
ليقوم الناس بالقسط وأنزلنا الحديد فيه بأس شديد
ومنافع للناس وليعلم الله من ينصره ورسله بالغيب
إن الله قوي عزيز

ဧကန်မလွဲငါအရှင်မြတ်သည် မိမိ ရစူလ် တမန်တော်များအား ထင်ရှားစွာသော သက်သေ လက္ခဏာများနှင့်တကွ စေလွှတ်တော်မူခဲ့၏။ထိုမှ တစ်ပါး ငါအရှင်မြတ်သည် ထိုရစူလ်တမန်တော်များနှင့်အတူလူတို့သည်တရားမျှတမှုပေါ်၌ရပ်တည်ကြအံ့ သောငှာ ကျမ်းဂန်ကိုလည်းကောင်း၊တရားမျှတမှုကိုလည်းကောင်းချပေးသနား တော်မူခဲ့၏။ထို့မှတစ်ပါးငါအရှင်မြတ်သည် သံသတ္တုကို ချပေးတော်မူခဲ့၏။ယင်းသံသတ္တု၌ ကြီးကျယ် ပြင်း ထန်လှသော စွမ်းအင်ရှိပေသည်။လူသားတို့အဖို့ အကျိုးကျေးဇူး များလည်း ရှိသည်။ ထို့မှတစ်ပါး မည်သူသည် မမြင်ဘဲလျက် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များအားလည်းကောင်း၊ ကူညီ သည်ကို အလ္လာဟ်အရှင်မြတ်သည် သိတော်မူအံ့သောငှာချပေးတော်မူခြင်းလည်းဖြစ်၏။ မလွဲဧကန်အလ္လာဟ်အရှင်မြတ်မှာမူကား အလွန်တရာ အားအင် ပြည့်စုံသောအရှင်၊ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော် မူသောအရှင်မြတ်ဖြစ်တော်မူပေသတည်း။

(ကုရ်အာန်–၅၇း ၂၅)

မီဇာန်၏ အဓိပ္ပာယ်မှာ ချိန်ခွင်ကို ခေါ်သည်။ ချိန်ခွင်သည် အရာတစ်ခု နှင့်တစ်ခုကို ညီမျှအောင် တိုင်းထားသော ကိရိယာဖြစ်သည်။ စကြဝဠာတစ်ခုလုံး သည် အလ္လာဟ်အရှင်မြတ်၏ မီဇာန်ဖြစ်သည်ကို ဖော်ပြပါ အာယတ်တော်အရ သိရသည်။ သဘာဝလောကကြီးရှိ အရာအားလုံးကို အလ္လာဟ်အရှင်မြတ်က တိကျ သော မှန်ကန်သောယက်နှင့် တိကျမှုစနစ် ဖယားဖြင့် တည်ဆောက်ထားခြင်းဖြစ် သည်။ ဤအဒလ်တိကျမျှတမှုနှင့် ဟက်မှန်ကန်မှုပေါ်တွင် ဘဝတည်ဆောက် ရပ်တည်ရပ် လူသားတို့ကို အလ္လာဟ်အရှင်မြတ်က တောင်းဆိုနေခြင်းဖြစ်သည်။

ဤတောင်းဆိုချက်ကို ပြုမူဆောင်ရွက်ရန် လူတို့တွင် ကိုယ်တိုင် ဆုံးဖြတ်ပိုင်ခွင့်ရှိနေသည်။ အထက်ပါ ကျမ်းတော်မြတ်ကုရ်အာန်၏အာယတ်တွင် အရှင်၏ ကြိုက်နှစ်သက်သော အရာများကို မျှတစွာဖော်ပြပြီးဖြစ်သည်။ တစ်ဖက်တွင် သဘာဝလောကကြီးတစ်ခုလုံးကို အလ္လာဟ်အရှင်မြတ်၏ အခွင့် အာဏာဖြင့် ယင်းတာဝန်ကို ထမ်းဆောင်ဖို့ရန် တာဝန်ပေးအပ် ထားပြီးဖြစ်သည်။

ယင်းဖော်ပြပါ သဘာဝ၏ ရပ်တည်မှုစနစ်ဖယားအကြောင်းကို ကျမ်းတော်မြတ် ကုရ်အာန် တွင် လေ့လာမှု စူးစမ်းမှု ဆင်ခြင်မှုများကို ပြုလုပ်ပြီး ဤကျမ်းတော်မြတ် လာ လမ်းညွှန်ချက်အတိုင်း ဘဝတည်ဆောက်ရန် ဖိတ်ခေါ်ခြင်း

ပင် ဖြစ်သည်။ မိမိတို့၏ ဘဝတည်ဆောက်မှုနည်းစဉ်ကို အလ္လာဟ်အရှင်မြတ်က ပြဋ္ဌာန်းထားသော ရဗ္ဗာနီစည်းစနစ်အားဖြင့် လည်ပတ်နေသော သဘာဝလောကကြီးနှင့် ချင့်ချိန်ဆန်းစစ်စေလိုသည့်သဘောရှိသည်။ ယင်းစည်းစနစ်အားဖြင့် အလ္လာဟ် အရှင်မြတ်၏ သဘောတူညီမှုရှိမရှိကို သိမြင်သုံးသပ်နိုင်ပေသည်။

ဤဖော်ပြပြီးဖြစ်သော အာယတ်တော်တွင် သံကို မိဇာန်၏ ဥပမာအဖြစ် ဖော်ပြထားသည်။ သံမဏိအားဖြင့် အလ္လာဟ်အရှင်မြတ်က မိုအ်မင်နစ်စစ်မှန်သော ယုံကြည်သူတို့ကို ပုံဖော်ပြသထားသည်။ မျက်မှောက်ကမ္ဘာတွင် အမျိုးမျိုးသော အကျိုးပေါ်ထွန်း ဖြစ်ပေါ်စေမှုသည် ယုံကြည်စိတ်ချရမှုနှင့် ဆက်နွယ်နေသည်။ ဤအကျိုးဖြစ်ထွန်းစေမှု၏ စိတ်ချမှုအဖြစ် ဒြပ်လောကတွင် သံမဏိ၏ ဝန်ဆောင်မှုက ပြရုပ်ဖြစ်နေသည်။ ဤလောကကြီးတွင် အလ္လာဟ်အရှင်မြတ်က စစ်မှန်သော အီမာန်ယုံကြည်သူ တို့ကို သံမဏိစိတ်ဓါတ်ဖြင့် ဝန်ဆောင်မှုကို ဖြစ်စေလိုသည်။ ဤနေရာတွင် နောက်ထပ်ဥပမာတစ်ခုအနေဖြင့် ကျမ်းတော်မြတ် ကုရ်အာန်က ''ပျား''ကို ပြသသည်။ ကျမ်းတော် မြတ်ကုရ်အာန်က ဆိုသည်မှာ–

ဧင်းပြင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ပျားကောင်၏ထံသို့ဤသို့ အမိန့်တော်ပေးတော်မူလေသည်။အသင်သည် တောင်များ၌လည်းကောင်း၊ သစ်ပင်များ၌လည်း ကောင်း၊ လူတို့တည်ဆောက်ကြကုန်သော အဆောက် အအုံများ၌လည်းကောင်း၊မိမိတို့ နေအိမ်များ ပြုလုပ် လေကုန်။

ထို့နောက် အသင်တို့သည် အသီးအနှံအသီးသီး အသကအသကတို့မှ အရည်များကို စုတ်ယူ စားသုံးလေလော့။ တဖန်အသင်တို့သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏လွယ်ကူလျက်ရှိသောလမ်းများကိုလျှောက်လေလော့။ ယင်းပျားကောင်၏ဝမ်းဗိုက်များမှအရောင်မျိုးစုံရှိသောသောက်သုံးဖွယ်ရာပျားရည်သည်ထွက်လေသည်။ယင်းသောက်သုံးဖွယ်ရာ၌လူတို့အဖို့ အနာရောဂါပျောက်ကင်းခြင်းသည်ရှိပေသည်။ ဧကန်မလွဲ ဤသည်၌ စဉ်းစားဆင်ခြင်တတ်သောသူတို့ အဖို့ အမှန်ပင် သက်သေသာ ကသည် ရှိပေသတည်း။(ကုရ်အာန်၁၆း၆၈–၆၉ )

ပျားတို့၏ အဖွဲ့အစည်းတည်ဆောက်ထားမှုမှာ အလွန်မှပင် သေဝပ်စည်းစနစ်ကျသော တည်ဆောက်ထားမှုဖြစ် သည်။ သူတို့စနစ်သည် လူတို့၏ လူမှုဘဝတည်ဆောက်မှုဆိုင်ရာ၏ ဝိသေသနလက္ခဏာနှင့်တူညီသယောင်ရှိနေသည်။

သို့ရာတွင် ပျားတို့၏ စည်းစနစ်တည်ဆောက်ထားမှုသည် လူတို့၏အား နည်းဆုတ်ယုတ်သောနည်းစဉ်များနှင့် အဆင့်မြင့်မား လွန်းလှသည်။ ပျားတို့သည် သူတို့၏ အိမ်ခြေတည်ဆောက်ရန် နေရာကောင်းကို ရွေးချယ်သည်။ သူတို့၏ တည်ဆောက်မှုသည် လူတို့၏ မြို့ပြတည်ဆောက်မှုနှင့်တူသည်။ သူတို့သည် စက်ရုံတစ်ခုကိုလည်း တည်ဆောက်သည်။ ယင်းစက်ရုံအတွက် မိုင်ပေါင်းများစွာ အကွာအဝေးသို့ သွားရောက်ကာ ကုန်ကြမ်းများကို ရှာဖွေကြသည်။ ရာပေါင်းများစွာသော ပျားများသည် သူတို့၏ လုပ်ငန်းဆောင်တာကို အတိအကျ လုပ်ဆောင်ကြသည်။ သူတို့၏ စည်းစနစ်ကျနစွာ ပံ့ဖော်လုပ်ဆောင်ပေးမှုကြောင့် ပျားရည်တည်းဟူသော ကုန်ချောထုတ်ကုန်သည် ထွက်ပေါ်လာတော့သည်။

ယင်းပျားရည်သည် အဆင့်မြင့်မားသော အစာအဟာရဖြစ် ပြီး လူတို့၏ များပြောင်လှစွာ သော ရောဂါတို့အတွက် ဆေးဝါးအဖြစ် အသုံးပြုကြသည်။ပျားတို့သည် ဤ၍ဤမျှကြီးမားကျယ်ပြန့်သော လုပ်ငန်းဆောင်တာကို ဆောင်ရွက်ကြသော်လည်း သူတို့၏ရပ်တည်ရှိမှုအတွက် အခြားသူတို့၏ အိမ်ယာများကို ဖျက်စီးခြင်း မရှိပါ။ သူတို့သည် ပန်းဝတ်ရည်ကို စုပ်ယူကြသော်လည်း ပန်း၏ အနေအထားကို ပျက်စီးဆုံးရှုံးအောင်မပြုလုပ်ကြပေ။

သူတို့၏ အဖွဲ့အစည်းအတွင်း တစ်သွေးတစ်သားတည်းရှိပြီး အချင်းချင်း နိုက်ရန် ပဋိပက္ခကိုမပြုလုပ်ကြပေ။ သူတို့သည် အခက်အခဲများစွာဖြင့် အရင်းခံထုတ်လုပ်သော ထုတ်လုပ်သော ထုတ်လုပ်ကုန်များကို အလဟဿ ဆုံးရှုံးအောင် မပြုလုပ်ကြပေ။ထိုမျှမကတစ်ကိုယ်ကောင်းစိတ်ဖြင့် တစ်ဦးတည်းဖြုန်းတီး ခြင်းလည်း မရှိပေ။ သူတို့သည် အခြားသူတို့ အသုံးချ အသုံးပြုနိုင်ရေးအတွက် မိမိ၏ဘဝကို အသုံးခံကြခြင်းဖြစ်သည်။

ပျားတို့၏ ကမ္ဘာသည် စည်းကမ်းသေဝပ်မှုကို အခြေခံထားပြီး စည်းစနစ်ဖယားအားဖြင့် ဆောင်ရွက်သော အဖွဲ့အစည်းဖြစ်ပါ သည်။ ဤပျားတို့အကြောင်း ပျားတို့၏ ဘဝသည် အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက်တရားကို တသဝေမတိမ်း ဆောင်ရွက်မှုဖြင့် လူ့အဖွဲ့အစည်းတည်ဆောက်ရေးအတွက် လူတို့

ကို အတုယူစေရန် အလ္လာဟ်အရှင်မြတ်၏ ပြသသော သက်သေလက္ခဏာတော် တစ်ခုဖြစ်ပေသည်။

ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် သဘာဝလောကကြီးရှိအရာ အားလုံးကို အလ္လာဟ်အရှင်မြတ်၏ အမိန့်နှင့် လမ်းညွှန်ချက်ကိုတသဝေမတိမ်း ဆောင်ရွက်ခြင်းဖြင့် အကျိုးပြုမှု ဥပမာကို ဖော်ဆောင်နေကြသည်။ သစ်ပင်၏ အရိပ်သည် စဂ်ဒါကို ပုံဖော်နေသည်။ သံသည် ယုံကြည်စိတ်ချမှုကို ဖော်ဆောင် သည်။ ကြယ်နက္ခတ္တာရာများ၏ လှည့်ပတ်နေမှုသည် ငြိမ်ချမ်းစွာ ခရီးသွားလာမှုကို ပုံဖော်နေသည်။ ညီညွတ်သွေးစည်းမှုကို ကြည့်မြင်လိုလျှင် ပျားအုံကို ရှုစားကြည့်ပါ။ အားလုံးကို ညီတူညီမျှသော အကျိုးသက်ရောက်မှုကို ရှုမြင်လိုလျှင် နေမင်းကြီးကို တစ်ချက်လောက်ကြည့်လှည့်ပါ။ ဤသို့အားဖြင့် သဘာဝလောကကြီးရှိ အရာအားလုံးသည် တစ်နည်းနည်းအားဖြင့် သောင်ဟိဒ်နှင့် လိုက်နာကျင့်သုံးမှုကို ပုံဖော်နေသည်ကို တွေ့ရပေမည်။

ဤသည် ကျမ်းတော်မြတ်ကုရ်အာန်၏ သဘာဝလောကကြီးကို သက်သေသာဓကအဖြစ် ထားရှိကာ ဖိတ်ခေါ်မှုပင် ဖြစ်တော့သည်။ ကုရ်အာန်က ဖော်ညွှန်းသောအရာများသည် လူသားတို့အနေဖြင့် ပညာနှင့် လက်တွေ့ကျသော ပုံဖော်မှု၏ အခြေခံဖြစ်နေသည်။ဤကျမ်းတော်မြတ်၏ ဖိတ်ခေါ်ပြသချက်များ ကို ကျွန်ုပ်တို့အနေဖြင့် လူသားတို့ရှေ့မှောက်တွင် ချပြနိုင်ပါလျှင် လူများစုသည် အစ္စလာမ်ကို သူတို့၏ နှလုံးသားမှ ပေါ်ထွန်းလာသော ပွဲတင်သံဟုဆိုကြလိမ့်မည်။

လူသားသည် လ၏အထွက်နှင့် အဝင်ကို မှတည်၍ နေ့ရက်များ လများနှစ်များကို သတ်မှတ်ကြသည်။ နေနှင့် ကမ္ဘာ၏ ဆက်သွယ်လှုပ်ရှားမှုကို အကြောင်းပြု၍ အချိန်သတ်မှတ်ကြသည်။ လူသားတို့သည် စက်ယန္တယားများ အသုံးအဆောင်ပစ္စည်းများကို သဘာဝတွင် ဖြစ်ပျက်ပေါ်ထွန်း နေသောအရာများ သတ္တဝါများကို လေ့လာသုံးသပ်စူးစမ်းကြပြီးမှ ပြုလုပ်ဆောင်ရွက် အောင်မြင်ခဲ့ရ သည်။ သင်္ဘောများကို ငါးတို့၏ ရေထဲတွင်လှုပ်ရှားနိုင်မှုကို မှတည်၍ တည်ဆောက် ခဲ့ကြသည်။ လေယာဉ်ပျံများကို ငှက်တို့၏ ပျံသန်းမှုကို မှတည်၍လည်းကောင်း၊

ခါတ်ပုံရိုက်ကင်မရာကို လူတို့၏ မျက်စိကို လေ့လာပြီးမှလည်းကောင်း ပြုလုပ်နိုင်ခဲ့ကြသည်။ ဤကဲ့သို့ပင် လူတို့ သေချာစွာ လေ့လာပါက သဘာဝလောကကြီး၏ ကျင့်ဝတ်သိက္ခာများကိုလည်း အတုယူနိုင်ပါမည်။

ဤသို့ပြုနိုင်အောင် ကျွန်ုပ်တို့အနေဖြင့် လူသားတို့ရှေ့မှောက်တွင် စည်းစနစ်မှန်ကန်သော တင်ပြနိုင်ဖို့အရေးကြီးလှသည်။ လူတို့သည် သဘာဝလောကကြီးထဲမှ ရုပ်ဝတ္ထုဆိုင်ရာများကို အတုယူနိုင်ပါလျှင် ကိုယ်ကျင့်တရားပိုင်းဆိုင်ရာ ကျင့်ဝတ် စိတ်ပိုင်းဆိုင်ရာဖွံ့ဖြိုးတင်မှုများကို အဘယ်ကြောင့် မပြုပဲနေနိုင်ပါမည်နည်း။

(၄) ကျမ်းတော်မြတ်ကုရ်အာန်၏ စတုတ္ထတင်ပြမှုဆိုင်ရာ အခြေခံတစ်ခုက တင်ပြပုံတင်ပြနည်းများသည် ရိုးသား ရှင်းလင်းသောပုံစံဖြင့် ချဉ်းကပ်မှုဖြစ်ရပါမည်။ ယင်းဆိုလိုချက်၏ အဓိကအချက်သည်ကား အမှန်တရားပေါ်တွင် တည်ဆောက်ထားသောယုတ္တိရှိသည့် စကားဖြစ်ဖို့ အရေးကြီးသည်၊ ဤသို့မဟုတ်ပဲ တင်ပြမှုသည် စိတ်ကူးယဉ်နှင့်အတုအယောင်၊ မဖြစ်နိုင်သော မရှိသောအရာများကို နိုင်းနှိုင်း ဖော်ပြချက်မဖြစ်ဖို့ အရေးကြီးသည်။ ဤသို့ရှင်းလင်းတင်ပြရာတွင် တင်ပြသူနှင့် တင်ပြမှုစပ်ကြားတွင် တတိယအတားအဆီးဖြစ်စေသော အရာမရှိအောင် သတိပြုရပါမည်။ အများအားဖြင့် ဖြစ်လေ့ဖြစ်ထရှိ နေသောအချက်သည်ကား မလိုလားအပ်သော စကားရပ်များသည် ပါဝင်လာတတ်သည်ကို သတိပြုစေလိုသည်။

အလ္လာဟ်အရှင်မြတ်သည် လူသားကို ရိုးရိုးရှင်းလင်းလှသောဖြစ်စဉ်မှ မွေးဖွားပေးခဲ့သည်၊ သို့ဖြစ်၍စကားကို မြွက်ဆိုတင်ပြရာတွင် လုံးဝိုင်းသောနေရာတွင် ထုထည်ချင်းညီမျှသော အနေအထားရှိသော အရာကိုသာလျှင် ထည့်မှ သင့်လျော်မည်။ ဤသို့မဟုတ်ဘဲ လုံဝိုင်းသော ခွက်တွင် ပုံမမှန်သော အနေအထားရှိသော အရာထည့်လိုက်လျှင် ယင်းသည် ပြည့်ဝသော အနေအထားရှိလာစေမည်မဟုတ်ပါ။ သို့ဖြစ်၍ လူတို့အနေဖြင့် ရိုးရိုးရှင်းရှင်းပြောသောစကားကို ကြိုက်နှစ်သက်ကြခြင်းဖြစ်သည်၊ ဤရိုးရှင်းသောစကားသည် လူတို့၏ စိတ်နှလုံးတွင် စွဲမက်စေသည်။ အတုအယောင်စကားနှင့် ဖြီးလုံးများသည် လူတို့၏ စိတ်နှလုံးကို စိမ့်ဝင်နိုင်စွမ်းမရှိပဲ ကွယ်ပျောက်ရစမြဲဖြစ်သည်။

ရှေးသရောအခါက တင်ပြပုံတင်ပြနည်းကား စာပေအနုပညာဆန်လှသော နည်းစဉ်ရှိခဲ့သည်။ အချို့စကားကို ကဗျာလင်္ကာများ အချို့ကို သံပေါက်များဖြင့် တင်ပြသည်။အချို့ဆိုလျှင် စကားအရာတွင် အလင်္ကာမျိုးစုံသုံးစွဲခဲ့ကြသည်။ အချို့ ဆိုပြန် လျှင်လည်း ဒဏ္ဍာရီပုံပြင်များဖြင့် တင်ပြလေ့ရှိခဲ့ကြသည်။ ယနေ့မျက်မှောက် ခေတ် ကာလတွင် ဖော်ပြပါ တင်ပြပုံ တင်ပြနည်းများသည် အလွန်လျော့နည်း သွားပြီးဖြစ်သည်။ ယနေ့ခေတ်ကာလတွင် တင်ပြသော ပုံစံက ယထာဘူတ နည်း ကျပြီး အကြောင်းအရာ၏ ခိုင်လုံမှုအပေါ်တွင် မြွက်ဆိုသောစကားရပ်ဖြစ်သည်၊

အများက ယင်းနည်းလမ်းအားဖြင့်တင်ပြသော စကားကို သိပ္ပံနည်းကျ သော တင်ပြမှု ဟု ဆိုကြသည်။ စင်စစ်အားဖြင့် မှန်ကန်သော သုံးသပ်မှုကို အခြေခံရလျှင် ဤသိပ္ပံနည်းကျတင်ပြမှုကို ကျမ်းတော်မြတ်ကုရ်အာန်က ပထမဦးဆုံး လူသားတို့ကို တင်ပြခြင်းဖြစ်သည်ကို တွေ့မြင်ရမည်။

ကျမ်းတော်မြတ်ကုရ်အာန်သည် လူ့သမိုင်းတွင် ပထမဦးဆုံးကျမ်းမြတ် အဖြစ်နှင့် ခိုင်လုံမှုမဲ့သော အတုအယောင် စကားကို ပယ်ဖြတ်ကာ သဘာဝဖြစ်စဉ် ကိုမှတည်၍ ရေးသားဖော်ပြသောကျမ်း၏ အခြေခံဖြစ်ပေသည်။ ယနေ့ ပြောဆိုနေကြ သော သိပ္ပံနည်းကျတင်ပြမှုသည် ကျမ်းတော်မြတ်ကုရ်အာန်၏ တင်ပြမှုကို တင်ပြသေ ခေတ်မှီနည်းစနစ်ဖြစ်သည်။

ကျမ်းတော်မြတ်ကုရ်အာန်ကျရောက်လာပြီးနောက် နှစ်ပေါင်း (၁၀၀)ကျော်ကာလမှစ၍ မွတ်စလင်မ်တို့သည် အတိတ်ကာလက သုံးစွဲခဲ့ကြသော ရှေးဟောင်းယုတ္တိဗေဒနှင့် ဒဿနိကဗေဒများကို သုံးစွဲခြင်းကိုစခဲ့ခြင်းဖြစ်သည်။ ဤသို့အားဖြင့် အစ္စလာမ်၏ ပို့ချမှု ဘာသာရပ်များသည် ပြန်လည်၍ အစ္စလာမ် မတိုင်ခင်က ရှိခဲ့သော ရှေးဟောင်းနည်းလမ်းများကို စိမ့်ဝင်လာစေခဲ့သည်။ အစ္စလာမ်စာပေများသည် ယင်းရှေးဟောင်းအမြင်၏ အရောင်ဆိုးခြင်းကို ခံရ တော့သည်။ အစ္စလာမ်၏ ဒဿနအမြင်ကို ရှေးဟောင်းနည်းစနစ်ဖြင့် ဖွဲ့ဆိုထား သော ကဗျာလင်္ကာများဖြင့် တင်ပြခဲ့ကြသည်။

ယနေ့ခေတ်ကာလသည် တမန်တော်မြတ်နှင့် ခုလ်ဖာအေ့ရာရှိဒင်န်၏။

ခေတ်ကာလ၏ စစ်မှန်သော တင်ပြသည့်နည်းစဉ်ကို တောင်းဆိုနေကြပြီးဖြစ်သည်။ ယနေ့ခေတ်ကာလ လူတို့ထံတွင် အစ္စလာမ်ကို တင်ပြရာတွင် သိပ္ပံနည်းကျသော နည်းစဉ်ဖြင့် ဒါအ်ဝဟ်ဖိတ်ခေါ်မှုကို ပြုရပေမည်။ ဤသို့ပြုလုပ်နိုင်ရန် သိပ္ပံနည်းကျသော နည်းစဉ်ကို သိမြင်အောင် ပြုရပါမည်။ ကျမ်းတော်မြတ် ကုရ်အာန်၏ အမည်တစ်ခုမှာ သိပ္ပံနည်းကျတင်ပြမှုပင်ဖြစ်သည်။ ကျွန်ုပ်တို့အနေဖြင့် ကုရ်အာန်၏ ဖိတ်ခေါ်မှုဘက်သို့ ဦးလှည့်ရန် အချိန်ကျရောက်ပြီးဖြစ်ပေသည်။ ထိုမှအပ အခြားနည်းလမ်းမရှိတော့ပါ။

အခန်း(၉)

# အစ္စလာမ်၏ရှင်သန်မှု

အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ်တည်းဟူသော ဒီင်နိလမ်းညွှန်ချက် တရားကို အပေါ်စီးဖြစ်ထွန်းစေလိုသည်။ အစ္စလာမ်သည် ကမ္ဘာပေါ်တွင် အမြင့်မားဆုံးသော တွေးခေါ်မှုဆိုင်ရာတရားအဖြစ်နေရာရရှိစေလိုသည်။ ဤသို့မြင့်မားသော အဆင့်သို့ တက်လှမ်းရယူနိုင်စေဖို့ရန် မျက်မှောက်ကမ္ဘာ၏ တောင်းဆို လိုအပ်ချက်အတိုင်းဖြစ်ဖို့လိုသည်။

အလ္လာဟ်အရှင်မြတ်သည် နှစ်ပေါင်း(၁၀၀၀)ချီသော အချိန် ကာလ၏ ပြောင်းလဲဖြစ်ထွန်းလာစေမှုဖြင့် နောက်ဆုံးတမန်တော်မြတ်မုဟမ္မဒ် ﷺ အတွက် အခွင့်အလန်းကို ပေါ်ထွန်းဖြစ်စေခဲ့သည်။ တမန်တော်မြတ်မုဟမ္မဒ် ﷺ သည်လည်း အခြေအနေအရပ်ရပ်ကို သိမြင်ပြီး ပညာ အမြော်အမြင် ပါက်မသ်နည်းစဉ်ဖြင့် အစ္စလာမ်ကို ကမ္ဘာလူသားတို့၏ အတွေးအခေါ်၏ အမြင့်မားဆုံး အခြေအဖြစ် ပို့ချခဲ့သည်။

ယခုနှစ်ပေါင်း(၁၀၀၀)ကျော်ကာလတွင် ဖြစ်ပျက်ပေါ်ထွန်းလာခဲ့ကြသော အခြေအနေအရပ်ရပ်ကို မှုတည်၍ အလ္လာဟ်အရှင်မြတ်က ပြန်လည်၍ အစ္စလာမ်ကို ရှင်သန်ပေါ်ထွန်းအပေါ်စီးရရှိမှုအတွက် အခွင့်အလန်းတစ်ရပ်ကို ပေးနေပြီဖြစ်သည်။ ဤအခြေအနေအရပ်ရပ်၏ အခွင့်အလန်းကို အသုံးချ၍ အစ္စလာမ်ကို ပြန်လည်၍ အပေါ်စီးရရှိပြီး ဦးခေါင်းမော့နိုင်စွမ်း ကို အတိတ်ကကဲ့သို့ ရရှိအောင်ပြုရပါမည်။ ဤသို့သော အခွင့်အလန်းကို အကြောင်းခံဖြစ်စေနိုင်ဖို့ သေချာရေရာသော လှုပ်ရှားမှုတစ်ရပ် လိုအပ်နေသည်။ ဤသည် ခေတ်ကာလ၏ တောင်းဆိုနေမှုကို သိမြင်သော အသိဉာဏ်ရှိရမည်။

ဤသည် ဖြစ်သလို လုပ်တတ်သော ပရိုးပတာနည်းလမ်းကို မကျင့်သုံးပဲ ပေါ်လွင်ထင်ရှားပြတ်သားလှသော နည်းစဉ်ကို ကျင့်သုံးနိုင်ရမည်ဖြစ်သည်။ ဤသည်

လူတို့တွင် ဖြစ်လိုသော စိတ်ကူးယဉ်ထက် ဒီင်န်၏ ဖိတ်ခေါ်မှုကို ဦးမော့စေသော လှုပ်ရှားမှုဖြစ်ရပါမည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ရှောနီဟိက်မသ်နည်းစဉ်ကို အားကိုးသော လှုပ်ရှားမှုဖြစ်ရပါမည်။ ဤသို့မဟုတ်ပဲ လူတို့၏ စိတ်ကူးဖြင့် ပုံဖော်မှု မဖြစ်စေရ။

ဤသည် အလ္လာဟ်အရှင်မြတ်၏ မြင့်မြတ်ထူးကဲမှုကို လွှင့်ထူရန် ဖြစ်သည်။ ဤသို့မဟုတ်ပဲ လူမျိုးရေးနှင့် ရုပ်ပစ္စည်း၏ ပိုင်ဆိုင်မှု ဂုဏ်ရည်ကို အလံတင်ခြင်းမဖြစ်စေရ။ ဤအရည်အချင်းနှင့် ပြည့်ဝပြည့်စုံသောသူတို့ သည်သာလျှင် အတိတ်ကာလက အလ္လာဟ်အရှင်မြတ်၏ ဒီင်န်သာသနာကို မြှင့်တင် အောင်ကြိုးစားခဲ့ကြသည်။ အနာဂတ်တွင် လည်း ယင်းအရည်အချင်းနှင့် ပြည့်စုံ သောသူတို့သည်သာလျှင်ဆက်လက်၍ လုပ်ဆောင်ပခုံးပြောင်းယူမည်ဖြစ်သည်။

ဤသို့မဟုတ်ပဲ အုပ်စုဖွဲ့ပြီး ကွေးကြော်ခြင်း၊ ပြဿနာတစ်ရပ် ပေါ် ပေါက်လာခြင်းအပေါ် အခွင့်ကောင်းယူခြင်းကဲ့သို့သော လူတို့သည် အလ္လာဟ် အရှင်မြတ်က ဖန်တီးပေးထားသော အခြေအနေကောင်းများကို ဖျက်စီးကြ သူများဖြစ်ကြသည်။ ယင်းသူတို့သည် အခြေအနေကောင်းမှ အကျိုးဖြစ်ထွန်းအောင် မဆောင်ရွက်နိုင်သူများဖြစ်ကြသည်။

## နိုင်ငံယှဉ်ပေါ်ပြချက်တစ်ခု

တမန်တော်မြတ်၏ ခေတ်ကာလတွင် ပေါ်ထွန်းထွက်ပေါ်လာခဲ့သော တော်လှန်ရေးကြီးတွင် သမိုင်းအထောက် အထားအရ စုစုပေါင်း လူ(၁၀၁၈)ဦးသည် (၂၃)နှစ်တာ အစ္စလာမ် လှုပ်ရှားရေးကာလတွင် သေဆုံးခဲ့ရသည်။ ယင်း(၂၃)နှစ်တာ ကာလတွင် ဒိုက်ရန်ဖြစ်ပွားသော စစ်ပွဲပေါင်းသည် (၈၁)ခုရှိပြီး တမန်တော်မြတ် ကိုယ်တိုင်ပါဝင်ခဲ့သော စစ်ပွဲပေါင်းမှာ (၂၇)ခု ဖြစ်သည်။ ယင်းစစ်ပွဲတွင် စစ်ပွဲကြီးအဖြစ် သမိုင်းတွင် အချို့လောက်ကိုသာ တွေ့ရှိရသည်။ ယင်းစစ်ပွဲတွင် သေဆုံးခဲ့ရသောသူတို့၏ စာရင်းဇယားမှာ အောက်ပါအတိုင်းဖြစ်သည်။

မွတ်စလင် ကျဆုံးခဲ့ရသူ = ၂၅၉ ဦး

မွတ်စလင်မ် မဟုတ်သူ = ၇၉၉ ဦး

စုစုပေါင်း = ၁၀၁၈ ဦး

ဤအစ္စလာမ်စဦးခေတ်ကာလက တော်လှန်ရေးလှုပ်ရှားမှုသည် လူသမိုင်း၏ ကြီးမားဆုံးသော တော်လှန်ရေး လှုပ်ရှားမှုဖြစ်သည်။ ဤလှုပ်ရှားမှုကြီးသည် လူသမိုင်း၏ အလှည့်အပြောင်းကို ဖြစ်စေခဲ့သည်။ ဤကြီးမားလှသော (၂၃)နှစ်တာ တော်လှန်ရေး၏ ခေတ်ကာလတွင် သေဆုံးခဲ့ရသော လူတို့၏ အရေအတွက် နည်းပါးမှုကို သုံးသပ်ကာ သမိုင်းပညာရှင်တို့က သွေးမြေမကျသော တော်လှန်ရေးဟု သတ်မှတ်ကြခြင်းဖြစ်သည်။

မွတ်စလင်မ်စာရေးဆရာကြီးများနှင့်ဓမ္မကထိကတို့က ဤသမိုင်းဖြစ်စဉ်ဖြစ် ရပ်ကို အခြားသော တော်လှန်ရေးကြီး များ နှိုင်းယှဉ်ကာ ဂုဏ်ယူဝင့်ကြွားစွာဖြင့် ဖော်ပြလေ့ရှိကြသည်။ အစ္စလာမ်၏ ၂၃နှစ်တာ တော်လှန်ရေးတွင် လူ(၁၀၀၀)မျှ သေဆုံးခဲ့ရသော်လည်း ပြင်သစ်တော်လှန်ရေးနှင့် ရုရှ ဆိုရှယ်လစ် တော်လှန်ရေးတွင် လူပေါင်းသိန်းနှင့်ချီ၍ စတေးခံခဲ့ရကြောင်း ကို ဖော်ညွှန်းကြလေ့ရှိသည်။ ဤသို့နှိုင်းယှဉ်ဖော်ပြရသည်ကို ကျွန်ုပ်တို့အနေဖြင့် လွန်စွာမှပင် နှစ်ခြိုက်ကြသည်။ ဤသို့ဖော်ပြ ခြင်းအားဖြင့် စိတ်နှလုံးချမ်းမြေ့မှုကို ဖြစ်စေရသည်။

နောက်ထပ်နှိုင်းယှဉ်ဖော်ပြစရာတစ်ခုက ရှိပါသည်။ ဤအရေးကို မွတ်စလင်မ်တို့အနေဖြင့် ဝေဖန်သုံးသပ်ခြင်းမရှိပေ။ ဤဒုတိယနှိုင်းယှဉ် ဖော်ပြချက်သည် သံဝေဂ ပြုပြင်မှုကို ဖော်ညွှန်းချက် ဖြစ်ပြီး ဤသို့သော အချက်တွင် ခါးသီးသောခံစားရချက်ရှိနေသည်။ သို့ဖြစ်၍လည်း ယင်းဒုတိယနှိုင်း ယှဉ်မှုကို မွတ်စလင်မ်တို့ မပြုလုပ်ကြခြင်းဖြစ်သည်။

ဒုတိယနှိုင်းယှဉ်ချက်ကား စဦးမွတ်စလင်မ်လှုပ်ရှားမှုကာလက ကျဆုံးခဲ့ ရသော သူတို့၏ အရေအတွက်နှင့် မျက်မှောက်ခေတ် မွတ်စလင်မ်တို့၏ လှုပ်ရှားမှု ကာလတွင် သေဆုံးခဲ့ရသော သူတို့နှင့် နှိုင်းယှဉ်စေလိုပါသည်။ မျက်မှောက်ခေတ် ကာလတွင် မွတ်စလင်မ်လူ့အဖွဲ့အစည်းဝင်တို့သည် ကြီးမားလှသော ဘာသာရေး

ဆိုင်ရာလှုပ်ရှားမှုများနှင့် အိစ်လာမစ်ဂျိဟာဒ်ဟူသော ခေါင်းစဉ်အောက်တွင် လှုပ်ရှားမှုများကို ပြုခဲ့ကြသည်။ ကျွန်ုပ်တို့အနေဖြင့် စဦးမွတ်စလင်မ်လှုပ်ရှားမှုကို အခြားသူတို့နှင့် နှိုင်းယှဉ်ဖော်ပြကြသလို မျက်မှောက်မွတ်စလင်မ်တို့၏ လှုပ်ရှားမှုနှင့် စဦးမွတ်စလင်မ်လှုပ်ရှားမှုကိုလည်း နှိုင်းယှဉ်သင့်ပါသည်။

ဤသို့နှိုင်းယှဉ်ကြည့်ကြမည်ဆိုလျှင် မျက်မှောက်ခေတ် မွတ်စလင်မ်တို့၏ လှုပ်ရှားမှုသည်လည်း မွတ်စလင်မ်မဟုတ် သူတို့၏ လှုပ်ရှားမှုများ နှင့်မခြား ရှိနေသည်ကို တွေ့မြင်ရမည်ဖြစ်သည်။ အာဖရိကမြောက်ပိုင်းရှိ အယ်လ်ဂျီရီယာ မွတ်စလင်မ်တို့၏ လွတ်လပ်ရေး လှုပ်ရှားမှုတွင် မွတ်စလင်မ်(၂၅)သိန်း သေဆုံးခဲ့ရသည်။ အိန္ဒိယနိုင်ငံ၏ ဗြိတိသျှဆန့်ကျင်ရေးလှုပ်ရှားမှုတွင် အိုလမာပညာရှင်များအပါအဝင် မွတ်စလင်မ်(၅)သိန်းကျော် ကျဆုံးခဲ့ရသည်။ အစ္စလာမ်နိုင်ငံတော်အဖြစ် ပါကစ္စတန်နိုင်ငံ တည်ထောင်စဉ်က လူပေါင်း သိန်း(၁၀၀)ကျဆုံးခဲ့ရရှာသည်။ ဤကဲ့သို့ပင် ဆီးရီးယား၊ အီရတ်၊ အီရန်၊ အီဂျစ်၊ ပါလစ္စတိုင်းနှင့် များပြောင်လှစွာသော မွတ်စလင်မ်နယ်ပယ်တို့တွင် အစ္စလာမ် ခေါင်းစဉ်အောက်တွင် သိန်းပေါင်းများစွာသော မွတ်စလင်မ်တို့ အသက် စတေးခံခဲ့ရခြင်းရှိနေသည်။

သို့ရာတွင် ယင်းလှုပ်ရှားမှုကြောင့်လည်းကောင်း၊ အသက်စွန့်ခဲ့ရခြင်း ကြောင့်လည်းကောင်း၊ မည်သည့်အကျိုးရှိသော ပြောင်းလဲမှု များဖြစ်မလာပေ။ အစဦးခေတ် မွတ်စလင်မ်တို့၏ လှုပ်ရှားမှုဖြစ်စဉ်သည် လူပေါင်း(၁၀၀၀) မျှကို စတေးခံခဲ့ရခြင်းကို မြင်ခဲ့ရသော်လည်း ယင်းတော်လှန်ရေး၏ အကျိုးဆက်ကို တစ်ကမ္ဘာလုံးကခံယူသိရှိအမြတ်ထွက်ခဲ့ရသည်။မျက်မှောက်ခေတ်လှုပ်ရှားမှု ကာလတွင် မွတ်စလင်မ်စုစုပေါင်း(၁၀)ကုဋေမျှ သေဆုံးစတေးခံခဲ့ရသော်လည်း ကမ္ဘာကြီး၏ သေးငယ်သော အစိတ်အပိုင်းကမျှ အစ္စလာမ်တော်လှန်ရေး၏ အကျိုးအမြတ်ကို ခံစားရခြင်းမရှိခဲ့ပါ။

ထိုမျှမက ယင်းအစ္စလာမ် အမည်ခံတော်လှန်ရေးလှုပ်ရှားမှုသည် ပြောင်းပြန်ဖြစ်စေသော ဆိုးယုတ်မှုများကိုပင် ဖြစ်စေခဲ့ပါသည်။ ယင်းအချက်ကို

ရေးဟောင်းကျမ်းဂန်တစ်ခု၏ ဖော်ပြချက်သည်ပင် အကောင်းဆုံးသော အဓိပ္ပာယ်ဆောင်သော စကားကို သူတို့၏ ကျမ်းဂန်တွင် အတိတ်ခေတ်ယဟူဒီတို့နှင့် ပတ်သက်၍ ဆိုထားသည်ကို ဖော်ပြလိုပါသည်။

''အသင်တို့၏ မျိုးစေ့ပျိုးခြင်းသည် အချည်းနှီးပင်၊ အကြောင်းမူ ယင်း၏ အကျိုးအမြတ်ကို အသင်တို့၏ ရန်သူတို့က စားသုံးကြမည်ဖြစ်သည်။ အသင်တို့နှင့် ခိုက်ရန်ဖြစ်ပွားနေကြသောသူတို့ပင်လျှင် အသင်တို့ကို အုပ်ချုပ်မည်ဖြစ်သည်။ အသင်တို့၏ စွမ်းအားသည် အချည်းနှီးအကျိုးမဲ့ ဖြစ်သွားလိမ့်မည်။ အသင်တို့၏ မြေသည် မည်သည့်အရာကိုမျှ ပေါ်ထွန်းစေမည်မဟုတ်။ လွင်ပြင်ရှိသစ်ပင်တို့သည် ကျယ်ပြန့်စွာ ဖြစ်ထွန်းစေဖို့ မဟုတ်ပါ။''

ဤဖော်ပြချက်သည် ကျွန်ုပ်တို့၏ မျက်မှောက်သမိုင်းကို ဖော်ကျူး နေသကဲ့သို ဖြစ်နေသည်။ ကျွန်ုပ်တို့သည် ခေလာဖသ်နှင့် သွေးစည်းညီညွတ်ရေး လှုပ်ရှားမှုကို အကြီးအကျယ်ပြုလုပ်ခဲ့ကြသည်။ ဤသို့ပြုနေရင်းက လူထောင်ပေါင်း များ စွာ၏ အသက်အိုးအိမ်များကို စတေးခံခဲ့ကြသည်။ အကျိုးအမြတ်အားဖြင့် လူမျိုးရေးဆောင်သော နိုင်ငံငယ်များစွာ ပေါ်ထွန်းလာခဲ့ကြသည်သာရှိသည်။ အချို့သော နိုင်ငံတွင် အစ္စလာမ်နှင့် လုံးဝမနီးစပ်သောသူများက အကြီးအကဲဖြစ်ရသလို အချို့နေရာတွင် မဆိုင်သူများက ဖျာခင်းခဲ့ကြသည်။

ဤသည် မျက်မှောက်ခေတ်ကာလ၏ ထင်ရှားလှသော ပကတိ အခြေ အနေဖြစ်သည်။ ကျွန်ုပ်တို့သည် မည်သို့မည်မျှ ပင် အရှိတရားကို မျက်မှောက်ပြုကာ စိတ်ကူးယဉ်ဖြင့် ပျော်မြူးကာ ဓာတ်လမ်းခင်း ဖော်ပြကြစေကာမူ အနာဂတ်သမိုင်း သုတေသီတို့က ယင်းမှားယွင်းချွတ်ချော်ခဲ့ချက်များကို မှန်ကန်သော ဆန်းစစ်ချက် များဖြင့် ဖော်ပြကြမည်ဖြစ်သည်။

မျက်မှောက်ခေတ်လွန်ကာလက ဖြစ်ပွားခဲ့သော ပြင်သစ်တော်လှန်ရေးနှင့် ရုရှတော်လှန်ရေးတို့သည် အသက်ပေါင်းများစွာတို့၏ စတေးမှုဖြင့် မျက်မှောက် လူသားတို့၏ တွေးခေါ်မှုပုံစံကို အလှည့်အပြောင်းဖြစ်စေခဲ့သော အကျိုးတရားကို ရရှိခဲ့ကြသည်။ ကမ္ဘာပေါ်မှ ပဒေသရာဇ်သက်ဦးဆံပိုင်စနစ်ကို ဖျက်သိမ်း

ပစ်နိုင်ခဲ့သည်။ အရင်းရှင်လူတန်းစားတို့၏ ပစ္စည်းမဲ့တို့အပေါ် ဂုတ်သွေးစုပ် ချယ်လှယ်မှုကို မီးမောင်းထိုးပြလျက် လူတို့ကို စဉ်းစားတွေးခေါ်မှုဖြင့် အဖြေရှာဖွေ ပေးနိုင်ခဲ့သည်။

သို့ရာတွင် မျက်မှောက်ခေတ်ကာလ အစ္စလာမ်ကို ခေါင်းစဉ်တပ်ကာ လှုပ်ရှားခဲ့ကြသော သူတို့သည် လူဦးရေအားဖြင့် သိန်းသန်းမက များပြားစွာရှိပြီး အသက်ပေါင်းများစွာကို စတေးခံခဲ့ကြသော်လည်း မျက်မှောက်ရလဒ်အဖြစ် မည်သည့်ပညာရေးနှင့် တွေးခေါ်မှုဆိုင်ရာကို ပြောင်းလဲဖြစ်ထွန်းစေခြင်းမရှိပါ။ အစ္စလာမ် အစဦးခေတ်ကာလက တော်လှန်ရေးသည် အသိတစ်ခုကို ပေးထားသည်။ အကယ်၍ လူတစ်ထောင်မျှ ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ဒီင်န်အတွက် စွန့်လွှတ်စွန့်စားပြုလုပ်နိုင်ခဲ့လျှင် ယင်းစွန့်လွှတ်စွန့်စားမှုကို အလ္လာဟ်အရှင်မြတ် က သဘောတူညီမှုပေးကာ အစ္စလာမ်ကို ပထဝီမြေကြီးပေါ်တွင် အပေါ်စီး လွှမ်းမိုးမှုကို ပေးခဲ့သည်။

ယနေ့ခေတ်ကာလတွင် မွတ်စလင်မ်သိန်းသန်းမက အသက်စတေးခံ ခဲ့ကြသော်လည်း အလ္လာဟ်အရှင်မြတ်အထံတော်မှ မည်သည့်အကူအညီမျှ ကောင်းကင် ပေါ်မှ ဆင်းသက်လာခြင်းမရှိပါ။ ဆုံးရှုံးမှုဖြင့်သာ ရင်ဆိုင်ခဲ့ရသည်။ ဤဖော်ပြပါအချက်ကို သုံးသပ်ကြည့်သောအခါ ကျွန်ုပ်တို့၏ မျက်မှောက် စွန့်လွှတ်စွန့်စားပြုမှုဆောင်ရွက်ခြင်းသည် ဆွီရာသိလ် မုစ်သကိမ် ၏ နည်းစနစ်ဖြင့် မဟုတ်ကြောင်း သိမြင်နိုင်သည်။ ကျမ်းတော်မြတ်ကုရ်အာန်၏ စူရဟ်ဖာသိဟာတွင် အလ္လာဟ်အထံတော်မှ နစ်ရသ် အကူအညီ ရရှိမှုအောင်မြင်မှုကို ရရှိစေမှု၏ လမ်းကြောင်းနှင့် ပြဒါးတစ်လမ်း သံတစ်လမ်းဖြစ်နေကြောင်း ထင်ရှားနေသည်။

အကြင်လယ်သမားတစ်ဦးသည် စပါးစိုက်သည်ဟုဆိုပြီး လယ်ယာမြေမှ အခြားမြက်ရိုင်းများထွက်လာသည်ဆိုပါက ယင်းလယ်သမားသည်လိမ် လည်သူ သာဖြစ်လိမ့်မည်။ အလ္လာဟ်အရှင်မြတ်၏ ဤကမ္ဘာကြီးတွင် ပြဋ္ဌာန်းထားသော စနစ်ဖယား အရ စပါးစိုက်လျှင် ဆန်းစပါးသာဖြစ်ထွန်း ထွက်လာမည်ဖြစ်သည်။ မြက်ရိုင်းထွက်မည်မဟုတ်ပါ။ ဤသည်လိမ်လည်သောစကားဖြစ်ကြောင်း

ထင်ရှားစွာသိမြင်နိုင်သကဲ့သို့ မျက်မှောက်ခေတ်ကာလလွန်က ကျွန်ုပ်တို့၏ သွေးမြေကျခဲ့ရသော စွန့်လွှတ်စတေးခံကြရမှုများသည် တမန်တော်မြတ်နှင့်တစ်ကွ ဆွဟာဗာတော်တို့၏ နည်းလမ်းမဟုတ်ကြောင်း ထင်ရှားလွန်းလှသည်။

ဤထင်ရှားလှသော ဖြစ်ရပ်များ သာဓကများရှိနေပါလျက်နှင့် မိမိသဘော၊ မိမိစိတ်ကူးအားဖြင့် အတွေးကမ္ဘာကို တည်ဆောက်ကာ လေပေါ်တွင် တိုက်ဆောက်ကြလျှင် အနာဂတ်တွင် ယင်းစိတ်ကူးယဉ်၏ ရလဒ်ကို မျက်ဝါးထင်ထင် ရှုမြင်ကြရမည်ဖြစ်ပေသည်။

## အလ္လာဟ်အရှင်မြတ်အထံတော်မှ အကူအညီ

ကျမ်းတော်မြတ်ကုရ်အာန်၏ စူရဟ် မုဟမ္မဒ်တွင် အလ္လာဟ်အရှင်မြတ်က အောက်ပါအတိုင်း လမ်းညွှန်ဖော်ပြထား သည်။

**يأيها الذين آمنوا إن تنصروا الله ينصركم ويثبت أقدامكم**

"အို-အီမာန်ယုံကြည်သူအပေါင်းတို့ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုကူညီခြင်းပြုကြလျှင် အလ္လာဟ်အရှင် မြတ်သည်လည်း အသင်တို့အား ကူညီမည်။ ထို့ပြင် အသင်တို့၏ ခြေကို ခိုင်မြဲသော အခြေသို့ ရောက်ရှိစေမည်။"

ကုရ်အာန်–၄၇ း၇

ဤကျမ်းတော်မြတ်ကုရ်အာန်၏အာယသ်တွင် ဖော်ပြထားသော အလ္လာဟ်အရှင်မြတ်ကို ကူညီခြင်းဟူသည် အလ္လာဟ်အရှင်မြတ် ၏ စီမံကိန်းကို ပါဝင်ဆောင်ရွက်ခြင်းကို ဆိုလိုပါသည်။ ဆိုလိုသည်ကား အခြေအနေကို ရုပ်လုံးပေါ်လာအောင် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းပုံစံကို အလ္လာဟ်အရှင်မြတ်က ပေးထားသောအခြေအနေ အခွင့်ကောင်းကို အသုံးချလျက် ကြိုးစားလုံးပမ်းခြင်းပင်ဖြစ်သည်။ ဤသို့အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းပုံစံတွင် ပါဝင်လျက် လှုပ်ရှားသောသူတို့ကို အောင်မြင်မှုရလဒ်အဖြစ် အရှင်ကပေးလေ့ရှိသည်။ ဤအကျိုးအမြတ် အောင်မြင်မှုကို ခံယူရရှိစေဖို့ရန် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းရုပ်လုံးဖော်မှုတွင် လွတ်လပ်တက်ကြွစွာဖြင့် ပါဝင်ဆောင်ရွက်လုံးပမ်းကြရမည်ဖြစ်သည်။

ဤဖော်ပြပါအချက်ကို သိမြင်နားလည်အောင် ဥပမာတစ်ခုဖြင့် ရှင်းပြလို ပါသည်။ ပုဂ္ဂိုလ်တစ်ဦးသည် သူ၏ အိမ်ရှေ့တွင် သစ်ပင်ကြီးတစ်ခုကို စိုက်ထူမြင် တွေ့လိုသည်။ သူ့အနေဖြင့် ယင်းသစ်ပင်ကို စိုက်ပျိုး၍ ကြီးအောင်ပြုလိုက်ရလျှင် ၁၀နှစ်တာမျှ အချိန်ကုန်မည်ဖြစ်၍ အခြားတစ်နေရာမှ သစ်ပင်ကြီးတစ်ပင်ကို နုတ်ယူပြီး အိမ်ရှေ့တွင် စိုက်ထူလိုက်သည်။ သူသည် (၁၀)နှစ်တာအလုပ်ကို (၁)ရက်နှင့် ပြုလိုက်၍ရလိုက်သည်ကို ဝမ်းမြောက်ဝမ်းသာဖြစ်မိသည်။ နောက်တစ်နေ့ အိပ်ယာမှထ၍ သစ်ပင်ကြီးကို ကြည့်လိုက်ရာ သစ်ရွက်များညှိုးကျနေကြောင်း တွေ့ရသည်။ ညနေလောက်တွင် သစ်ကိုင်းများ ပင် ယိုင်လိုက်လာသည်ကို တွေ့ရ သည်။ မကြာခင်သောရက်များကို ကျော်ဖြတ်ရသောအခါ ထိုသစ်ပင်ကြီးသည် ပင်စည်သာ လျှင် ကျန်ရစ်တော့ကြောင်း တွေ့လိုက်ရတော့သည်။

ထိုအခါကျမှ ပုဂ္ဂိုလ်ကြီးသည် လောကကြီး၏ နိယာမတရားကို သဘော ပေါက်နားလည်လာတော့သည်။ လောကကြီး တွင် ဖြစ်ပျက်ရသော ကိစ္စရပ်များ ပြဿနာရပ်များတွင် လူသားတို့၏ ဆောင်ရွက်ချက်သည် တစ်ဝက်ဖြစ်ပြီး အလ္လာဟ်အရှင်မြတ်၏ ဆောင်ရွက်ချက်သည် တစ်ဝက်ပါသည်ကို သူသဘောပေါက် လာခဲ့သည် ယင်းသဘောက စက်ယန္တရားတွင် တွေ့ရသော လည်ပတ်နေသည့် ခွေးသွားစိတ် Cog Wheels ပမာ ယင်းတွင် ခွေးသွားစိတ်တစ်ခုသည် အလ္လာဟ်အရှင်မြတ်၏ လုပ်ငန်းဆောင် တာဖြစ်ပြီး ကျန်တစ်ခုသည် လူ၏ ကြိုးပမ်းမှုဖြစ်နေသည်။ လူသည် အလ္လာဟ်အရှင်မြတ်၏ လုပ်ဆောင်နေမှုတွင် ပါဝင်လှုပ်ရှားလာလျှင် စက်ယန္တရားကြီးသည် လည်ပတ်သည့်အလား စက်သည် အလုပ်လုပ်လာသည်။ ထိုမှတစ်ပါး ယင်းလည်ပတ်နေမှုကို အဆမတန်မြန်အောင် ပြုလုပ်လာပါမူ စက်သည် ပျက်သွားနိုင်ခြေရှိလာသည်ကို သဘောပေါက်ရပါ မည်။

အလ္လာဟ်အရှင်မြတ်၏ နှစ်ရာပေါင်းထောင်ပေါင်းများစွာသောအချိန် စနစ်ဖယားအားဖြင့် ပထဝီမြေကြီးသည် စိုက်ပျိုး၍ကောင်းသည့်မြေသြဇာအလွှာကို ဖြစ်ထွန်းလာစေခဲ့သည်။ ယင်းအပေါ်တွင် သစ်ပင်များစိုက်ပျိုးနိုင်စေဖို့ရန် နေ၏အလင်းရောင်ကိုလည်း အရှင်က ပေးရုံမက ရေကိုလည်း သဘာဝအားဖြင့်

လောင်းချပေးလိုက်သည်။ ထိုမှတစ်ပါး ရာသီဥတု၏ လည်ပတ်နေမှုကိုလည်း သစ်ပင်ကို ပျိုးထောင်မှုအတွက် အကြောင်းတစ်ခုဖြစ်စေသည်။ မြေကြီးအတွင်းနှင့်အပြင်တွင်လည်း သစ်ပင်အတွက် လိုအပ်သော ဘက်တီးရီးယားများကို မွေးပေးပြီး သစ်ပင်အတွက် လိုအပ်သော နိုက်ထရိုဂျင်ဓါတ် ကိုဖန်တီးပေးခဲ့သည်။

ဤသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ စက်ယန္တရား၏ ခွေးသွားစိတ်Cog Wheels တစ်ခုဖြစ်သည်။ လူသားတို့အနေဖြင့် သူတို့ဖက်က ခွေးသွားစိတ်Cog Wheels ကို မှန်ကန်စွာ လှည့်ရန်လိုတော့သည်။ ဤသို့အားဖြင့် ခိုင်မာသော သစ်ပင်ကြီးကို ပျိုးနိုင်မည်ဖြစ်သည်။

လူသားတို့အနေဖြင့် ဆောင်ယူရမည့်တာဝန်က မျိုးစေ့ကို မြေကြီးအတွင်း စိုက်ထူရမည်ဖြစ်သည်။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်၏ ခွေးသွားစိတ်နှင့် လူ၏ခွေးသွားစိတ်တို့ ပေါင်းစည်းကာ စက်မောင်းရမည့်အလားဖြစ်မည်။ ထိုအခါ သဘာဝဖြစ်စဉ်တာဝန်သည် ဖြစ်ထွန်းလာပြီး သတ်မှတ်ထားသော စနစ်ဖယား အားဖြင့် ရလဒ်သည် ပေါ်ထွက်လာမည် ဖြစ်သည်။ ဤသို့မဟုတ်ပဲ မြေဆီလွှာ တွင်မထည့်ပဲ ကျောက်တုံးကြီးတွင်လည်းကောင်း၊ ဤသို့မဟုတ် မျိုးစေ့အတု အယောင်ဖြင့် လည်းကောင်း၊ ပျိုးခဲ့သည်ရှိသော် ရလဒ်ကို ဖြစ်ထွန်းလာမည် မဟုတ်ဘဲ၊ သစ်ပင်ကြီးကို အခြားမှ နုတ်ယူလာပြီး စိုက်ပျိုးသည့် ရလဒ်ကိုယ်သာ ရရှိမည်ဖြစ်သည်။ ယင်းသူတို့အတွက် ဤကမ္ဘာလောကကြီးတွင် စိမ်းလန်းစိုပြေသော ဖြစ်ထွန်းလာမှုကို ကြုံတွေ့ရမည်မဟုတ်တော့ပါ။

ဤနည်းနှင့် အစ္စလာမ်၏ တော်လှန်ရေးဖြစ်စဉ်သည်လည်း ယင်းသဘောကို ဆောင်ပါသည်။ အစ္စလာမ်စဦးကာလ မွတ်စလင်မ်တို့သည် အလ္လာဟ်အရှင်မြတ်၏ ခွေးသွားစိတ်နှင့် သူတို့၏ ခွေးသွားစိတ်ကိုပေါင်းစည်းကာ အကျိုးဖြစ်ထွန်းမှုကို သိမြင်ခံစားခဲ့ရသည်။ သို့သော် ယနေ့ခေတ် မွတ်စလင်မ်တို့က အသက်ပေါင်းများစွာ စတေးခံခဲ့ရသော်လည်း အလ္လာဟ်အရှင် မြတ်၏ အပိုင်းဖြစ်သော ခွေးသွားစိတ်တွင် သူတို့၏ ခွေးသွားစိတ်ကို တွဲယူနိုင်ခြင်းမရှိခဲ့ပါ။ သို့ဖြစ်၍လည်း စီမံကိန်းဖြစ်စဉ်သည် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းမဖြစ်သွားဘဲ အလ္လာဟ်အရှင်မြတ်၏ သဘောတူညီမှု

မရှိသော ဖြစ်စဉ်ကို ကျင့်သုံးခြင်းသာဖြစ် သည်။

## သောင်ဟီးဒ်ပေါ် အခြေခံမှုနှင့် ရှိရိက်ပေါ်အခြေခံမှု

ကျမ်းတော်မြတ်ကုရ်အာန်တွင် စူရာဟ်ဗကရဟ် အာယတ်(၂း၃)အရ သိရှိရသည်မှာ ကမ္ဘာ့စဦးလူသားတို့ ယုံကြည် ချက်မှာ သောင်ဟိဒ်ပင်ဖြစ်သည်။ ဤသောင်ဟိဒ်ကို အခြေခံ၍ ယုံကြည်ထားသော လူမှုအဖွဲ့အစည်းသည် နှစ်ရာနှင့်ချီ၍ရှိခဲ့သည်။ ယင်းနောက်ရှိရက်သည် သောင်ဟိဒ်သဘောတရား အတွင်းသို့ တစ်ဖြည်းဖြည်းစိမ့်ဝင်သွားခဲ့သည်။ မမြင်ရသောအရှင်ကို ယုံကြည် ရခြင်းသည် သူတို့အတွက် အခက်အခဲဖြစ်ခဲ့ရသည်။ သို့ဖြစ်၍ မြင်နေရသော သူတို့အတွက် အံ့ဖွယ်ရာများကို ယုံကြည်ချက်၏ အခြေခံတွင် ထည့်သွင်းလာ ခဲ့ကြသည်။ ထိုမှတစ်ဖန် နေ၊လနှင့် ကြယ်နက္ခတ်တာရာများကို ကိုးကွယ်မှုသည် စတင်လာခဲ့ကြသည်။ မြင့်မားသော တောင်တန်းကြီးများနှင့် ပင်လယ်သမုဒ္ဒရာကြီး များကိုလည်း ပူဇော်ပသလာခဲ့ကြသည်။ ထိုမှဆက်၍ လူတို့တွင် ဩဇာအာဏာနှင့် ပြည့်စုံသော သူတို့ကိုလည်း ချည်းကပ်ဆည်းကပ်ခြင်းကို ပြုလာတော့သည်။

ထိုအချိန်မှစ၍ နှစ်ပေါင်း(၁၀၀၀)ကျော်မြင့်သော ကာလသို့ရောက်သော အခါ သောင်ဟီးဒ်ကို အခြေခံသော ယုံကြည်ချက်သည် လုံးဝဥဿုံပျောက် ပျက်ခဲ့ရတော့သည်။ ရှိရိက်ကို အခြေခံသော ယုံကြည်ချက်သည် အပေါ်စီးရယူ ထိန်းချုပ်လာတော့သည်။စဦးကာလသောင်ဟီးဒ်သဘောတရား၏ ပုံပျက်လာချိန် မှစ၍ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံသို့ တမန်တော်များကို ဒေသအနှံ့ ကမ္ဘာအဝှမ်းသို့ စေလွှတ်ကာ ရှိရိက်ကို ချေမှုန်းလျက် သောင်ဟိဒ်ကို ပြန်လည်၍ တည်ဆောက်စေခဲ့သည်။ သို့ရာတွင် ယင်းတမန်တော်တို့၏ ပို့ချမှုသည် ထိရောက်သော အကျိုးကို ဖြစ်ထွန်းလာစေခြင်းမရှိခဲ့ပါ။ လူသားတို့ ရှိနေသော ဒေသများသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်များ စဉ်ဆက်မပြတ် ရောက်ရှိလာတော့သည်။(စူရာဟ် အလ်မိုအ်မင်နူ း၄၄)တမန်တော်မြတ်၏ ဟဒီးစ်ဩ ဝါဒတော်တစ်ခုအရ ဤကမ္ဘာပေါ်တွင် အလ္လာဟ်အရှင်မြတ်အထံတော်မှ ရောက်ရှိလာ သော တမန်တော်ပေါင်းတစ်သိန်းခွဲနည်းပါးရှိသည်ဟု သိရှိရသည်။

သို့ရာတွင် ယင်းတမန်တော်အပေါင်းသည် ယင်းလူ့အဖွဲ့ အစည်းဝင်တို့၏ ပစ်မှတ်ဖြစ်ခဲ့ရသည်။ (ယာဆိင်န်း၃၀)

လူတို့သည် အမှန်တရားကို ငြင်းပယ်မှုပြုပြီး ထိုမှတစ်ဖန် ပြက်ရယ်ခြင်း ပြုလာလျှင် ဤသည်အကြောင်းရင်းခံတစ်ခု ပေါ်သို့ အမှီသဟဲပြု၍ ပြုခြင်းပင်ဖြစ်သည်။ ဤသို့ပြုရလေအောင် ထိုသူတို့တွင် ဂုဏ်ယူဝင့်ကြွားစရာ တစ်စုံ တစ်ရာ ရှိနေသည်။ ယင်းအပေါ်တွင် မူတည်၍ အမှန်တရားကို ငြင်းပယ်ကြခြင်းဖြစ်ရ၏။ ဤအချက်ကို ကျမ်းတော်မြတ်ကုရ်အာန်က အောက်ပါ အတိုင်း ဖော်ပြထားသည်ကို တွေ့ရသည်။

ငါအရှင်မြတ်သည် မိမိရစူလ်တမန် တော်များအား တစ်ပါးပြီးတစ်ပါး စေလွှတ်တော်မူခဲ့၏။ မည်သည့်အခါမျိုးမဆိုအုပ်စုတစ်စုထံသို့ ယင်း၏ ရစူလ်တမန် တော်သည် ရောက်ခဲ့ပါလျှင် ယင်း အုပ်စုသည် ထိုရစူလ်တမန်တော်အား သူတို့၏အိလ်မ်အသိအမြင်အားဖြင့်မဟုတ်မမှန် ဟူ၍ပြက်ရယ်ငြင်းပယ်ခဲ့ကြသည်သာ။

(ကုရ်အာန်–၂၃း၄၄)

ဤဖော်ပြပါ အာယတ်တော်တွင်အိလင်မ်ဟူသောစကားရပ်သည် ထိုသူတို ခံယူထားသောမားယွင်းချက်အသိအမြင်အခြေခံကို ဆိုလိုခြင်းဖြစ်သည်။ ယင်း အခြေခံသည် ထိုခေတ်ထိုကာလက လူ့အဖွဲ့အစည်းဝင်တို့တွင် အမြစ်စွဲ နေကြပြီး ဖြစ်သည်။ ဤကဲ့သို့သောအတိတ်ဘာသာတရားများသည် နိုင်မာစွာ ရပ်တည နေသောအသိအမြင် အနေအထားတွင်ရှိခဲ့သည်။ ယင်းယုံကြည်ချက် ဆိုင်ရာတွင် သူတို့၏ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ဆို၏ အမည်သည် စွဲကပ်နေသည်။

ယင်းပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ပေါ်တွင် အခြေခံ၍ ယုံကြည်ချက်အဖွဲ့ အစည်းသည် တည်ဆောက်ထားခြင်းရှိနေသည်။ ထိုတည်ဆောက်ထားမှုအောက်တွင် သူတို့၏ လူ့အဖွဲ့အစည်းဝင်တို့သည် ဘောင်ခတ်ထားခြင်းဖြစ်သည်။ ယင်းသူတို့သည် သူတို့အခေါ် ရှည်လျားလှသော ယဉ်ကျေးမှုအခြေခံနှင့် မြင့်မြတ်သော အစဉ်အလာ ကို ပိုင်ဆိုင်ထားကြပြီးဖြစ်သည်၊ယင်းခိုင်မာစွာ တည်ဆောက်ထားသော ရှိရိက် ယုံကြည်ချက်သည် တစ်ဖက်တွင် ရှိနေပြီး ကျန်တစ်ဖက်တွင် ယင်းယုံကြည်ချက်၏ မားယွင်းချက်ကို ဖော်ညွှန်းပြသနေသော အသစ်အဆန်းဖြစ်နေသည့် အလ္လာဟ်

အရှင်မြတ်ထံတော်မှ တမန်တော်မြတ်က ရှိသည်။

ဤတမန်တော်မြတ်တို့၏ မှန်ကန်သော ယုံကြည်ချက် အထောက် အထားအဖြစ် ပြသစရာ သမိုင်းနောက်ခံအထောက်အထားက ထိုသူတို့တွင် မရှိခဲ့ပါ။ တမန်တော်မြတ်အပေါင်းတို့သည် သူတို့၏မှန်ကန်ချက်ကို ဆန့်သစ်သော စကား အရသာလျှင် တင်ပြကြသည်။ သို့ဖြစ်၍လည်း ထိုစဉ်ကာလက လူအဖွဲ့အစည်း ဝင်တို့သည် တမန်တော်များကို သေးသိမ်စွာမြင်ကြခြင်းဖြစ်သည်။ သူတို့ခံယူထား သော အတိတ်ယုံကြည်ချက်ကိုသာလျှင် မြင့်မြတ်သည်ဟု မှတ်ယူကြသည်။

အီဆာနဗီသည် အိမ်ယာမရှိ၊ သစ်ပင်အောက်တွင် အိပ်လေ့ရှိသည်။ အီဆာနဗီနှင့် ခေတ်ပြိုင်အတိတ်ဘာသာ အယူဟောင်း၏ အကြီးအကဲတို့သည် ကြီးကျယ်မြင့်မားလှသော နန်းတော်ပမာ အဆောက်အဦးတွင် နေထိုင်ကြသည်။ ဤသို့ ကြီးကျယ်မြင့်မားသော အဆောင်တွင် နေထိုင်သူ ရှေ့မှောက်တွင် သစ်ပင် အောက်နေထိုင်ရသောသူကို မည်သို့မြင့်မြတ် သောသူအဖြစ် ခံယူရမည်နည်း။

သို့ဖြစ်၍လည်း လူအဖွဲ့အစည်းဝင်တို့သည် သူတို့ခေတ်ကာလက ရောက်ရှိလာကြသော တမန်တော်မြတ်များကို သေးသိမ်စွာမြင်ကြခြင်းဖြစ်သည်။ သူတို့သည် နိုင်မြဲစွာရပ်တည်နေသော ယုံကြည်ချက်တစ်ရပ်ကို စွန့်လွှတ်ကာ ဘာကြောင့်များ အတည်တကျ မရှိသေးသော ယုံကြည်ချက်ကို ခံယူရမည်နည်း။

ယင်းသူတို့အနေဖြင့် ယုံကြည်ကြသော အတိတ်ခေတ်ကာလ ပုဂ္ဂိုလ်ထူးတို့တွင် ရှေးခေတ်က လွန်ခဲ့သော တမန်တော်များလည်း ပါရှိသည်။ သို့ရာတွင် ယင်းတမန်တော်များကို သူတို့အနေဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်မှ လမ်းညွှန်ချက်ပေးရန် ရောက်ရှိလာခဲ့သော တမန်တော်အဖြစ် လက်ခံခြင်းမရှိပါ။ သူတို့လက်ခံအတည်ပြုကြသည်မှာ အမျိုးသားခေါင်းဆောင်ကြီးနှင့် ပုဂ္ဂိုလ်ကိုးကွယ်မှု အသွင်ထားရှိသော ယုံကြည်ချက်အများပင်ဖြစ်ပေသည်။

**အလ္လာဟ်အရှင်မြတ်၏လမ်းညွှန်ချက်စကားကို လှောင်ထူရကြွေးကြော်ခြင်း။**

လမ်းမကြီးများပေါ်တွင် မီးနီ၊ မီးစိမ်းဖြင့် ပြသထားသော သွား၍ရသော သွား၍မရသော အမှတ်အသားများ ဖြစ်ကြသည်။ ယင်းအမှတ်အသားကို

လိုက်နာခြင်းမရှိလျှင် ယာဉ်စည်းကမ်းကို ဖောက်ဖျက်ရာရောက်သည်။ ဟက်ကို ဖော်ညွှန်းပြသသော ဒါအီ(ဝ်)ဖိတ်ခေါ်သူတို့သည် အထက်ပါနှင့်နှင့် ရှိနေသည်။ ယင်းဒါအီတို့သည် အလ္လာဟ်အရှင်မြတ်၏ စေခိုင်းချက်ကို ပြသရမည်။ လမ်းမှားကို လျှောက်လှမ်းခြင်းအားဖြင့် ဂျဟန္နမ်သို့ ရောက်ရှိပြီး မှန်ကန်သော လမ်းကြောင်းကို လျှောက်လှမ်းခြင်းဖြင့် ဂျန္နသ်သုခဘုံကို ရောက်ရှိမည့်အသိဖြစ်သည်။

စဦးလူသားတို့၏ သောင်ဟိဒ်သဘော ကျဆုံးပြီးနောက် ရှိရိက်တို့၏ လွှမ်းမိုးနေချိန်တွင် ရောက်ရှိလာခဲ့ကြသော တမန်တော်မြတ်အပေါင်းသည် ဤဖော်ပြပါ တာဝန်ကို အထူးပြု ဆောင်ရွက်ရန် ရောက်ရှိလာခြင်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အမှန်တရားနှင့် ပတ်သက်သော စစ်မှန်သော အသိကို ပေးကာ ထိုစဉ်က လူ့အဖွဲ့အစည်းဝင်တို့ကို လမ်းညွှန်ပြသစေခဲ့သည်။ သူတို့၏ တာဝန်က ဤကမ္ဘာလောကကြီးတွင် ဘဝတည်ဆောက်မှုပြုရာတွင် မှန်ကန်သော လမ်းကြောင်းနှင့် မှားယွင်းသောလမ်းကြောင်းကို ပြရန်ဖြစ်သည်။

တမန်တော် အပေါင်းသည် သူတို့ကို ပေးထားသော တာဝန်ကို ကျေပွန်စွာ ဆောင်ရွက်ခဲ့ကြသည်။ ယင်းလူ့အဖွဲ့အစည်းဝင်တို့၏ နားလည်လွယ်သောစကားနှင့် သက်သေသာဓကစွမ်းအားဖြင့် သစ္စာတရားကို ချပြခဲ့သည်။ စဉ်ဆက်မပြတ် ဆန့်ကျင်တိုက်ခိုက်နေမှုကို သက်သေသာဓကအထောက်အထားများဖြင့် ချေဖြတ်လျက် အလ္လာဟ်အရှင်မြတ်၏ သဝဏ်ကို ချပြခဲ့သည်။ လူ့အဖွဲ့အစည်းတို့အနက် ယင်းဖိတ်ခေါ်မှုကို လက်ခံယုံကြည်လာလျှင် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ဂျန္နသ်သို့ ဝင်ခွင့်ရသူဖြစ်လာပြီး ငြင်းပယ်သောသူတို့အတွက် အလ္လာဟ်ထံတော်မှာ ဂျဟန္နမ်သည် ရယူစရာဖြစ်လာခဲ့သည်။

ကမ္ဘာဦးခေတ်ကာလ သောင်ဟိဒ်ပေါ်အခြေခံမှု၏ နောက်ပိုင်းရှိရိက်တို့၏ အပေါ်စီးလွှမ်းမိုးလာသောကာလတွင် အလ္လာဟ်အရှင်မြတ်အထံတော်မှ ရောက်ရှိလာခဲ့ကြသော တမန်တော်တို့သည် လူတို့အတွက် လောကကြီး၏ မှန်ကန်သော အနေအထားနှင့် မှားယွင်းသော အနေအထားကို ပညာသာဓကများဖြင့် လူ့အဖွဲ့အစည်းအသီးသီးတို့ထံသို့ ရှေ့ဆောင်လမ်းပြမှု ကို ပြုခဲ့ကြသည်။

တမန်တော်မြတ်အားလုံးသည် သူ့ခေတ်သူ့ကာလက ကျရောက်လာသော တာဝန်ရပ်များကို ကျေပြွန်စွာထမ်းဆောင်ခဲ့ကြသည်။ ယင်းတမန်တော် အပေါင်းသည် လူ့အဖွဲ့အစည်းဝင်တို့ သိမြင်လွယ်သော စကားရပ်ဖြင့် လူတို့ရှေ့ မှောက်သို့ အမှန်တရားကို တင်ပြခဲ့ကြသည်။ ဤသို့တင်ပြရာတွင် စဉ်ဆက်မပြတ်သော အသိတရားဉပမာအားဖြင့် လူတို့လက်ခံလာအောင် ပြနိုင်ခဲ့ကြသည်။ ဤသို့ တမန်တော်မြတ်၏ စကားကို လက်ခံလိုက်နာသူတို့အတွက် ဂျန္နသ်သည် ရလဒ်ဖြစ်သကဲ့သို့ တမန်တော်မြတ်၏ စကားရပ်ကို ငြင်းပယ်ကြသူတို့သည် ဂျဟန္နမ်ကို ရလဒ်အဖြစ်ရခဲ့ခြင်းဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ဟက်အမှန်တရားကို ပေါ်လွင်လာအောင် ပြုရေအပြင် ဟက်အမှန်တရားသည်အပေါ်စီးလွှမ်းမိုးလာခြင်းကိုလည်း ဖြစ်ထွန်းစေလိုသည်။ ဟက်ကို ကြွေးကြော်တင်ပြခြင်းဟူသည် ဟက်နှင့် ပတ်သက်သော အကြောင်းအရာများကို ပြည့်စုံစွာ တင်ပြခြင်းပင်ဖြစ်သည်။ ဤသို့ တင်ပြရာတွင် ကောင်းမြတ်သော အကျိုးဖြစ်ထွန်းလာခြင်းဖြင့် ပေါ်လွင်ထင်ရှားလာအောင် တင်ပြခြင်းဖြင့် နားထောင်သူတို့အဖို့ရာ အလားအလာမရှိ နားလည်လာအောင် ပြုခြင်းပင်ဖြစ်သည်။ လူတို့အနေဖြင့် ''ကျွန်ုပ်တို့မသိမြင်ခဲ့ရပါ၊ ဘဝနှင့် ပတ်သက်သော ခံယူချက်တွင် အမှားနှင့် အမှန်ကို ခွဲခြားနိုင်ခြင်းမရှိ'' ဟူသောစကားပြောမရအောင် တင်ပြနိုင်ရပါမည်။ ဤသည်ကို ရှင်းလင်းစွာ ဖွင့်ဆိုပြသခြင်း၊ (ဝါ) ''အသ်မာမ်ဟုဂျ်ဂျသ်''ဟုခေါ် ပါသည်။

အိဇ်ဟာရ်ပေါ်လွင်အောင်ပြုခြင်းသည် ဖော်ပြပါထက် မြင့်မားသော အဆင့်ဖြစ်သည်။ ဤသည် လောကသားတို့ အတွက် စဉ်းစားဆုံးဖြတ်မှုပြုရာတွင် လွှမ်းမိုးသော ဒဿနအသိဖြစ်ရပါမည်။ ယင်းဒဿနအမြင် ရှေ့မှောက်တွင် အခြားသော အသိအမြင်သည် နိမ့်ကျပြီး အရေးမပါသောအမြင်ဖြင့် ရှုမြင်ရမည်ဖြစ်သည်။ ဤသို့တင်ပြနိုင်ခြင်းကို 'အေလာ ကလာမ သုလ္လဟ်'(ဝါ) အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက် စကားရပ်ကို လွှင့်ထူကြွေးကြော်ခြင်းဟု ခေါ်သည်။

ဤဖော်ပြပါ အိဗ်ဟာရ်ဒိင်န် (ဝါ) အေလာကလာမသုလ္လဟ်၏ ဆိုလိုရင်းက အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက် တရားကို ပြဋ္ဌာန်းခြင်းမဟုတ်ပါ။ ယင်းကို လူတို့၏အသိခံယူမှုတွင် လွှမ်းမိုးသွားအောင်ပြုရေးပင်ဖြစ်သည်။ ဤအချက်ကို ဥပမာအားဖြင့် ဖော်ပြရလျှင် မျက်မှောက်ခေတ်ကာလတွင် ဆန်းသစ်သော ပညာရပ်များသည် မိရိုးဖလာဆိုင်ရာ အသိများ ပေါ်တွင် လွှမ်းမိုးသွားသကဲ့သို့ပင်ဖြစ်သည်။

မျက်မှောက်ခေတ်တွင် အရင်းရှင်တို့၏ ထိန်းချုပ်ထားမှုကို ဆိုရှယ်လစ်အသိက လွှမ်းမိုးခဲ့ရသည်။ ပဒေသရာဇ်သက်ဦးဆံပိုင် အာဏာရှင်တို့အပေါ်တွင် ဒီမိုကရေစီစနစ်ဆိုင်ရာ အသိက လွှမ်းမိုးလာခဲ့သည်။ စိတ်ကူးယဉ်ဖြင့် မှန်းဆချက်ပညာရပ်များ အပေါ်တွင် လက်တွေ့ယထာဘူယျနည်းကျဆန်းစစ်မှုက လွှမ်းမိုးလာခဲ့သည်။ ပညာရပ်ဆိုင်ရာတွင်ပင်လျှင် အချို့သော ပညာရပ်များသည် အပေါ်စီးလွှမ်းမိုးခဲ့ရသည်။ ဤသို့ပင် အချို့သော ပညာရပ်များ သည် သူတို့၏ ထိန်းချုပ်ထားမှုကို စွန့်လွှတ်ခဲ့ရသည်။ ဤကဲ့သို့ပင် ဒိင်န်ဟက်နှင့် ပတ်သက်သော အသိတရားသည် ဒိင်န်ဗာသိလ်ပေါ်တွင် အပေါ်စီး ထိန်းချုပ်ရမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် မည်သည့်အရာကိုမဆို ဖြစ်ထွန်းစေနိုင်သော အနန္တစွမ်းအားရှင်ဖြစ်တော်မူသည်။ သို့ဖြစ်၍လည်း ဟက်အမှန်တရားကို အားလုံးပေါ်တွင် ပြဋ္ဌာန်းနိုင်စွမ်းရှိသည်။ ဥပမာအားဖြင့် နေ၏အလင်းရောင်ကို ပထဝီမြေကြီးပေါ်ရှိအားလုံးသောရာများပေါ်သို့ သက်ရောက်စေသကဲ့သို့ ဖြစ်သည်။

သို့ရာတွင် ဤဒွန်နိယာလောကကြီးသည် လူသားတို့အဖို့ရာတွင် ဆန်းစစ်ရာ စစ်ကျော်သည် နေရာဖြစ်သည်။ ဤလောကကြီးတွင် အလ္လာဟ်အရှင်မြတ်သည် လိုအပ်ဖြစ်ထွန်းစေလိုသော အရာများကို အကြောင်းရင်းခံအဖြစ်ထားရှိသည်။ ဤသည်ကို တန်ခိုးတော် သဘာဝလွန်ဖြစ်ရပ်အဖြစ် ဖော်ပြခြင်းမရှိပါ။ သို့ဖြစ်၍လည်း အလ္လာဟ်အရှင်မြတ်သည် အကြောင်းရင်းခံ၏ ဘောင်အတွင်း ရည်ရွယ်ချက်၏ လိုအပ်ချက်အားလုံးကို အခြေအနေအဖြစ် ဖန်တီးထား လိုက်ခြင်းဖြစ်သည်။ ယင်းနောက် လူသားတို့ထံသို့ လမ်းပြပုဂ္ဂိုလ် တမန်တော်ကို စေလွှတ်ကာ

ယင်းအချက်အလက်များအပေါ်တွင် လွှမ်းမိုးနိုင်စွမ်း ကို ပေးထားခြင်းဖြစ်ပေသည်။

တမန်တော်မြတ်တို့သည် အလ္လာဟ်အရှင်မြတ်၏ စနစ်ဇယား၊ ပုံဖော်မှုတွင် ပါဝင်ပြီး ဟက်အမှန်တရားကို ကြွေးကြော်ခြင်းပြုသည်သာမက ဟက်ကို ထင်ရှား အောင်ပြုခြင်းလည်းရှိသည်။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်၏ နာခံတော် တို့အတွက် အလ္လာဟ်အရှင်မြတ် နေအိမ်မသိအကျိုးတရားများ ကျရောက်လာပြီး ယင်းသူတို့အတွက် ဘရကာသ်ပွားများလာမှုတို့၏ တံခါးအားလုံးပွင့်လာပြီး အတိတ် က မှားယွင်းသော လုပ်ဆောင်မှုကြောင့် ပိတ်နေသော တံခါးများ ဖွင့်ပြီးသား ဖြစ်ရမည်ဖြစ်သည်။ ဤအချက်ကို ကျမ်းတော်မြတ်ကုရ်အာန်က အောက်ပါအတိုင်း ဖော်ပြထားသည်။

**يريدون ليطفئوا نور الله بأفواههم والله متم نوره ولو كره الكافرون(8) الذي أرسل رسوله بالهدى ودين الحق ليظهره على الدين كله ولو كره المشركون(9)**

ကာဖိရ်တို့သည် အလ္လာဟ်အရှင်မြတ်၏နူရ်ရောင်ခြည်ကို မိမိတို့၏ ပါးစပ် လေဖြင့် ငြိမ်းသတ်လိုကြ၏။ သို့ရာတွင် ကာဖိရ်သွေဖည်ငြင်းပယ်သော သူများမည်၍ မည်မျှပင် မနှစ်မြို့ကြငြားသော်လည်း အလ္လာဟ်အရှင်မြတ်မှာ မူကား မိမိနူရ်ရောင်ခြည်ကို ပြည့်ဝစုံလင်အောင်လင်းထိန်းစေတော်မူမည်သာဖြစ်၏။

ထို အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် မိမိ၏ ရစူလ်တမန်တော်အား တရားလမ်းညွှန်နှင့်စစ်မှန်သော သစ္စာတရားတည်ဟူသောဒိင်န်အားဖြင့် ယုံကြည်ချက် အလုံးစုံ တို့ထက်ဝယ် လွှမ်းမိုးစေတော်မူအံ့ စေလွှတ်တော်မူခဲ့ပေသတည်း။

ကုရ်အာန်–၆၁း၈–၉

တမန်တော်မြတ်မုဟမ္မဒ် ﷺ က မိန့်တော်မူသည်မှာကျွန်ုပ်သည် အိဗ်ရာဟိမ်၏ တောင်းဆုတော်ဖြစ်သည်ဟု ဆိုခဲ့သည်။ انادعوة ابراهيم

အိဗ်ရာဟိမ်နဗီသည် ကာဗာကျောင်းတော်ကြီးကို တည်ဆောက်ချိန်တွင် အောက်ပါတောင်းဆုတော်ကို ပြုခဲ့သည်။ "အို–အလ္လာဟ်အရှင်မြတ်၊ ကျွန်ုပ်၏ သားအိဗ်မာအိလ်၏ မျိုးဆက်မှ သစ်လွင်သောနဗီတစ်ဦးကို ပေါ်ထွန်းစေတော်မူပါ။

(၂း၁၂၉)၊ သို့ရာတွင် အိဗ်ရာဟိမ်နဗီ၏ ဆုမွန်တောင်းခံချိန်နှင့် တမန်တော်မြတ်မုဟမ္မဒ် ﷺ ၏ မွေးဖွားသန့်စင်ချိန်သည် နှစ်ပေါင်းအားဖြင့် (၁၅၀၀) မျှကြာမြင့်သည်။

သတိပြုသင့်သော အချက်တစ်ခုက ရှိပါသည်။ ဇာကရိယာနဗီသည်လည်း သူ၏ မျိုးဆက်မှ နဗီတမန်တော်တစ်ဦးပေါ်ထွန်းဖို့ ဆုမွန်တောင်းခံခဲ့ရာ တစ်နှစ်အကြာတွင် ယဟ်ယာနဗီသည် မွေးဖွားခဲ့သည်။ (အာလေအိမ်ရာန်း၃၉)၊ အိဗ်ရာဟိမ်နဗီ၏ ဆုမွန်ပြည့်ဝလာချိန်သည် နှစ်ပေါင်း(၁၅၀၀)မျှ ကြာမြင့်ခြင်း၏ အကြောင်းရင်းခံ ကွာခြားချက်ကို သိမြင်သတိပြုအပ်သည်။

ယဟ်ယာနဗီသည် အချိန်ပိုင်းအတွက် ပေါ်ထွန်းလာသော တမန်တော်မြတ်ဖြစ်သည်။ ယဟ်ယာနဗီကို စေလွှတ်ပို့ချ ခြင်း၏ ရည်ရွယ်ချက်က အိစ်ရေလီ အနွယ်ဝင်တို့၏ ဆိုးသွမ်းမှုကို ဖော်ထုတ်ပြသရန်ဖြစ်သည်။ ယဟူဒီနွယ်ဝင်တို့၏ လက်ချက်ဖြင့် ယဟ်ယာနဗီလုပ်ကြံသတ်ဖြတ်ခံခဲ့ရသည်။ ဤသည် အိစ်ရာအီလီနွယ်ဝင်တို့သည် နဗူဝသ်နှင့် မထိုက်တန်တော့၊ သို့ဖြစ်၍ အခြားနွယ်ဝင် လူမျိုးစုတို့ကို အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်တော်ကို ထမ်းဆောင်ထမ်းရွက်ရေး တာဝန်ပေးရန်ဖြစ်သည်။

ယင်းသူတို့နှင့် ယှဉ်ပြိုင်ဖြစ်ထွန်းလာမည့် တမန်တော်မြတ်မုဟမ္မဒ် ﷺ ၏ တာဝန်က ရှိရိက်ကို နှိမ်နင်းအောင်ပြုပြီး သောင်ဟီဒ်သဘောတရားကို လူတို့၏ တွေးခေါ်မှုတွင် ဆွဲမှတ်နိုင်အောင် ပြုရေးပင်ဖြစ်သည်။ ဤတာဝန်ရပ်ကို လက်ဆင့်ကမ်းနိုင်မည့် အရည်အချင်းနှင့် ပြည့်စုံသော လူ့အဖွဲ့အစည်းတစ်ရပ်နှင့် ယင်းကို ပျိုးထောင်ပေးမည့် လူမျိုးစုသန့်တစ်ရပ်ကို ဘောင်ခတ်ပေါ်ပေါက်လာ အောင်ပြုရပါမည်။ ဤသို့ သစ်လွင်သော လူမျိုးစုတစ်ရပ်ကို ဖန်တီးပျိုးထောင်ဖြစ်ထွန်းလာစေဖို့ရန် အလ္လာဟ်အရှင်မြတ်၏ စနစ်ဇယားသည် နှစ်ပေါင်း(၁၅၀၀)မျှ အချိန်ယူတည်ဆောက်ခဲ့ခြင်းဖြစ်သည်။

ဤစနစ်ဇယားကို ဖြစ်ထွန်းလာစေဖို့ရန် အိဗ်ရာဟိမ်နဗီကို ယဥ်ကျေးတိုးတက်လှသော ဘယ်ဘီလုံးအီရာဒ်ဒေသမှသည်ခြောက်သွေ့ လူသူနည်းပါးလှသော

ဟိဂျပ်စ်နယ်သို့ သွားရောက်စေသည်။ ယင်းနောက် ဇနီးသည် ဟာဂျရာနှင့် သားဖြစ်သူ အိစ်မာအိလ်ကို ယင်းဒေသတွင် နေထိုင်စေခဲ့သည်။ ( ၁၄း၃၇)

ဤဟိဂျပ်စ်နယ်တွင် လူသူကင်းမဲ့ပြီး ဖွံ့ဖြိုးမှုမဲ့သော ဒေသဖြစ်ပြီး ကျွန်ကမ္ဘာကြီးနှင့် အဆက်အသွယ်မဲ့ပြတ်နေသည်။ ဤနေရာတွင် အခြားယဉ်ကျေးမှု ပယောဂမပါရှိသော သန့်ပြန့်သော လူ့အဖွဲ့အစည်းတစ်ရပ်ကို တည်ဆောက်စေ နိုင်သည်။ ယင်းလူ့အဖွဲ့အစည်းဝင်တို့တွင် အလ္လာဟ်အရှင်မြတ်၏ သဘာဝ အခြေအနေဖယားဖြင့် ကြီးပြင်းသော အရည်အချင်းကို ဖြစ်ထွန်းစေရမည်ဖြစ်သည်။

**ربنا واجعلنا مسلمين لك ومن ذريتنا أمة مسلمة لك**

အို–ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသော အရှင်၊ အရှင်သည် ကျွန်တော်မျိုးတို့အား မိမိ၏အမိန့်တော်ကိုခံယူသူမှစ်လင်မ်နှစ်ဦးဖြစ်စေတော်မူပါ၊ ထိုနည်းတူစွာ ကျွန်တော်မျိုးတို့၏ သားစဉ်မြေးဆက် ကိုလည်း အရှင်၏ အမိန့်တော်ကို နာခံကြသူ မှစ်လင်မ်များ ဖြစ်စေတော်မူပါ။(၂း၁၂၈)

ဤဆုမွန်ကို ပြည့်ဝစေမှုကို ဖြစ်ထွန်းစေဖို့ရန် နှစ်ပေါင်း(၁၅၀၀)မျှ ကြာမြင့်ရခြင်း၏ အဓိပ္ပာယ်က ဘောင်ခတ်ထား သော ပြင်ပဩဇာအာဏာမဲ့ပြီး ပြင်ပယဉ်ကျေးမှုလွှမ်းမိုးမှုမရှိသော သန့်ပြန့်သော ဩဇာရှိသည့် လူ့အဖွဲ့အစည်း တစ်ရပ်ကို ပေါ်ထွန်းလာစေဖို့ရန်ဖြစ်သည်။ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်၏ စစ်မှန်သော နာခံတော်အဖြစ် တည်ရှိရမည်ဖြစ်သည်။ ယင်းသူတို့သည် သက်ရှင်လှုပ်ရှားမှုပြည့်ဝသော လူ့အဖွဲ့အစည်းဖြစ်ရပါမည်။

ထို့ပြင်မှက အတိတ်ကာလကရှိသော အတုအယောင်များဖြင့် ချုံ့ချထား သောယုံကြည်သူတို့ အသွင်လည်း မဖြစ်စေရ ဤသို့အဖက်ဖက်မှ အရည် အချင်းနှင့် ပြည့်စုံသော စနစ်ဖယားများ ပြည့်ဝလာသောအခါကမ္ဘာဇာတ်ခုံကားချပ်တွင် ဗနူဟာရှင်မ်မျိုးနွယ်ဝင်တို့မှာ အာမေ့နဟ်တည်းဟူသော အမျိုးသမီးမိခင်၏ ဝမ်းမှာ အနာဂတ်ကိုလွှမ်းမိုးမှု စွမ်းအားပြည့်ဝစွာရှိသောတမန်တော်မြတ်ကြီး ﷺ ကို မွေးမြူ သန့်စင်စေခဲ့ပါသည်။ ဤသည် အိဗ်ရာဟိမ်၏ ဆုမွန်တော်ကို ပြည့်ဝစေခြင်း ကပင်ဖြစ်တော့သည်။

အိဗ်ရာဟိမ်နဗီက အလ္လာဟ်အရှင်မြတ်၏ အမိန့်ဖြင့် ဟိဂျပ်စ်နယ်သို့ ခေါ်ဆောင်လာခဲ့သည်၊ ဟာဂျရာသခင်မနှင့် သားဖြစ်သူအိစ်မာအိလ်ကို လူသူခေါင်းပါး လှသော ခြောက်သွေ့သောမြေပြင်၊ မြင့်မားသော ကျောက်တုံးများဖြင့် တည်ရှိသောတောင်တန်းကြီးမှအပ ဘာမျှမရှိသောနေရာတွင်ထားခဲ့သည်။ ယူဆောင်လာခဲ့သော သောက်သုံးရေကုန်ဆုံးသွားသောအခါ ကလေးငယ်အိစ်မာအိလ် သည် ရေဆာလွန်းလှ၍ လက်များခြေများကို မြေကြီးပေါ် လွဲရိုက်ခတ်ကာ ရေတောင်းဆိုနေသည်။ ထိုစဉ် အလ္လာဟ်အရှင်မြတ်က ဤခြောက်သွေ့သောလွင်ပြင်မြေအတွင်းမှာ ဇမ်ဇမ်တည်းဟူသော ရေကိုပန်းထွက်စေခဲ့သည်။

ဤ ခက်ခဲလှသော လုပ်ငန်းဆောင်တာကို ဆောင်ရွက် ရန်းကန်လှုပ်ရှားမှုကို ပြုခဲ့ရသော်လည်း အလ္လာဟ်အရှင်မြတ်သည် ဘယ်တော့အခါမျှ အမှီအခိုမဲ့သော အားကိုးမဲ့သော အခြေအနေကို မရောက်အောင် ထိန်းသိမ်းပေးခဲ့သည်။ သာဓကတော်ပင် ဖြစ်ပေသည်။ ဤလုပ်ဆောင်မှုအဝဝသည် အလ္လာဟ်အရှင်မြတ်၏ စေခိုင်းမှုမှဖြစ်ရ၍ အလ္လာဟ်အရှင်မြတ်သည် အခက်အခဲနှင့် တွေ့ရှိရချိန်တိုင်းတွင် ကူညီပေးသည် သက်သေသာဓကလည်းဖြစ်ပြန်သည်။

အိစ်မာအိလ်နဗီသည် အရွယ်ရောက်လာသောအခါ ဖခင်အိဗ်ရာဟိမ်နဗီက သားဖြစ်သူကို ဇဗာလိုးဖြတ်နေကြောင်း အိမ်မက်မက်၏။ အိဗ်ရာဟိမ်နဗီအနေဖြင့် ဤသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ စေခိုင်းချက်အဖြစ်သတ်မှတ်ယူလျက် သားဖြစ်သူ အိစ်မာအိလ်ကို ဇဗာလိုးဖြတ်ရန် စိုင်းပြင်နေစဉ်အခိုက် အလ္လာဟ်အရှင်ထံတော်မှ သားကောင်းတစ်ကောင်သည် သားတော်ကိုယ်စားလိုးဖြတ်ခံနေကြောင်းကို တွေ့လိုက်ရသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ စိတ်ဓါတ်ရေးရာ ဆန်းစစ်မှုတစ်ရပ်ဖြစ်ကြောင်းတွေ့ရသည်။ စင်စစ်အားဖြင့် အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့မှတစ်ဆင့် ကြီးမားလှသော တာဝန်တစ်ရပ်ကို စေခိုင်းရန် ရှိနေ၍ဤသို့စမ်းသပ်ခြင်းဖြစ်သည်။

အိစ်မာအိလ်နဗီသည် အရွယ်ရောက်သောအခါ ဂျုရ်ဟမ်မျိုးနွယ်စုမှ အမျိုးသမီးတစ်ဦးကို အိမ်ထောင်ပြုခဲ့သည်။ ယင်းမျိုးနွယ်စုဝင်တို့သည် ဇမ်ဇမ်ရေတွင်

ပေါ်ထွန်းလာပြီးနောက် မက္ကာဟ်မြို့တော်သို့ ရွှေ့ပြောင်းလာခဲ့သောသူတို့မှ ဖြစ်သည်။ အိဗ်ရာဟိမ်နဗီသည် ဆီးရီးယားနိုင်ငံတွင် နေထိုင်သူဖြစ်၍ သားနှင့်တွေ့ဆုံရန် မက္ကာဟ်မြို့သို့ လာရောက်လေ့ရှိသည်သည်။ သူလာရောက်ချိန်တွင် သားဖြစ်သူ အိစ်မာအိလ်သည် ခရီးလွန်နေ၍ မတွေ့ဖြစ်ခဲ့၊ ချွေးမဖြစ်သူနှင့်သာ ဆုံတွေ့ခဲ့ရသည်။

အိဗ်ရာဟင်မ်နဗီ ၏ မေးမြန်းချက်အရ ချွေးမဖြစ်သူက သူတို့၏မိသားစု အနေဖြင့် ကျပ်တည်းစွာနေထိုင်ရကြောင်း အိမ်ထောင်ရေး အခြေအနေနှင့်တကွ အဖြေပေးခဲ့သည်။ အိဗ်ရာဟိမ်နဗီက ချွေးမဖြစ်သူအား အိမ်မာအိလ်လာလျှင် အိမ်တံခါးလဲပစ်ရန် မှာကြားပြီး ဆီးရီးယားနိုင်ငံသို့ ပြန်လည်ထွက်ခွာသွားသည်။

အိစ်မာအိလ်နဗီသည် ခရီးမှပြန်လာပြီးနောက် အကြောင်းစုံကို သိရှိရပြီး ဖခင်၏ စေခိုင်းချက်ဖြစ်သော အိမ်တံခါးလဲ ပစ်ရန် ဟူသည် သူ၏အိမ်ထောင်ဖက် သည် မျိုးဆက်သစ်တစ်ရပ်ကို ဦးဆောင်နိုင်စွမ်းမရှိဟု မြင်၍ နောက်ထပ်သင့် လျော်သောအရည်အချင်းရှိသည့် အိမ်ထောင်တစ်ရပ်ကို ထူထောင်ရန် မှာကြားချက် ဟု သိမြင်ခဲ့သည်။ သို့ဖြစ်၍ နောက်ထပ်အိမ်ထောင် တစ်ခုကိုပြုခဲ့ရာ အိဗ်ရာဟိမ်နဗီ နောက်တစ်ကြိမ်တွင်လည်း သားဖြစ်သူနှင့် မတွေ့ခဲ့၊ ဇနီးသည်အသစ်နှင့်သာ တွေ့ဆုံစကား ပြောခဲ့ရသည်။ ယင်းဇနီးသည်သစ်က သူတို့၏ အိမ်ထောင်ရေးနှင့် စီးပွားရေးအပါအဝင် လူမှုအခြေအနေတိုးတက်စွာ ရှိနေကြောင်း ပြောပြခဲ့သည်။ အိဗ်ရာဟိမ်နဗီက ဤတံခါးကို ဆက်လက်ထားရှိပါဟု မှာကြား၍ ပြန်သွားခဲ့သည်။

ဤဖြစ်ရပ်သည် သေချာစွာ သုံးသပ်လေ့လာသော သူတို့အတွက် သိမြင် စရာရှိသည်။ အိမ်ထောင်ဖက်ဟူသည် အိမ်၏အရှင်ဖြစ်ပြီး အိမ်၏ တိုးတက်ကြီးပွား မှုသည် ယင်းသူမနှင့် သက်ဆိုင်သည်။ အိမ်ထောင်ဖက်သည် မျိုးဆက်သစ် တစ်ရပ်ကို ပျိုးထောင်ပေးရ မည့်တာဝန်လည်းရှိနေသည်။

ဤသို့အားဖြင့် ကျန်ကမ္ဘာကြီးနှင့် လုံးဝအဆက်ပြတ်နေသော ဤဒေသကြီးတွင် အိစ်မာအိလ်နဗီ၏ သားစဉ် မြေးဆက်မှ မျိုးဆက်သစ် တစ်ရပ်ပေါ်ထွန်းလာခဲ့ရသည်။ ဤမျိုးနွယ်စုသည် ရှင်သန်ထက်မြက်သော အရည်အချင်းများဖြင့် ပြည့်စုံပြီး ယင်းမျိုးနွယ်စုမှပင် ကမ္ဘာနောက်ဆုံး

တမန်တော်မြတ် ﷺသည် ပေါ်ထွန်းလာခြင်းဖြစ်သည်။ ဤသို့ဖြင့် ကမ္ဘာသမိုင်း၏ ကြီးမားလှသော တာဝန်ရပ်ကို ထမ်းဆောင်မည့် ပုဂ္ဂိုလ်မြတ်ကို အလ္လာဟ် အရှင်မြတ်၏ စနစ်ဇယားက တာဝန်ပေးအပ်နှံခဲ့သည်။

ဤမြင့်မာလှသော ကျောက်တောင်တို့စပ်ကြား သဲကန္တာရကြီးတွင် ကမ္ဘာလူသားတို့နှင့် အဆက်ပြတ်စွာတည်ရှိနေသော အရပ်မျိုးနွယ်စု၏ ကြီးမားလှသော ဂုဏ်ရည်လက္ခဏာတစ်ရပ်က 'အလ်မရ်ုအရာ' ဟုဆိုကြသည်။ المروءة ၏ အဓိပ္ပာယ်က ယောက်ျားပီသမှု အရည်အချင်းပင်ဖြစ်သည်။ ဤသည် အရပ်တို့၏ ထုံးတမ်းစဉ်လာအရ လူတို့ကို ချီးကျူးရာတွင် အမြင့်မားဆုံးသော ဖွဲ့ဆိုသော ဂုဏ်ရည်ပင်ဖြစ်သည်။ ဂျဟိလီယတ်ခေတ် ကဗျာဆရာတစ်ဦး၏ ကဗျာတွင် ဤသို့ ဖွဲ့ဆိုထားသည်။ اذا المرء اعيته المروءة ناشئا

فمطلبها كهلا عليه شديد

"လူသည် လူ့အရွယ်၏ နုပျိုစ ပျိုးထောင်လာစဉ်တွင် ယောက်ျားပီသမှု အရည်အချင်းကို မမွေးနိုင်ခဲ့လျှင် အသက်အိုရင့်ချိန်တွင် ယင်းအရည်အချင်းကို ရယူရန် အလွန်ခက်ခဲမည်ဖြစ်သည်။"

ပါမောက္ခ ဖိလစ် ကေ ဟိတ္တိ သည် အရပ်တို့အကြောင်းကို အထူးပြုပြီး လေ့လာသုတေသနပြုခဲ့သော ပါရဂူကြီးတစ်ဦးဖြစ်သည်။ သူ၏ကျမ်း၊ စာမျက်နှာ(၂၅၃)တွင် ရေးသားထားပုံက "အာရေဗျ၏ လူသူကင်းမဲ့သော ကန္တာရကြီးတွင် ရာစုနှစ်ပေါင်းများစွာပျိုးထောင်ခြင်းမှာ ဖြစ်လာသော လူမျိုးနွယ်သည် အခြားသော ကမ္ဘာအရပ်ရပ်ရှိ လူမျိုးနွယ်ဝင်တို့နှင့် ကွာခြားလွန်းလှသည်။ သတ္တိရှိခြင်း၊ အခက်အခဲတွေ့ချိန်တွင် ကြံ့ကြံ့ခံ ရင်ဆိုင်နိုင်ခြင်း အိမ်နီးနား ချင်းတို့အား အခွင့်အရေးပေး ဆက်ဆံခြင်း၊ တာဝန်ရပ်များကို တိကျစွာဆောင်ရွက်တတ်မှု၊ ရဲစွမ်းသတ္တိနှင့်ပြည့်စုံခြင်း၊ ရက်ရောတတ်မှု၊ ဧည့်သည်ကို လိုလေသေးမရှိ ဧည့်ခံပြုစုတတ်မှု၊ အမျိုးသမီးကို စောင့်ရှောက်တတ်မှု၊ ကတိတည်မှုနှင့် ကတိကို ပြည့်ဝစွာ ထမ်းဆောင်တတ်မှုသည်သူတို့၏ ဂုဏ်ထူးဒေသနာများဖြစ်ကြသည်။"

## ကောင်းမြတ်သော လူ့အဖွဲ့အစည်း

ဤသို့အားဖြင့် နှစ်ပေါင်း(၁၅၀၀)မျှ ပျိုးထောင်ပေးမှုကြောင့် လူ့အဖွဲ့အစည်းတစ်ရပ်ပေါ်ထွန်းလာခဲ့သည်။ ယင်းလူ့အဖွဲ့အစည်းသည် သူတို့၏ သီးခြားဂုဏ်ရည်လက္ခဏာများကြောင့် လူ့အဖွဲ့အစည်းအားလုံးပေါ်တွင် ထွတ်မြတ်သော အဆင့်ကို ရရှိခဲ့သည်။ كنتم خير امة اخرجت للناس

ဆွဟာဗီကြီးလည်းဖြစ်၊ သဖ်ဆီရ်ရှင်ကြီးလည်းဖြစ်သော အဗ်ဒုလ္လာဟ် ဘင်န်အဗ္ဗာစ် ﵁ က خير امة ဟူသည် မက္ကာဟ်မြို့တွင် တမန်တော်မြတ်နှင့်အတူ ကြိုကြံခံပျိုးထောင်မှု ဖြစ်ပေါ်လာခဲ့ကြသော မုဟာဂျိရင် များကို ဆိုလိုခြင်းဖြစ်သည်ဟု သဖ်ဆီရ အိဗ်နေကဆိရ်ကျမ်းတွင် ဖော်ပြထားသည်ကို တွေ့ရသည်။ မုဟာဂျိရင်န် ဟုဆိုရသော်လည်း စင်စစ်အားဖြင့်ဆိုရသော် အာရေဗျရှိ တမန်တော်မြတ်နှင့် ထိတွေ့ဆက်ဆံပျိုးထောင်ခံခဲ့ရသော အဆွဟာဗီရှေ့လ်ကို ဆိုလိုခြင်းဖြစ်ပါသည်။

တမန်တော်တို့ကို သူ့ခေတ်သူ့ကာလအကြောင်းတစ်ခုကြောင့် အကြီးမားဆုံးသော ပိတ်ဆို့ဆန့်ကျင်မှုနှင့် ကြုံတွေ့ခဲ့ရ ခြင်းဖြစ်သည်။ ယင်းတမန်တော်မြတ်၏ ဝန်းကျင်ရှိ လူမျိုးစုဝင်တို့တွင် မူလကရှိနေသော ယုံကြည်ချက်၏ ရုပ်ပစ္စည်းများနှင့် ယဉ်ကျေးမှုဆိုင်ရာ အဆောင်အယောင်များရှိနေကြသည်။ ယင်းတို့နှင့် ဆန့်ကျင်သော ခေတ်တမန်တော်မြတ်၏ ပြဆိုချက်သည် ရှိနေသည်။ အာရေဗျဒေသတွင် ပေါ်ထွန်းပျိုးထောင်ခဲ့ရသော လူမျိုးစုသည် သစ္စာတရား၏ သွန်သင်ပြသချက်အရှိတရား ကို လက်ခံနိုင်စွမ်းရှိသူများဖြစ်ကြသည်။ ဤသည် သူတို့၏ ထူးခြားလှသော ဂုဏ်ထူးဝိသေသနပင်ဖြစ်ပေသည်။ ယင်းလူ့အဖွဲ့အစည်းဝင်တို့သည် သူတို့၏ ကိုယ်ကို မပြီးပြတ် မထင်ပေါ်သေးသော သစ္စာတရားကို ပုံအပ်နိုင်စွမ်းရှိသည်။

မိုးကောင်းကင်ကြီးအောက်ဝယ် ကျယ်ပြန့်လှသော သဲကန္တာလွင်ပြင်ကြီးတွင် ပျိုးထောင်ပေးခြင်းခံရသော ဤလူ့အဖွဲ့ အစည်းဝင်တို့သည် နက်ရှိုင်းလှသော အသိနှင့် စွမ်းဆောင်ချက်များနှင့် ပြည့်ဝသူများဖြစ်ကြသည်။ သို့ဖြစ်၍လည်း မထင်ပေါ်မထင်ရှားသေးသော အခြေအနေတွင် ရှိနေသည့် သစ္စာတရားကို ရှုမြင်သုံးသပ်နိုင်ပြီး ယင်းအမှန်တရားတွင် သူတို့၏ ကိုယ်ကို ပုံအပ်နိုင်စွမ်းရှိလှသည်။

ယင်းသစ္စာတရားကို လက်ခံလာခြင်းအားဖြင့် မျက်မှောက်လောကကြီးတွင် မည်သည့်အကျိုးရလဒ်ကို လက်တလောခံစားရယူနိုင်မည်မဟုတ်သည်ကိုလည်း သူတို့သိကြသည်။

ဤမြင့်မြတ်လှသော အဆွဟာဗာတော်တို့၏ အရည်အချင်းကို ဆွဟာဗီကြီး အဗ်ဒုလ္လာဟ်ဘင်နိမစ်အုဒ်.က စကားဝါကျသုံးခုဖြင့် ပြည့်စုံစွာ ဖော်ပြနိုင်ခဲ့သည်။ كانوا انفضل هذه الامة ابرّها قلوباوا عمقهاعلما

واقلها تكلفا اختارهم الله لصحبة نبيه ولا قامة دينه

"အဆွဟာဗာတော်တို့သည် အုမ္မသ်လူအဖွဲ့အစည်းဝင်တို့တွင် အမြင့်မြတ်ဆုံး သောအဆင့်တွင် ရှိသည်။ အဆွဟာဗ်တော်တို့သည် အလွန်ကောင်းမြတ်သော အရည်အချင်း အလွန်မှပင် ပညာအရာတွင် ပြည့်စုံလှသူများနှင့် အားနည်းခြင်းမဲ့သူများဖြစ်ကြသည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့အား တမန်တော်မြတ်၏နည်းနာခံယူမှုအောက်တွင် အစ္စလာမ်တည်းဟူသောဘဝ တည်ဆောက်မှု ဒီင်န်ကို တည်ဆောက်ရန် ရွေးချယ်လိုက်ခြင်းခံခဲ့ရသူများတည်း။"

ရှိရိက်လွှမ်းမိုးသော အတိတ်ခေတ်ကာလက လူတို့တွင် အကြီးမားဆုံးသော ဆုံးရှုံးမှုသည်ကား အမှန်တရားကို ယထာဘူယကျနည်းကျ ရှုမြင်တတ်သော အရည်အချင်းမရှိခြင်းပင် ဖြစ်သည်။ သူတို့သည် အမှန်တရားကို မှန်းဆချက်နှင့် မျက်မြင်တွေ့ရှိချက်များပေါ်တွင်ရှုမြင်ကြသည်။ သူတို့သည် သစ္စာတရားကို ယထာဘူယ နည်းကျ စူးစမ်းလေ့လာနိုင်မှု အနေအထားမရှိ ဖြစ်နေသည်။ သို့ဖြစ်၍လည်း အစ္စလာမ်မတိုင်ခင်က ခေတ်ကာလများတွင် အလ္လာဟ်အရှင်မြတ်၏ တမန်တော်မြတ်တို့ကို ရှုတ်ချသရော်ခြင်း၊ မထိလေးစားပြုခြင်းကို ပြုခဲ့ကြခြင်းပင်ဖြစ်သည်။

ယင်းအတိတ်ကာလက လူတို့သည် အလ္လာဟ်အရှင်မြတ်ကို လက်ခံခြင်း မရှိဟူ၍မရှိခဲ့ပါ။ သို့ရာတွင် သူတို့လက်ခံသော အလ္လာဟ်ကိုလူတို့သည် ရှုမြင်တတ်မှုနှင့် အာရုံအားဖြင့် ခံစားရမှုဖြင့်သာ အသိကို ရှာခဲ့သည်။ မမြင်ရသောအရှင်ကို မသိမြင်နိုင်ခဲ့ပါ။ သို့ဖြစ်၍လည်း မြင်ရသော အရာများကို မှတည်ကာ အရှင်ကို

သတ်မှတ်ခဲ့ကြသည်။ ယင်းမြင်ရသော အရာများကို ဗဟိုပြုကာ အာရုံပြုခဲ့ကြခြင်း ဖြစ်သည်။ ဤသည် ရုပ်ဝတ္ထု၏ အံ့ဖွယ်ရာလည်းဖြစ်ခဲ့သည်။ လူပုဂ္ဂိုလ်တို့၏ မြင့်မြတ်ကိုးကွယ်မှုလည်း ဖြစ်ခဲ့ရသည်။

ဤသည်အချက်များကြောင့်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ တမန်တော်မြတ်များကို တစ်ဦးပြီးတစ်ဦး ပစ်ပယ်ခဲ့ခြင်းဖြစ်ပေသည်။ ယင်းအတိတ်ခေတ်ကာလက လူတို့၏ ရှေ့မှောက်တွင် တမန်တော်ဟူသည် သာမန်လူတစ်ဦးမျှသာ ဖြစ်ခဲ့သည်။ သူတို့အမြင်တွင် ယင်းတမန်တော်ဟု ဆိုသူတို့တွင် အတိတ်က သူတို့ယုံကြည်လာခဲ့ကြသော ယုံကြည်ချက်ဆိုင်ရာ ကဲ့သို့ရာဇဝင်မရှိခြင်း၊ ဖြစ်ရပ်များမြင်ကွင်းများမရှိဖြစ်နေသည်။ သူတို့ခေတ်က တမန်တော် လူပုဂ္ဂိုလ်တို့သည် နောင်သော အခါ ရှေးယခင်က ယုံကြည်ချက်ရာဇဝင်တွင် ပါဝင်လာခဲ့ကြသည်။

တမန်တော်မြတ်ကြီး အိဗ်ရာဟီမ်သည် သူ၏ တောင်းဆုတော်တွင် အောက်ပါအတိုင်း အလ္လာဟ်ထံတော်တွင် ဆန္ဒပြုခဲ့သည်။

**وإذ قال إبراهيم رب اجعل هذا البلد آمنا واجنبني وبني**
**أن نعبد الأصنام( 3 5 )رب إنهن أضللن كثيرا من الناس**
**فمن تبعني فإنه مني ومن عصاني فإنك غفور رحيم**
**( 3 6 )ربنا إني أسكنت من ذريتي بواد غير ذي زرع**
**عند بيتك المحرم ربنا ليقيموا الصلاة فاجعل أفئدة**
**من الناس تهوي إليهم وارزقهم من الثمرات لعلهم**
**يشكرون( 3 7 )**

အိုကျွန်ုပ်တို့၏ရှင်အရှင်၊ ဤမြို့တော်ကိုငြိမ်းချမ်း သောဒေသဖြစ်စေပါ၊ ကျွန်ုပ်နှင့် တစ်ကွကျွန်ုပ်၏အနာဂတ်မျိုးဆက်ကို ဘုရားတုဘုရားယောင်တို့မှဝေလံစွာ ထားရှိစေပါ၊

အိုကျွန်ုပ်တို့၏ရှင်၊ ဤဘုရားတုဘုရားယောင်ကိုရှိခိုးကပ်မှုကြောင့် များပြောင်လှစွာသော လူသားတို့သည် လွဲမှားသောအနေအထားသို့ ရောက် ရှိခဲ့ရပြီးဖြစ်သည်၊ ကျွန်ုပ်

၏သွန်သင်ပြသချက်ကို နားခံကြသောသူတို့သည် ကျွန်ုပ်တို့မှဖြစ်သကဲ့သို့ ကျွန်ုပ်၏စကားကို သွေးဖီးကြသူတို့သည်ကျွန်ုပ်တို့မှမဟုတ်ကြပါ၊သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အလွန်တရားလွတ်ငြိမ်းချမ်းသာခွင့်ပြုပေးသောအရှင်၊ အလွန်တရား သနားကြင်နာ ညှာတာသောအရှင်ဖြစ်တော်မူသည်။

အိုကျွန်တော်မျိုးတို့၏ရဗ်– ကျွန်တော်မျိုး၏မိသားစုကိုအရှင်၏မြင့်မြတ်လှသော အိမ်တော်ပါး၏ လယ်ယာကိုင်းကျွန်းဖြစ်ထွန်းခြင်းမရှိသော တောင်ကြားလွင်ပြင်တွင် ထားခဲ့ပါသည်။

အို–ကျွန်တော်မျိုးတို့၏ရဗ်–ဤသို့ထားခဲ့ရခြင်း၏ရည်ရွယ်ချက်သည်ကား ယင်းသူတို့သည် ဆွလာသ်တည်ဆောက်ကြရန်ဖြစ်သည်၊သို့ဖြစ်ပေရာ အရှင်သည် ယင်းသူတို့၏အာရုံကိုအရှင်ဖက်သို့ယိမ်းညွှတ်စေတော်မူပါ၊ ထို့ပြင်အရှင်၏ ကျေးဇူးတော်ကို သိမြင်စေခြင်းငှာယင်းသူတို့ကို စားနပ်ရိက္ခာ ပေါကြွယ်ဝစေတော်မူပါ။

(၁၄း၃၅–၃၇)

အိဗ်ရာဟီမ်နဗီ၏ ခေတ်ကာလတွင် ရှိရိက်၏ ဩဇာလွှမ်းမိုးမှုသည် အထွတ်အထိပ်သို့ ရောက်ရှိနေပြီးဖြစ်သည်။ နတ်ကွန်းကြီးများကို ခမ်းနားစွာ တည်ဆောက်ထားသည်ကို နေရာဒေသအနှံ့ တွေ့မြင်နေရသည်။ လူတို့အဖို့ စဉ်းစားတွေးခေါ်မှုပြုရာတွင် ယင်းလွှမ်းမိုးချုပ်ကိုင်ထားသော ရှိရိက်ကို ကျော်ဖြတ်၍ မပြုနိုင်တော့ပါ။ဤသို့သောအခြေအနေတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်လမ်းညွှန်ချက်အရ အိဗ်ရာဟီမ်နဗီသည် လွင်ပြင်ခေါင်းစိုက်သော သဲကန္တာရကြီးတွင် မျိုးဆက်သစ်တစ်ခုကို ပျိုးထောင်နိုင်စေဖို့ရန် စီမံကိန်းချမှတ်ခဲ့သည်။

ဤလူသူတို့နှင့် ဆက်စပ်မှုမရှိသော ခေါင်းခိုက်သောဒေသတွင် ပျိုးထောင်ခြင်းခံရသူတို့သည် ပြင်ပဩဇာဒေသနများ၏ ထိန်းချုပ်မှုမပါပဲ၊ အဆင့်မြင့်မားစွာ တွေးခေါ်ဆင်ခြင်ဆုံးဖြတ်နိုင်ရန် ကြိုးပမ်းခြင်း ချမှတ်ခြင်းဖြစ်သည်။ ဤပျိုးထောင်ခြင်းမှ ဖြစ်ပေါ်လာသော လူ့အဖွဲ့အစည်းမျိုးစု ကြားမှ နဗီတမန်တော်မြတ်နှင့် ပတ်သက်၍ ကျမ်းတော်မြတ်ကုရ်အာန်က အောက်ပါအတိုင်း ဖော်ပြထားသည်ကို တွေ့ရသည်။

ن الله حبب إليكم الإيمان وزينه في قلوبكم وكره إليكم الكفر والفسوق والعصيان أولئك هم الراشدون

သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အတွက် 'အီမာန်' သက်ဝင်ယုံကြည်မှုကို နှစ်သက်မြတ်နိုးစေတော်မူခဲ့၏။ ထို့ပြင် ယင်း'အီမာန်' ယုံကြည်မှုကို အသင်တို့၏စိတ်နှလုံးများတွင် မြတ်နိုးစေတော်မူခဲ့၏။ လှပ တင့်တယ်စေတော်မူခဲ့၏။ထို့မှတပါး ထိုအရှင်မြတ်သည် အသင်တို့အား 'ကုဖ်ရ်' သွေဖည်မှုကိုလည်းကောင်း၊ ပြစ်မှုကျူးလွန်ခြင်းကို လည်းကောင်း၊အမိန့်မနာခံမှုကိုလည်းကောင်း၊ စက်ဆုပ် စေတော်မူခဲ့၏။ယင်းကဲ့သို့သော သူတို့သည်သာလျှင် လမ်းမှန် ကို ရရှိသူများ ဖြစ်ကြကုန်၏။(၄၉း၇)

ဤဖော်ပြပါ ကျမ်းတော်မြတ်ကုရ်အာန်၏ အာယတ်တော်ကို သိမြင်သဘောပေါက်စေဖို့ရန် နှစ်ပေါင်း(၁၄၀၀)မျှသော အချိန်မတိုင်ခင်က အခြေအနေကို သိမြင်အောင်ပြုမှသာလျှင်ဖြစ်မည်။ တမန်တော်မြတ်၏အဆွေဟာဗ် ရဲဘော်ရဲဘက်တို့သည် များပြောင်လှစွာသော ကိုးကွယ်ရာအရှင်တို့စပ်ကြားတွင် မမြင်ရသော အရှင် အလ္လာဟ်အရှင်မြတ်ရှာကြံတွေ့ရှိလက်ခံခဲ့ကြသည်။ ထို့မှ အလ္လာဟ်အရှင်မြတ်ကိုသာလျှင် သူတို့အတွက် အားကိုးအားထားအဖြစ် ပုံအပ်ခဲ့ကြသည်။ ထင်ပေါ်ထင်ရှားနေသော အမှတ်အသားတို့စပ်ကြားတွင် အမှတ်အသားအဖြစ် သမိုင်းမတွင်ရစ်သေသော တမန်တော်မြတ်ကို သိမြင်ခဲ့ကြသည်။

ထိုစဉ်ကာလက အားနည်းပြီး ဆင်းရဲစုတ်ပြတ် အစိမ်းသက်သက်ဖြစ်သော ယုံကြည်ချက်တစ်ရပ်ကို ယင်းသူတို့က နှစ်ခြိုက်စွာ လက်ခံပြီး ယင်းယုံကြည်ချက်အတွက် မိမိကိုယ်ကို စတေးခံခြင်းကိုပင် ဝန်မလေးတော့ပါ။ ဤယုံကြည်ချက်သည် ထိုစဉ် ကာလ၏သမိုင်းတွင်ရစ် နေရာယူနိုင်လောက်သော အနေအထားမရှိသေးပါ။ ထို့မှတစ်ပါး လူ့အဖွဲ့အစည်းတစ်ရပ်က ဂုဏ်ယူ ဝင့်ကြွားစွာ ခံယူဖော်ပြနိုင်သော အဆင့်တွင်လည်း မရှိသေးပါ။ ယင်းဆွဟာဗတို့သည် ဤယုံကြည်ချက်အတွက် စွန့်လွှတ်ရမည့်အရာများသာလျှင် ရှိသည်။ ဤလောကဒွန္နီယာကြီးတွင် ပြန်လည်၍ အကျိုးအမြတ်ရရှိမည်ဟူသော သက်သေသာဓက အာမခံချက်လည်း မတွေ့ရ

သေးပါ။

ဤဖော်ပြချက်၏ သမိုင်းဆိုင်ရာဖြစ်ရပ်ဥပမာအဖြစ် ဟိဂျရာမတိုင်ခင်က ဗိုင်အာသ်အက်ဗာဆာနီယာအချိန်ကို ဖော်ပြလိုပါသည်။

ထိုစဉ်ကာလ မက္ကာဟ်မြို့တော်တွင် အစ္စလာမ်သာသနာပြန့်ပွားမှုအခြေအနေသည် အဖက်ဖက်မှ ပိတ်ဆို့ခံနေရချိန်ဖြစ်သည်။ မွတ်စလင်မ်တို့၏ အခြေအနေသည် တစ်နေ့ထက်တစ်နေ့ ကြပ်တည်းနေချိန်ဖြစ်သည်။ ယင်းအချိန်တွင်ပင် မဒီနာမြို့တော်တွင် မွတ်စလင်မ်အချို့၏ ဒါအ်ဝဟ်ဖိတ်ခေါ်မှုဖြင့် အစ္စလာမ်သာသနာသည် မဒီနာမြို့သားတို့စပ်ကြားတွင် ရောက်ရှိနေပြီးဖြစ်သည်။ အခြေအနေက အိမ်တိုင်းအိမ်တိုင်းအထိ အစ္စလာမ်သဝဏ်သည် ရောက်ရှိလာပြီးဖြစ်သည်။ မဒီနာမြို့ရှိ အစ္စလာမ်ကို လက်ခံလာသူအချို့က မက္ကာဟ်မြို့သို့ သွားရောက်ပြီး တမန်တော်မြတ်အထံတော်တွင် အစ္စလာမ်ရေးရာ လှုပ်ရှားမှုတွင် ပါဝင်ကြောင်း ဗိုင်အသ်ကတိကဝတ်ပြုပြီး တမန်တော်မြတ်အားလည်း မက္ကာဟ်မြို့တော်ကို စွန့်လွှတ်ကာ မဒီနာမြို့သို့လာရောက်နေထိုင်ရန် ဖိတ်ခေါ်မည်ဖြစ်ကြောင်း ဆွေးနွေးတိုင်ပင်ခဲ့ကြသည်။

မဒီနာမြို့သား ဆွဟာဗာကြီး ဂျာဗိရ်အဗ်နုအ်ဗ္ဗာရိ ؓ က ဤအကြောင်းကို အောက်ပါအတိုင်း ဖော်ပြသည်။

မဒီနာမြို့အနှံ့ အိမ်တိုင်းတွင် အစ္စလာမ်ဒေသနာတော်ရောက်ရှိနေချိန်တွင် ကျွန်ုပ်တို့က တမန်တော်မြတ်သည် ဘယ်အထိမက္ကာဟ်သားတို့၏ ညှဉ်းပန်းနှိပ်စက်မှုကို ခံနေရသည်ကို စောင့်ကြည့်နေရပါမည်။ တမန်တော်မြတ်သည် ဘယ်အချိန်အထိ မက္ကာဟ်မြို့ရှိ တောင်တန်းများတွင် ခိုလှုံပြေးလွှားနေရပါမည်နည်း။

တမန်တော်မြတ်အား တစ်စုံတစ်ခုသော အမှီအခို အကာအကွယ်မရှိဖြစ်နေခြင်းသည် ရှုမြင်သူတို့အနေဖြင့် တမန်တော်မြတ်မဟုတ်သယောင် ဖြစ်နေသည်။ အလ္လာဟ်ထံမှ တမန်တော်မြတ်အဖြစ် စေလွှတ်ခံရလျှင် ဤသို့ဖြစ်နိုင်ပါမည်လောဟု စဉ်းစားကြသည်။

မဒီနာမြို့သားမွတ်စလင်မ်တို့ကမူ အထက်ပါအတိုင်း စဉ်းစားခြင်းမရှိဘဲ၊

မှန်ကန်သောအမြင်ဖြင့် ရှုမြင်ကြခြင်းဖြစ် သည်။ မဒီနာသားတို့က တမန်တော်မြတ်၏ ကြုံတွေ့နေရသော အခက်အခဲသည် အလ္လာဟ်အရှင်မြတ်၏ တာဝန်ကို ထမ်းဆောင်ရမှုကြောင့် ဖြစ်သည်။ သို့ဖြစ်၍ တမန်တော်မြတ်အား ကူညီသမှုပြုခြင်းဖြင့် အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ်နှင့် ဗရ်ကာသ်အဖြာဖြာကို ရယူနိုင်မည်ဖြစ်သည်ကို သိမြင်ကြသည်။

ဒုတိယအကြိမ် မဒီနာမြို့သား အစ္စလာမ်ကို လက်ခံကြသော ပုဂ္ဂိုလ် အုပ်စုသည်(၇၀)ကျော် ကိုယ်စားလှယ်အဖွဲ့အဖြစ် တမန်တော်မြတ်နှင့် မိုင်အသ်ပြုရန် မက္ကာဟ်မြို့သို့ ရောက်ရှိခဲ့ကြသည်။ ဤသည်ကို အစ္စလာမ်သမိုင်းက မိုင်အသ်ဆာနီယာ ဟုခေါ်သည်။ ဤမိုင်အသ်ပြုခဲ့ရပုံ၏ လို့ဝှက်စီစဉ်ရပုံကို ယင်းကိုယ်စားလှယ်အဖွဲ့တွင်ပါဝင်သော ကအာဗ်ဘင်နိမလစ်က်အန်ဆွာရီ ؓ က အတွေ့အကြုံဖြစ်ရပ် ကို အောက်ပါအတိုင်း ဖော်ပြသည်။

"ကျွန်ုပ်တို့သည် မဒီနာမြို့မှ မက္ကာဟ်မြို့သို့ ထွက်လာစဉ်တွင် သမာရုံးကျအတိုင်း ကာဗာကျောင်းတော်ကို ဖူးမျှော်ရန် လာရောက်ကြသည်ဟု ထင်မှတ်စေခဲ့သည်။ ယင်းအတိတ်ကာလက ကျင့်စဉ်အတိုင်း ဟဂ်ျပြုရန် သွားရောက်ကြမည့်သူတို့နှင့် တိတ်ဆိတ်စွာ ပေါင်းစည်းခဲ့ကြသည်။ မက္ကာဟ်မြို့အနီးတွင်ယင်းဘုရားဖူးများ စတည်းချနားခဲ့ကြသည်။ ကျွန်ုပ်တို့သည် သူတို့နှင့်အတူ အိပ်ခဲ့သည်။ အားလုံး အိပ်မောကျပြီး တိတ်ဆိတ်နေချိန်တွင် ကျွန်ုပ်တို့သည် တမန်တော်မြတ်နှင့် မူလကတည်းက စီစဉ်ထားချက်အတိုင်း တိတ်ဆိတ်ငြိမ်သက်စွာ ချိန်းဆိုထားသော နေရာသို့ သွားရောက်ခဲ့ကြသည်။(အိဗ်နေဟိရှ်ရှာမ်က်ဆီရသ်ကျမ်း ဒုတိယတွဲ၊ စာ-၄၉)

ထိုအချိန်ကာလသည်ကား ဆန်းကျယ်လွန်လှသည်၊ လူတို့က တမန်တော်မြတ်ကို ပယ်ချနေချိန်တွင် လူအုပ်စုဝင်အချို့သည် တမန်တော်မြတ်၏ တင်ပြချက်ကို လက်ခံရန် ကြိုးပမ်းနေကြခြင်းဖြစ်သည်။ ထိုအချိန်အခါက တမန်တော်မြတ်၏ နေရပ်ဌာနီကို လုယူခံခဲ့ရသည်။ သွာအိဖ် နယ်သားတို့က တမန်တော်မြတ်ကို ခဲများနှင့် ပေါက်ကာ သူတို့၏ နယ်မှနှင်ထုတ်ခဲ့ကြသည်။ ဝန်းကျင်ရှိလူမျိုးစုဝင်တို့က တမန်တော်မြတ်ကို သူတို့နေရာတွင် နေထိုင်ခွင့်ကို

ငြင်းဆိုနေကြသည်။

ဤသို့သော အဖက်ဖက်မှ ဝိုင်းရံပိတ်ဆို့ခံနေရချိန်တွင် မဒီနာသားတို့က တမန်တော်မြတ်၏ ဒေသနာတော်ကို သစ္စာတရားအဖြစ် လက်ခံအတည်ပြု နေကြခြင်းဖြစ်သည်။ မဒီနာသားတို့ တမန်တော်မြတ်နှင့် တွေ့ဆုံကာ သစ္စာပြုနေချိန်တွင် တစ်ဦးသောသူက မတ်တပ်ရပ်၍ သူတို့၏ ညီနောင်တို့ကို အောက်ပါအတိုင်းမေးမြန်း၏။

''အသင်တို့ ဘယ်အရာကို သစ္စာပြုနေကြသည်ကို သိမြင်ကြရဲ့လား။'' ဤသည် မဒီနာသားတို့အနေဖြင့် အနာဂတ်တွင် သူတို့၏ ဥစ္စာပစ္စည်းနှင့် သူတို့၏ သားမြေးများကို စတေးခံရမည်ကို ရည်ညွှန်းဖော်ပြခြင်းဖြစ်သည်။ ထိုသူ၏ မေးမြန်းချက်ကို အားလုံးက ကျွန်ုပ်တို့သဘောတူပါသည်။ ကျွန်ုပ်တို့သည် သစ္စာခံကြပါမည် علی نهكة الاموال و اولاد ဟု ဆိုရာ၏။ တမန်တော်မြတ်အား ထိုသူက မေးမြန်းကြသည်မှာ ''ဤသစ္စာခံမှု သဘောတူညီမှု၏ ဆုံးခန်းတိုင်အောင် ပါဝင်ဆောင်ရွက်မှု ကြောင့် ကျွန်ုပ်တို့ မည်သည့်အကျိုးအမြတ်ကို ခံစားရမည် နည်း''ဟု မေးမြန်းရာ တမန်တော်မြတ်က ''အသင်တို့ ဂျန္နသ်''ဟု ပြန်လည်ဖြေဆို၏။ ဤစကားကို ကြားသိရသော မဒီနာသားတို့က တမန်တော်မြတ်၏ လက်ကိုကိုင်ကာ မိုင်အသ်သစ္စာပြုခြင်း ကို ပြုခဲ့ကြသည်။

မိမိတို့၏ ကိုယ်ကိုတည်ငြိမ်မှုမရှိသေးသော အငြင်းပွားနေရသော ယုံကြည်ချက်တစ်ရပ်အတွက် မြှုပ်နှံလိုက်ခြင်းနှင့် ယတိပြတ်ဆုံးဖြတ်၍မရသော အမှန်တရားတစ်ခုနောက်သို့ မိမိကိုယ်ကို ပုံအပ်လိုက်ခြင်းသည် အလွန်မှပင် လေးနက်ကြီးကျယ်သော ဆန်းကျယ်လှသော ဖြစ်ရပ်တစ်ခုဟု၍ဆိုရမည်ဖြစ်သည်။ ဤကဲ့သို့သော ဖြစ်ရပ်သည် လူ့သမိုင်းတွင် ယင်းမတိုင်ခင်ကာလက ဖြစ်ပေါ်လာခြင်း မရှိသကဲ့သို့ နောင်တွင်လည်း ရှိမည်မဟုတ်ပါ။

## သက်ဆိုင်ခြင်းမရှိသော ပြဿနာများကို ခုတုံးမလုပ်ရ။

တမန်တော်မြတ်မုဟမ္မဒ် ﷺ ၏ ခေတ်ကာလတွင် အာရေဗျဒေသအဝှမ်း

တွင်ရှိနေသော ပြဿနာပေါင်းများစွာသည် ယနေ့ခေတ်ကာလတွင် ရှိနေသော အမျိုးသားရေးပြဿနာဟုခေါ်သော ပြဿနာရပ်များအသွင် ရှိနေပါသည်။ ယနေ့ခေတ် ကာလတွင် ဤအမျိုးသားရေးပြဿနာကို မူတည်၍ လှုပ်ရှားမှုအများ အပြား ကမ္ဘာအဝှမ်းတွင် ပေါ်ထွန်းလျက်ရှိနေဆဲပင်ဖြစ်သည်။ ဤအမျိုးသားရေး လှုပ်ရှားမှုသည် တွေးခေါ်မှုအဆင့်မြင့်မားသည်ဟု ဆိုရသော အစုအဝေးကို သွေးဆောင်နိုင်စွမ်းရှိသည်။ ထိုမှတစ်ဆင့် ယင်းလှုပ်ရှားမှုတွင် တက်ကြွစွာ ပါဝင်လာလေ့ရှိသည်။ တမန်တော်မြတ်၏ ခေတ်ကာလတွင်လည်း ဤအမျိုးသား ရေးပြဿနာသည် ရှိနေသော်လည်း တမန်တော်မြတ်သည် ယင်းပြဿနာရပ်များကို ဘယ်တော့အခါကမျှ ပါဝင်ပတ်သက်ကာ ခုတုံးလုပ်ခြင်းအမြတ်ထုတ်ခြင်းမရှိခဲ့။

အကယ်၍သာ တမန်တော်မြတ်သည် ဤအမျိုးသားရေးပြဿနာ ဆိုင်ရာတွင် ပါဝင်ပတ်သက်လာခဲ့ပါမူ အလ္လာဟ်အရှင်မြတ်အထံတော်မှ ဖြစ်ထွန်းပေါ် ပေါက်လာသော စီမံကိန်းတွင် ပါဝင်နိုင် မည်မဟုတ်ပါ။ ဤသို့အားဖြင့် နှစ်ပေါင်း (၁၅၀၀)မျှ အချိန်ယူဖြစ်ထွန်းလာခဲ့သော အခြေအနေအခွင့်အလန်းသည် ဆုံးရှုံးပျက် စီးသွားမည်မှာ အမှန်ပင်ဖြစ်သည်။ သမိုင်းဖြစ်ရပ်များမှာ ဥပမာများကို လေ့လာ စေလိုပါသည်။

(၁) အဗီဆီနီယာ(ယခုခေတ် အီသီယိုးပီးယားနိုင်ငံ)သည် အာဖရိကဖက်မှ ကျူးကျော်လာပြီး အာရေဗျနှင့် နယ်စပ်ချင်းဒေသဖြစ်သော ယမန်ဒေသကို ခရစ် သက္ကရာဇ်(၅၂၅)ခုနှစ်က သိမ်းပိုက်ယူခဲ့သည်၊ ထိုစဉ်ကာလက အဗ်ရဟာဆိုသူသည် အင်ပါယာ၏ ယမန်ပြည်ဆိုင်ရာဘုရင်ခံဖြစ်သည်။ တမန်တော် မြတ် မွေးဖွားချိန် ခရစ်သက္ကရာဇ်(၅၇၀)တွင် ယမန်ပြည်၏ ဘုရင်ခံအဗ်ရဟာသည် ဆင်တပ်ခြင်း မက္ကာဟ်မြို့ကို သိမ်းယူပြီး ကာဗာကျောင်းတော်ကြီးကို ဖျက်စီးပစ်ရန် ကြံရွယ် ခဲ့သည်၊ ဤသို့အားဖြင့် ကာဗာကျောင်းတော်ကြီး၏ အာရေဗျကျွန်းဆွယ် ဒေသတွင် ရှိနေသော အထွတ်အထိပ်ရှိမှု ဗဟိုပြုမှုအနေအထားကို ဖျက်သိမ်းပစ်လိုနေကြသည်။ နှစ်(၅၀)မျှ ယမန်ဒေသကို အုပ်ချုပ်ပြီးနောက် အဘီဆီနီယာပြည်၏ဩဇာ အားဏာသည် ယမန်ပြည်မှ ကုန်ဆုံးခဲ့ရသည်။

ယင်းနောက် ယမန်ပြည်သည် ပါရှန်းပြည်၏ ဩဇာအောက်သို့ ရောက်ခဲ့ပြန်သည်။ ပါရှန်းပြည်၏ ကိုယ်စားဘာဇာန်သည် ယမန်ပြည်၏ ဘုရင်ခံဖြစ်လာသည်။ တမန်တော်မြတ်က အစ္စလာမ်ဒေသနာတော်ကို ဖြန့်ချိရနေကြောင်းသတင်းသည် ပါရှန်းဘုရင်ကဆာရာ ထံရောက်လာခဲ့သည်။သို့ဖြစ်၍ ပါရှန်းဘုရင်က ယမန်၏ ဘုရင်ခံ ဘာဇာန်အားရေးမျတွင် တမန်တော်အဖြစ် ဒေသနာဖြန့်ချိနေသူထံ သွားရောက်ပြီး ဤသာသနာဖြန့်ချိမှုကို ရပ်တဲ့ကာ ရပ်ရန်ဆိုပါ။ ဤသို့မဟုတ်ပါက ယင်းတမန်တော်မြတ်ဆိုသူကို ကွပ်မြက်ပြီး သူ၏ ဦးခေါင်းကို ပါရှန်းဘုရင်ထံ ဆက်သရန် အမိန့်ပေးခဲ့သည်။ (သာရိခ်အိဗ်နေဟရ်ရှာမ်)

ဤသမိုင်းဆိုင်ရာအထောက်အထားများအရ တမန်တော်မြတ်က ဒေသနာတော် စတင် ဖြန့်ချိနေချိန်တွင် အာရေဗျဒေသ၏ နယ်စပ်တစ်လျှောက်တွင် နိုင်ငံခြားတိုင်းပြည်များ၏ ဝင်ရောက်သိမ်းပိုက်ထားမှုကြောင့် ဖြစ်ပေါ်နေသော တင်းမာမှုများကို သိမြင်နိုင်ပါသည်။ ဤသို့သော နယ်ခြားဒေသတင်းမာမှုနှင့် နိုင်ငံရပ်ခြားတိုင်းပြည်များ၏ ကျူးကျော်လာနိုင်သော အခြေအနေအရပ်ရပ်များကို အခွင့်ကောင်း ယူပြီး တမန်တော်မြတ်သည် နိုင်ငံရေးအရလည်းကောင်း၊ အမျိုးသားရေးစိတ်ဓါတ်အရလည်းကောင်း၊ အခွင့်အရေးများကို အသုံးချနိုင်ပါသည်။ စစ်မက်တိုက်ခိုက်ပြီး အမျိုးသားခေါင်းဆောင်တစ်ဦးအဖြစ် ပေါ်ထွန်းလာစေနိုင်ပါသည်။

အကယ်၍သာဤသို့သော အခွင့်အရေးကို အသုံးချခဲ့ပါလျှင် အလ္လာဟ်အရှင်မြတ် ၏ စီမံကိန်းကို သွေဖီရာရောက်မည်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းကို သွေဖီရာရောက်မည်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းကို လူတို့နှင့် ထိပ်တိုက်ရင် ဆိုင်ခြင်းနှင့် အတိုက်အခိုက်မဲ့စွာ အလ္လာဟ်အရှင်မြတ်၏ ဒါအ်ဝဟ်ဖိတ်ခေါ်မှုကို လွှင့်ထူရန် ဖြစ်သည်။ ဤအလ္လာဟ်တာဝန်ကို တမန်တော်မြတ်က တသဝေမတိမ်း ဆောင်ရွက်လိုက်နာခဲ့သည်။

ဤလိုက်နာမှု၏ ရလဒ်အနေဖြင့် ယမန်ပြည်၏ အုပ်ချုပ်ရေးမှူး ဘုရင်ခံဘာဇာန်သည် အစ္စလာမ်ကို သက်ဝင်လာခဲ့သည်။ ယမန်ပြည်ရှိ မူလက

ခရစ်ယာန်ပြည်သူများသည်လည်း အစ္စလာမ်အေးရိပ်ဆာယာအောက်သို့ ခိုလှုံကာ မွတ်စလင်မ်အဖြစ် ခံယူခဲ့ကြသည်။ အတိတ်က ဤဒေသတွင် နိုင်ငံရေးအရ မလုပ်ဆောင်နိုင်ခဲ့သော အောင်မြင်မှုကို တမန်တော်မြတ်သည် ဒါအ်ဝဟ် ဖိတ်ခေါ်မှုဖြင့် အောင်မြင်အောင်ပြုလုပ်နိုင်ခဲ့သည်။

(၂) ဗနုဟာရှင်မ်၏ ခေါင်းဆောင်အဗူသွာလိဗ် ကွယ်လွန်ခဲ့ပြီးနောက် လူမျိုးစုဆိုင်ရာအစဉ်အလာထုံးစံအတိုင်း ခေါင်းဆောင်မှု တာဝန်ကိုအဗူလဟဗ်က ခံယူရရှိခဲ့သည်။ ယင်းပုဂ္ဂိုလ်သည် တမန်တော်မြတ်အား အကာအကွယ်ပေး ထောက်ခံခြင်းမပြုနိုင်ကြောင်း ငြင်းဆိုခဲ့သည်။ ဤအခြေအနေတွင် တမန်တော်မြတ် အဖို့ရာတွင် နောက်ထပ်လူမျိုးစုခေါင်းဆောင်တစ်ဦးထံသို့ ချဉ်းကပ်ရှာဖွေခဲ့ရာ လူမျိုးစုခေါင်းဆောင်တို့သည် အကာအကွယ်ပေးရန် ငြင်းဆန်ခဲ့ကြသည်။

အာရေဗျ၏ နယ်စပ်ဒေသတွင် နေထိုင်ကြသော ဗနူရှိုင်ဗာန်ဘင်န်ရှာလီယာ၏ ခေါင်းဆောင်ဖြစ်သူ မဆာနာဘင်န်ဟာရိဇ်ဆိုသူက ဆိုသည်မှာ သူတို့သည် ပါရှန်းအင်ပါယာနှင့် နယ်စပ်ချင်းဆက်စပ်နေသောဒေသတွင် နေထိုင်သူဖြစ်သည်။ သူတို့သည် နယ်စပ်ဒေသဆိုင်ရာ စာချုပ်တစ်ခုဖြင့် နေထိုင်ခွင့်ရသူဖြစ်သည်။ ယင်းပါရှန်းဘုရင်နှင့် ချုပ်ဆိုထားသော ကတိဝန်ခံချုပ်တွင် သစ်လွင်သော ဆန်းသစ်သော အယူ အကြောင်းမပေါ်ဆိုရ၊ ယင်းအယူရှိသော သူကိုလည်း ခိုလှုံခွင့်မပေးရ သို့ဖြစ်၍ တမန်တော်မြတ်အား အကာအကွယ်ပေးခြင်းကို ပါရှန်းဘုရင်က ကြိုက်နှစ်သက်မည်မဟုတ်ဟုထင်ပါသည်။(ဆီရသ်အိဗ်နေကဆိရ်)

အထက်ပါ ဖော်ပြချက်ပါ အချက်အလက်များကို သုံးသပ်ကြည့်လျှင် အာရေဗျဒေသပေါ်သို့ အိမ်နီးချင်းတို့၏ ချုပ်ကိုင်ထားချက်တွင် နိုင်ငံရေးနှင့် အမျိုးသား ရေးဆိုင်ရာပြဿနာရပ်များသာမက ယုံကြည်ချက်ဆိုင်ရာ၏ ဒါအ်ဝဟ် ဖိတ်ခေါ်မှု နှင့် ဖြန့်ချိမှုလည်း ပါဝင်ကြောင်း သိမြင်နိုင်သည်။တမန်တော်မြတ်သည် ဤအခြေအနေအရပ်ရပ်၏ တည်ရှိနေမှုကို အကြောင်းပြု၍ မည်သည့်အခါကမျှ ရန်ဖြင့် တုန့်ပြန်ခြင်းကို အရေးဆိုခြင်းမရှိခဲ့ပါ။ ပြည်ပရန်ရှိနေ၍ ဒါအ်ဝဟ် လုပ်ငန်းအတွက် အဟန့်အတားဖြစ်ရသည်ဟူ၍ မဆိုခဲ့ပါ။

အကယ်၍ ဤသို့ ပြုမူဆောင်ရွက်ခဲ့လျှင် ဤသည် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းနှင့် ဆန့်ကျင်နေသည်ကို သိသည်။ အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းက ဘာဇင်တိုင်ရောမနှင့် အီရန် ပါရှားတို့ အနှစ်(၂၀)မျှ တိုက်ခိုက်ရင်းဖြင့် သူတို့၏ စစ်စွမ်းအားသည် ကုန်ခမ်းသွားပြီဖြစ်သည်၊ တစ်ဖန် ယင်းသူတို့၏ အာရေဗျဒေသ အတွင်းသို့ ကျူးကျော်ဝင်ရောက်မှုကို အကြောင်းခံ၍ မွတ်စလင်မ်တို့အား မဟာအောင်ပွဲခံယူရရှိအောင်ပြုရေးဖြစ်သည်။ အကယ်၍ မွတ်စလင်မ်တို့သည် စဦးအစ္စလာမ်လှုပ်ရှားမှု ကာလတွင် ယင်းသူတို့နှင့် ခိုက်ရန်ဖြစ်ပွားခဲ့သည်ရှိသော် ဆန့်ကျင်သော အဖြေသာလျှင် ရရှိမည်ဖြစ်ပြီး အဆက်မပြတ်သော အောင်ပွဲများကိုလည်း ခံယူရရှိမည်မဟုတ်ပါ။

## အလ္လာဟ်အရှင်မြတ်၏ စီမံကိန်းနှင့် ထပ်ကြပ်မကွာရှိခြင်း။

လယ်သမားတို့၏ အလုပ်က သဘာဝအခြေအနေကောင်းများနှင့် ပူးပေါင်းဆက်သွယ်ရယူခြင်းပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေကြီးကို စိုက်ပျိုးရေး ဖြစ်ထွန်းစေဖို့ရန် အခြေအနေများကို ပေးထားသည်။ ဤအခြေအနေများကို ရယူအသုံးချစေရန်အတွက် လယ်သမား၏ လုပ်ဆောင်ရမည့်အပိုင်းက ရှိနေပါသေးသည်။ ပထဝီ မြေကြီးပေါ်တွင် စိုက်ပျိုးရေး ဖြစ်ထွန်းစေဖို့ မြေဆီလွှာရှိနေသည်။ ဤသည် သဘာဝလောကကြီး၏ အခြားနေရာတွင် တွေ့ရှိနိုင်မည်မဟုတ်ပါ။

သို့ရာတွင် စိုက်ပျိုးရေးဖြစ်ထွန်းစေဖို့ မြေဆီလွှာသက်သက်ဖြင့် အလုပ်မပြီးပါ။ ယင်းမြေဆီလွှာတွင် စိုထိုင်းမှုရှိဖို့ လိုအပ်သည်။ ဤစိုထိုင်းမှု မရှိခြင်းကြောင့် ပထဝီမြေကြီး၏ အစိတ်အပိုင်း အများအပြားသည် ခြောက်သွေ့ကာ ပက်ကြားအက်နေသော မြေအသွင်တွေမြင်နေရသည်။ သဲကန္တာရအသွင်လည်း တွေ့မြင်နေရသည်။ ဤအခြေအနေအရပ်ရပ်ကို သဘာဝက အသံချဲ့စက်ဖြင့် လိုက်လံ ရှင်းပြနေသည်မဟုတ်။ ယင်းနှင့် ပတ်သက်သော အသိကို ဆိတ်ငြိမ်သော အသံဖြင့် ညွှန်ပြခြင်းသာ ပြုနေသည်။ လယ်သမားအဖို့လည်း ယင်းဆိတ်ငြိမ်သော အသံကို သိအောင်ပြုနေရသည်။သို့ဖြစ်၍ လယ်သမားသည် မြေဆီလွှာပျော့ပြောင်း

နူးညံ့စေရန် မိုးရွာသွန်းမှုကို အားကိုးရသည်လည်းရှိသည်။ ဤသို့မဟုတ်ပါက ဆည်မြောင်း များဖြင့် ရေကို ရယူခြင်းကို ပြုရသည်လည်းရှိသည်။ ယင်းနောက် သူစိုက်ပျိုး လိုသော အစေ့ကို မြေကြီးတွင် ပျိုးလိုက်သည်။

ဒါအီတစ်ဦးသည်လည်း ဤနည်းနှင့်နှင့် လယ်သမားတစ်ဦးကဲ့သို့ လုပ်ဆောင်ရသည်။အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အတွက် အခြေအနေကောင်း ကို ဖန်တီးပေးလိုက်သည့်မှန်းလည်း ယင်းလုပ်ငန်း ဆောင်တာ လှုပ်ရှားမှုကို ဆက်လက်တည်တံ့ရှေ့ရောက်စေဖို့ရန် ရဗ္ဗာနီ၏ နည်းစဉ်က လိုအပ်နေသည်။ အကယ်၍ တမန်တော်မြတ်သည် ရဗ္ဗာနီနည်းစဉ်ကို အသုံးပြုခြင်းမရှိဘဲ ကိုယ်ပိုင်စီမံကိန်းများဖြင့်သော တက်လှမ်းခဲ့လျှင် ဤသို့ သမိုင်းတွင်ရစ်သည့် အောင်မြင်မှုကို ရယူနိုင်မည်မဟုတ်ပါ။

(၁) တမန်တော်မြတ်၏ ဒါအ်ဝတ်ဖိတ်ခေါ်မှု၏ အခြေခံစည်းမျဉ်းသည်ကား ဒါအ်ဝတ်ဖိတ်ခေါ်မှုပြုရာတွင် အာခေရသ် သဘောတရားကို အဓိကထားလျက် ရှင်းလင်းခြင်းပင်ဖြစ်သည်။ လောကီဆိုင်ရာ ကိစ္စရပ်များကို အခြေခံပြုလျက် ဒါအ်ဝသ်ဖိတ်ခေါ်မှုကို မပြုရေးဖြစ်သည်။ ဤသို့ အာခေရသ်ကို အဓိကထား ဖော်ပြရခြင်းမှာ ဤသည်သာလျှင် လူသားတို့ အတွက် အဓိကကျသော ထာဝရခံယူရမည့်ပြဿနာရပ်ဖြစ်၍ပင်၊ အခြားအခြားသော ပြဿနာရပ်များသည် ခေတ္တခဏနှင့် မကြာခဏ ကြုံတွေ့ရသော ပြဿနာဖြစ်နေသည်။ အာခေရသ်မပါပဲ လူတို့၏ အောင်မြင်မှုသည် အဓိပ္ပာယ်မဲ့ပုံက လူသားတို့၏ ဘဝဆိုင်ရာ ဆုံးရှုံးမှုပင်ဖြစ်တော့သည်။

လူ့ဘဝ၏ အခြားအခြားသော ပြဿနာများ၏ အောင်မြင်ဖြစ်ထွန်းမှုသည် လူတစ်ဦးချင်း၏ လုပ်ဆောင်မှုပေါ်တွင် မူတည်နေသည်။ လူသားတို့တွင် စစ်မှန်သော ထာဝရတည်ရှိနေမည့်ကျင့်ကြံအားထုတ်မှုသည် အာခေရသ်ကို နက်နဲစွာ ယုံကြည်မှုမှ ဖြစ်ထွန်းလာရခြင်းဖြစ်သည်။ အာခေရသ်ကို ယုံကြည်ခြင်းဆိုသည်မှာ လူသည် လွတ်လပ်ပြီး လုပ်ချင်တာလုပ်၍ မရ၊ အလ္လာဟ်အရှင်မြတ်၏ ထိန်းချုပ်မှုအောက်တွင် လူတို့သည်ရှိနေသည်ဟူသော အသိဖြစ်သည်။ ယင်းအသိသည် လူသားတို့ကို

ထင်ရှားလုပ်ဖြစ်နေသည့် အလေ့အထကို ဖယ်ရှားပစ်သည်။ ထိုမှတစ်ဖန် လူကို အသိတရားနှင့် ပြည့်စုံသော တာဝန်သိ လူကို ဖြစ်ထွန်းလာစေသည်။

ကျမ်းတော်မြတ်ကုရ်အာန်နှင့် တမန်တော်မြတ်၏ ဟဒီးဆ်သြဝါဒတော်များကို လူတို့အနေဖြင့် အတွေးအမြင် သန့်သန့်ဖြင့် ဖတ်ရှုလေ့လာလျှင် အာခေရသ်၏ ပြဿနာသည် အကြီးမားဆုံးသော ပြဿနာဖြစ်သည်ကို ပေါ်လွင်ထင်ရှားစွာ တွေ့မြင်ရမည်ဖြစ်သည်။ အခြားပြဿနာရပ်များကိုလည်း တွေ့မြင်နိုင်ပါသည်။ သို့ရာတွင် ယင်းတို့သည် အဓိကကျသော အကြောင်းအရာမဟုတ်ရပါ။

(၂) ဒုတိယအချက်အနေဖြင့် ဒါအီဖိတ်ခေါ်သူနှင့် မဒ်အူဖိတ်ခေါ်ခံရသူတို့စပ်ကြားတွင် မည်သို့သောအခြေအနေတွင် ဖြစ်စေ အငြင်းပွားရမှုကို ပဋိပက္ခအသွင်သို့ မရောက်အောင် ရှောင်ကြဉ်ရပါမည်။ ဖိတ်ခေါ်ခံရသူသည် ဒါအီ၏ ဆန့်ကျင်ဖက် အဖြစ် မမြင်စေရပါ။ ဤအရေးကို ရှောင်ကြဉ်ရပေမည်။ ဤအချက်နှင့် ပတ်သက်၍ တမန်တော်မြတ်၏ သက်ရှိသမိုင်းမှာ ဟုဒိုင်ဗီယာစာချုပ်ကို စံနမူနာအဖြစ် ရယူနိုင်ပါသည်။ ကိုရိုက်ရှ်နွယ်ဝင်တို့သည် မွတ်စလင်မ်တို့နှင့် စစ်မက်တိုက်ခိုက်လျက် မွတ်စလင်မ်အုပ်စုနှင့် မွတ်စလင်မ်မဟုတ်သော အုပ်စုများ အသွင်ဖြင့် ဆန့်ကျင်ဖက်အုပ်စုနှစ်ခုအသွင် ဖန်တီးယူခဲ့ကြသည်။ အချိန်အတော်များများသည် စစ်နှင့်ဆိုင်သော ပြဿနာရပ်များကို ပြောဆိုဆွေးနွေးခြင်းနှင့် စစ်အတွက် ပြင်ဆင်ခြင်းတွင် ကုန်ခမ်းကုန်ဆုံးခဲ့ရသည်။

၂ ဤသို့သော အခြေအနေဆိုးကိုပျောက်ပျက်စေရန် တမန်တော်မြတ်က ကိုရိုက်ရှ်တို့၏ တောင်းဆိုမှုများကို လိုက်လျောလျက် (၁၀)နှစ်တာ စစ်မတိုက်ခိုက်ရေး စစ်ပြေငြိမ်းစာချုပ်ရေး စာချုပ်ကို ချုပ်ဆိုနိုင်ခဲ့သည်။ ဤစာချုပ်သည် တစ်ဖက်စောင်းနင်း ဖြစ်နေ၍ မွတ်စလင်မ်တို့တွင် ဤစာချုပ်နှင့် ပတ်သက်၍ စစ်ရှုံးသမားအသွင်ဖြစ်နေသည်ကို မြင်တွေ့ခံစားခဲ့ရသည်။ သို့ရာတွင် ဤစစ်ပြေငြိမ်း စာချုပ်သည် အလ္လာဟ်အရှင်မြတ်၏ ရှုထောင့်မှကြည့်လျှင် အောင်မြင်မှု၏ တံခါးကို ဖွင့်ခြင်းပင် ဖြစ်သည်။ အကြောင်းမှုဤစာချုပ်ကြောင့် စစ်အခြေအနေသည် ငြေိမ်းပြီး တင်းမာမှုများသည် ပျောက်ပျက်ခဲ့ရသည်။

မွတ်စလင်မ်တို့နှင့် မွတ်စလင်မ်မဟုတ်သူ စပ်ကြား ဒါအီဖိတ်ခေါ်သူနှင့် မဒ်အူဖိတ်ခေါ်ခံ အဖြစ် ဆက်သွယ်မှုရှိလာသည်။ သို့အားဖြင့် စစ်မှန်သော ဒအ်ဝသ် ဖိတ်ခေါ်မှု၏ အသံများသည် လူတို့၏ နားဝသို့ ဝင်ရောက်နိုင်ခဲ့သည်။ ထို့ကြောင့်လည်း ၂နှစ်တာ ကာလအတွင်း အစ္စလာမ်ကိုလက်ခံလာသူတို့၏ အရေအတွက် ၁၀ဆမက ရှိလာတော့သည်။ မက္ကာမြို့တော်ကို စစ်ဖြင့် အောင်မြင်ရေးမှာမျှော်လင့်ချက်မရှိသယောင် မြင်နေရသော်လည်း ဒအ်ဝသ်၏ လုပ်ဆောင်လှုပ်ရှားမှုသည် ယင်းတို့ကို သိမ်းကျုံးနိုင်စွမ်းရှိကြောင်း တွေ့မြင်ရတော့သည်။

(၃) တမန်တော်မြတ်၏ နည်းစဉ်တစ်ခုက မဒ်အူဖိတ်ကြားခံရသူတို့ကို ထိန်းချုပ်နိုင်ပါလျက် ယင်းသူတို့နှင့် ဆက်ဆံ ရာတွင် ညင်သာသော ဆက်သွယ်ဆက်ဆံရေး ကို ပြုခြင်းပင်ဖြစ်သည်။ ဤအချက်နှင့် ပတ်သက်သော သာဓကများသည် တမန်တော်မြတ်၏ ဘဝခရီးစဉ်တစ်လျှောက် လုံးတွင် တွေ့မြင်ရသည်။ မက္ကာအောင်ပွဲကာက နောက်ပိုင်း ကုရိုက်ရှ်နွယ်ဝင်တို့အပေါ်တွင် တမန်တော်မြတ်၏ ချုပ်ကိုင်နိုင်မှုသည် အပြည့်အဝရှိနေပြီးဖြစ်သည်။ ယင်းမက္ကာသားကုရိုက်ရှ် နွယ်ဝင်တို့သည် တမန်တော်မြတ်နှင့် တကွ အစ္စလာမ်ကို သက်ဝင်ယုံကြည်လာသူတို့ကို နည်းမျိုးစုံဖြင့် ညှင်းပမ်းနှိပ်စက်ခဲ့ကြသည်။

ယင်းသို့ညှင်းပမ်းနှိပ်စက်သော အတိတ်လုပ်ရပ်နှင့် ပတ်သက်ပြီး တမန်တော်မြတ်သည် မည်သူကိုမျှ ပြစ်ဒဏ် ပေးခြင်း၊ ကလဲ့စားချေခြင်းနှင့် ပြန်လည်လက်စားချေမှုကို မပြုခဲ့ပါ။ အားလုံးသော အတိတ်က တရားခံများကို တစ်ညီ တစ်ညွတ်တည်း လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည်။ ကုရိုက်ရှ် မျိုးနွယ်ဝင်တို့သည် တမန်တော်မြတ်၏ ရှေ့မှောက်တွင် ပြစ်ဒဏ်အတွက် လက်ပိုက်စောင့်မျှော်နေစဉ် တမန်တော်မြတ်က ဆိုသည်မှာ– اذهبوا فأنتم الطلقاء

'အသင်တို့အားလုံး လွတ်ငြိမ်းချမ်းသာခွင့် ရရှိပြီဖြစ်သည်။'

မက္ကာသားတို့အနက် ကြီးမားသော လူသတ်မှုကဲ့သို့ ဥပဒေကျူးလွန်သူ ပြစ်ဒဏ်သင့်သူတို့ကို တမန်တော်မြတ်က သေဒဏ်ချမှတ်ခဲ့သော်လည်း ယင်းတို့အနက် အများစုကို ပြစ်ဒဏ်လျှော့ပေါ့ကာ၊ လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့ကြောင်း

တွေ့ရသည်။ ယင်းသူတို့သည်လည်းကောင်း၊ သူတို့နှင့် ဆက်နွယ်သော သူတို့သည်လည်းကောင်း တမန်တော်မြတ်လက်ထက် တွင် လွတ်ငြိမ်းချမ်း သာခွင့်အတွက် အသနားခံခဲ့ခြင်းကို အကြောင်းပြု၍ ပြစ်ဒဏ်လျှော့ပေါ့ကာ လွတ်ငြိမ်းချမ်းသာခွင့် ပေးခဲ့ခြင်းဖြစ်သည်။

ယင်းတို့၏ အရေအတွက်မှာ ၇၀ ကျော်ရှိပြီး လုံးဝခွင့်လွှတ်၍ မရသော ပြစ်ဒဏ်ကျူးလွန်သူ ၅ဦး မှအပ အားလုံးကို လွတ်မြောက်ခွင့်ပေးခဲ့ခြင်းဖြစ်သည်။ အုဟွဒ်စစ်ပွဲကာလ တမန်တော်မြတ်၏ ဘကြီးတော် ဟမ်ဇဟ်သခင် အား ရက်စက်စွာသတ်ဖြတ်ခဲ့ကြသော အဗူစုဖ်ယာန်၏ ဇနီးဖြစ်သူ ဟိန္ဒနှင့် အပေါင်းအပါ နှစ်ဦးကို တစ်ချိန်တွင် ပြန်လည်၍ အပြစ်ပေးမည်ဟု ဆိုထားသော်လည်း လက်တွေ့တွင်မူ ယင်းသူတို့၏ တောင်းပန်မှုကို လက်ခံကာ တမန်တော် မြတ်သည် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။ ဤသည်သာလျှင် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်း နည်းလမ်းဖြစ်သည်။

ဤလုပ်ထုံးလုပ်နည်းတွင် များပြောင်လှစွာသော အကျိုးဖြစ်ထွန်းမှုများ ရှိနေသည်။ လူသည် လှုပ်ရှား တုန့်ပြန်မှု မဲ့သေ ာအရာများ မဟုတ်ကြ။ သို့ဖြစ်၍ လည်း မည်သည့် လုပ်ရပ်မဆို စဉ်ဆက်မပြတ် သော တုန့်ပြန်မှုကို ဖြစ်ထွန်းစေပါ သည်။ တမန်တော်မြတ်၏ ရန်သူများကို ခွင့်ပြုခွင့်လွှတ်ခြင်း ရလဒ်အဖြစ် စဉ်ဆက်မပြတ်သောမုန်းတီးမှုများ ပပျောက်ခဲ့ ရသည်။ ထိုမှတစ်ဖန် တစ်ဦးကို တစ်ဦး လက်စားချေမှုလည်း မရှိတော့ပါ။ ထို့ကြောင့်လည်း မက္ကာအောင်ပွဲ ကာလ နောက်ပိုင်းတွင် အပြုသဘောဆောင်သော တည်ဆောက်ရေး ဖြစ်ထွန်းလာမှုများ အများအပြား တိုးတက်လာခဲ့ရသည်။

အတိတ်ကရန်သူတော်ကြီးများသည်လည်း အဖျက်သဘောဆောင်သော လုပ်ရပ်များ၏ တံခါးများကို ပိတ်ချလိုက်တော့သည်။ ယင်းသူတို့အနက် အများစု သည် အစ္စလာမ့်အေးရိပ်ဆာယာအောက်သို့ ခိုလှုံဝင်ရောက်လာခဲ့ကြသည်။ မုကာရိမေဟ်ဘင်န် အဗူဂျဟာလ် ကဲ့သို့သော အတိတ်က ရန်သူတော်ကြီးများသည် အစ္စလာမ်ကို စောင့်ရှောက်သော အင်အား အဖြစ် သမိုင်းတွင် ရစ်လာတော့သည်။

(၄) အောင်မြင်မှုနှင့် ထိန်းချုပ်ရမှု၏ နောက်တွင် လူ့အဖွဲ့အစည်း၏ ပြုပြင်ပြောင်းလဲရေးအစီအစဉ်များကို ရင်ဆိုင်ဆောင်ရွက်ရသည့် အစဉ်အလာ ရှိသည်။ ဤသို့ ပြုပြင်ပြောင်းလဲရေး အစီအစဉ်ကို ချမှတ်ရာတွင် တမန်တော်မြတ်သည် အလျင်စလို နည်းလမ်းကို အသုံးမပြုခဲ့၊ နည်းစနစ်ကျပြီး ကြံ့ကြံ့ခံနိုင်သော နည်းလမ်းများဖြင့် ပြုပြင် ပြောင်းလဲရေးကို အစီအစဉ်အဖြစ် ချမှတ်ခဲ့သည်။

မက္ကာသားတို့သည် အိဗ်ရာဟီမ်နဗီကို ဆက်ခံသော မျိုးဆက် ဟုဆိုကြသော်လည်း ယင်းသူတို့သည်တမန်တော် အိဗ်ရာဟီမ်၏ အစဉ်အလာကို ဖျက်ဆီးပစ်ခဲ့ကြသည်။ ထိုမှ မိမိတို့၏ သဘောဖြင့် အစီအစဉ်အသစ်ကို ချမှတ်ခဲ့ကြသည်။ ဥပမာအားဖြင့် ဟဂျ်ကာလသတ်မှတ်မှုကို အိဗ်ရာဟီမ်နဗီက လကို တွက်ချက်ခြင်းဖြင့် အခြေခံခဲ့သည်။

နေရက်နှင့်လကို တွက်ချက်ရာတွင် လအားဖြင့် တစ်နှစ်လျှင် ရက်ပေါင်း ၁၁ရက်လျော့နည်းလာပြီး ယင်းလသို့ မူလပုံသေ အနေအထားသို့ ရောက်ရန် ၃၃နှစ်မျှ စောင့်မျှော်ရသည်။ သို့ဖြစ်၍ ဟဂျ်ကာလသည် ရာသီပြောင်းလဲ၍ ဖြစ်ခဲ့သော အစဉ်အလာရှိခဲ့သည်၊ သို့ရာတွင် မက္ကာသားတို့သည် သူတို့၏ စီးပွားအကျိုးကို အဓိကထားပြီး မူလအစီအစဉ်ကို ဖျက်စီးပစ်ခဲ့သည်။ ဤအကြောင်းကို ပြီးခဲ့သော အခန်းတစ်ခုတွင် ကျယ်ပြန့်စွာ ဆွေးနွေးထား၍ မဖော်ပြလိုတော့ပါ။

တမန်တော်မြတ်သည် အစ္စလာမ် လှုပ်ရှားမှုပုံစံကို အလ္လာဟ်အရှင်မြတ်က ဖြစ်စေလိုသော အစီအစဉ် စီမံကိန်း အတိုင်း ချမှတ်ကျင့်သုံးခဲ့သည်။ တစ်နည်းဆိုရသော် အလ္လာဟ်အရှင်မြတ်၏ ယန္တယားစက်ဝန်းတွင် မိမိ၏ စက်သွားကို အံဝင်အောင်ပြုကာ အစ္စလာမ်တည်းဟူသော စက်ကိုမောင်းနှင်နိုင်ခဲ့ခြင်းဖြစ်သည်။ ဤသို့အားဖြင့် ကြီးမားသောအကျိုး အားဖြစ်ထွန်းလာမှုကို ရှုမြင်ခံစားနိုင်ခဲ့ခြင်းဖြစ်သည်။

## မျက်မှောက်ခေတ်ကာလတွင် အစ္စလာမ် ဒါအ်ဝသ် ဖိတ်ခေါ်မှု

ဒါဝသ်ဖိတ်ခေါ်မှုကို ခေတ်နှစ်ခေတ်ဟူ၍ ပိုင်းခြား၍ လေ့လာနိုင်ပါသည်။ ပထမခေတ်က နောက်ဆုံးတမန်တော်မြတ် ☪ မပေါ်ထွန်းမီ ခေတ်၊ နောက်တစ်

ခေတ်က တမန်တော်မြတ် ﷺ ပေါ်ထွန်းလာပြီးနောက်ခေတ်ဖြစ်သည်။ တမန်တော်မြတ် မုဟမ္မဒ် ﷺ မတိုင်ခင် ကျရောက်လာခဲ့သော အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်တော်များကို ယင်းခေတ်ကာလက လူတို့စောင့်ရှောက်ရန် တာဝန်ဖြစ်ခဲ့သည်။ ယင်းကျမ်းဂန်များ နှင့် ပတ်သက်၍ ကျမ်းတော်မြတ် ကုရ်အာန်က استحفظ ၊ စောင့်ထိန်းစေသည်ဟု ဆိုထားသည်။

بما استحفظوا من كتاب الله وكانوا عليه شهداء

ယင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ကျမ်းတော်နှင့်အညီ လိုက်နာကျင့်သုံးကြရန်ကို ထိန်းသိမ်း စောင့်ရှောက်ရန် အမိန့်ပေးတော်မူခြင်း ခံခဲ့ကြရသည့် အပြင်၊ ယင်းတို့သည် ထိုကျမ်းတော်ကို လိုက်နာကျင့်သုံးကြပါမည်ဟု ဝန်ခံသူများလည်း ဖြစ်ခဲ့ခြင်း ကြောင့်ပင်။ကုရ်အာန်-၅း၄၄
သို့ရာတွင် ကျမ်းတော်မြတ်ကုရ်အာန်ကို စောင့်ထိန်းသိမ်းမှုနှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က တာဝန်ယူထားသည်ကို တွေ့မြင်ရသည်။

إنا نحن نزلنا الذكر وإنا له لحافظون

စကန်အမှန်ဤကျမ်းတော်မြတ်ကို ငါအရှင်မြတ်ကချပေးသည့်ကဲ့သို့ ဤကျမ်းတော်မြတ်ကုရ်အာန်ကို စောင့်ရှောက်ထိန်းသိမ်းရန်လည်းငါ၏တာဝန်ဖြစ်၏။

ကုရ်အာန်-၁၅း၉

တမန်တော်မြတ်မုဟမ္မဒ် ﷺ ၏ တာဝန်က ရှိရ်ကိုကို ပပျောက်အောင်ပြုရေးနှင့် သောင်ဟီဒ်ကို ပေါ်လွင်ထင်ရှား စေသော အသိအမြင်အဖြစ် လောကကြီးတွင် ပြဌာန်းရေးပင် ဖြစ်သည်။ကုရ်အာန်-၈း၃၉

وقاتلوهم حتى لا تكون فتنة ويكون الدين كله لله
فإن انتهوا فإن الله بما يعملون بصير

ဤတာဝန်ရပ်သည် အလ္လာဟ်အရှင်မြတ်၏ ကူညီပံ့ပိုးမှုဖြင့်သာလျှင် ပြီးမြောက်နိုင်သည်။ သို့ဖြစ်၍လည်း အလ္လာဟ် အရှင်မြတ်သည် နှစ်ပေါင်း ၁၅၀၀မျှသော အချိန်ကာလကို အသုံးပြု၍ အခြေအနေကောင်း ကို ဖန်တီး လာ

သည်။ ယင်းအခြေအနေ ကောင်းကို အသုံးချလျက် တမန်တော်မြတ်သည် ရှိရက်ကို ပျောက်ပျက်အောင် ပြုနိုင်ခဲ့ပြီး သောင်ဟီဒ်အတွေးအမြင်ကို လူတို့အတွက် ဆင်ခြင်နိုင်သော အဆင့်ကို ရောက်ရှိစေခဲ့ခြင်းဖြစ်သည်။

တမန်တော်မြတ်နှင့် အဆွဟာဗ် ရဲဘော်ရဲဘက်တို့၏ ကြိုးပမ်းလှုပ်ရှားမှု ရလဒ်အဖြစ်ရှိရက်သည် မှေးမှိန်ပျောက်ကွယ်လုမတတ် ထာဝရအတွက် နိမ့်ကျသော အဖြစ်သို့ ရောက်ရှိခဲ့ရသည်။ အနာဂတ်ကမ္ဘာတွင် ရှိရက်သည် ကြီးမားသော အရှိန် အတွေးအမြင်အားဖြင့် ခေါင်းထောင်နိုင်မည် မဟုတ်တော့။ ယနေ့မျက်မှောက်ခေတ်ကာလတွင် သောင်ဟီဒ်သဘောတရားသည် မြင့်မားသော နေရာမှ လျှောကျခြင်းမှာ ဘာသာတရားကိုယုံကြည်မှုမဲ့သော သဘောတရား ၏ တိုက်ခိုက်ခံရမှုကြောင့်ဖြစ်သည်။ ဘာသာတရားဆိုင်ရာကို ယုံကြည်ချက်မဲ့ကာ ယုံကြည်ချက်ဆိုင်ရာကို အဓိကမထားသော သဘောတရားကို လူအများ အတွေးအမြင် တစ်ရပ် အနေဖြင့် လက်ခံနေကြသည်။ ဤသို့အားဖြင့် သောင်ဟီဒ် သဘောတရားသည် တစ်ဆင့်လျှောကျခဲ့ရသော အခြေသို့ရောက်နေရခြင်းဖြစ်သည်။

ယနေ့ခေတ်တွင် ပြုရမည့် လုပ်ငန်းစဉ်က ဘာသာမဲ့တို့ ခံယူထားသော သဘောတရားကို လျှောကျအောင်ပြုပြီး သောင်ဟီဒ်ကို မူလနေရာသို့ လွှမ်းမိုးအောင်ပြုရေးပင်ဖြစ်သည်။ အနာဂတ်ကာလသည် ဘာသာတရားကို ယုံကြည်ခြင်းမဲ့သောခေတ်ဖြစ်လာမည်ကို အလ္လာဟ်အရှင်မြတ်ကသိသည်။သို့ဖြစ်၍ အလ္လာဟ် အရှင်မြတ်၏ ကူညီပံ့ပိုးမှုသည် ပြန်လည်၍ ပေးကမ်းလာခဲ့သည်။ နှစ်ပေါင်း၁၀၀ မျှသော စိမ်ကိန်း၏ လှုပ်ရှားမှုသည် သောင်ဟီဒ် ဖိတ်ခေါ်မှု၏ အခွင့်အလမ်းကို ပြန်လည်၍ ပေါ်ထွန်းလာစေဖို့ရန် လမ်းပွင့်စေခဲ့သည်။ ဤပေါ်ထွန်းလာမှုသည် ယခုအခါ အမြင့်ဆုံးအခြေ သို့ရောက်ရှိနေပြီဖြစ်သည်။

ယနေ့ကာလတွင် ဘာသာတရားကို ယုံကြည်မှုမဲ့သော အခြေအနေသည် လွှမ်းမိုးနေသယောင် ထင်မှတ်နေရသော်လည်း အကယ်၍ အခြေအနေနှင့် အခွင့်အရေးကို ကောင်းမွန်စွာ အသုံးချနိုင်ပါလျှင် သောင်ဟီဒ်၏ တွေးခေါ်မှု ဒဿနသည် ပြန်လည်၍ ဦးမော့ ရှင်သန်ကာ အထွတ်အထိပ်သို့ ရောက်မည်မှာ

အမှန်ပင်ဖြစ်သည်။

ပထမအဆင့်အနေဖြင့် ဒါဝသ်ဖိတ်ခေါ်မှုဖြင့် သောင်ဟိဒ်ကို ဖြန့်ချိရာမှ အင်အားကိုသုံးစွဲ၍ ဖြစ်ထွန်းမှုကို ဖြစ်စေသည်။

**وقاتلوهم حتى لا تكون فتنة**

အသင်တို့သည် သာသနာရေး ညှဉ်းပန်းမှု လုံးဝပပျောက်၍ သာသနာသည် အလ္လာဟ်အရှင်မြတ်အဘို့သာဖြစ်သွားသည့်တိုင်အောင် ထိုသူတို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြကုန်လော့။သို့ရာတွင် အကယ်၍စင်စစ် ထိုသူတို့သည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို ရပ်စဲကြပါမူ ကျူးလွန်နှိပ်စက်ညှဉ်းပန်းသူတို့မှတပါး အခြားသူတို့ အပေါ်ဝယ် မည်သို့မျှ ကျူးကျော်စော်ကားရန် အကြောင်းမရှိပေ။ကုရ်အာန်-၂း၁၉၃

**بل نقذف بالحق على الباطل فيدمغه فإذا هو زاهق**

စင်စစ်မှာကား ငါ အရှင်မြတ်သည် အမှန်ကို အမှားပေါ်၌ပစ်ပေါက်တော်မူ၏။ ထိုအခါ ယင်းအမှန်သည်ထိုအမှား၏ဦးနှောက်ကိုထွက်စေ၏။ ထိုအခါ ယင်း အမှားသည် ရုတ်တရက် ပျောက်ပျက်သွားလေ၏။ စင်စစ် အသင်တို့၌ မိမိတို့၏ ကြံဖန်စွပ်စွဲချက်များကြောင့် ပျက်စီးခြင်းသည် ရှိပေမည်။ကုရ်အာန်-၂၁း၁၈

ဒုတိယအဆင့်တွင် ယင်းတာဝန်ရပ်သည် ဒါဝသ်ဖိတ်ခေါ်မှုနှင့် တင်ပြနိုင်မှုပေါ်တွင် ပြည့်စုံစွာပေါ်ထွန်းလာမည် ဖြစ်သည်။

**سنريهم آياتنا في الآفاق وفي أنفسهم حتى يتبين لهم**
**أنه الحق أولم يكف بربك أنه على كل شيء شهيد**

မကြာမြင့်မီပင် ငါအရှင်မြတ်သည် ထိုသူတို့အား မိုးကုပ်စက်ဝိုင်းများ၌ လည်းကောင်း၊ ထိုသူတို့၏ ကိုယ်များ၌လည်းကောင်း။မိမိသက်သေလက္ခဏာတော် များကို ပြတော်မူမည်။ ဤသို့အားဖြင့် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည်သစ္စာ တရားဖြစ်ကြောင်း မျက်ဝါးထင်ထင်သိသာထင်ရှား၍ လာပေမည်။အို-နဗီတမန် တော်၊ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည်ပင် အသင့်အဖို့ လုံလောက်တော်မူသည် မဟုတ်လော။စင်စစ်မလွဲထိုအရှင်မြတ်သည် အရာခပ်သိမ်း တို့ကို မြင်တော်မူ သော အသိသက်သေပင် ဖြစ်တော်မူ၏။ကုရ်အာန်-၄၁း၅၃

**တွေးခေါ်မှုဆိုင်ရာ ပြုပြင်တော်လှန်ရေး**

မျက်မှောက်ခေတ်တွင် အလွန်ကြီးမားလှသောတွေးခေါ်မှုဆိုင်ရာတော်

လှန်ပြုပြင်ရေးတစ်ရပ် ဖြစ်ထွန်းလာခဲ့သည်။ ဤတော်လှန်ရေးသည် သိပ္ပံပညာနှင့် နည်းပညာတော်လှန်ရေးဖြစ်သည်ဟု ဆိုရမည်။တော်လှန်ရေးကိုဖေါ်ပြရာတွင်ယင်းစကားလုံး ဝေါဟာရထက်ကောင်းမွန် သိလျော်သောစကားလုံး မရှိပါ။

ခေတ်သစ်သိပ္ပံတော်လှန်ရေး တွေးခေါ်မှုသည် လူ့သမိုင်းတွင်ပထမဦးဆုံး အနေဖြင့် လူတို့၏စဉ်းစားတွေးခေါ် ဆင်ခြင်တတ်သောအမြင်ကိုပေါ်ထွန်းကွန့်မြူးပေးခဲ့သည်။ဤတော်လှန်ရေးကြီးသည်သောင်ဟီဒ်ဘက်သို့ဒါအ်ဝသ်ဖိတ်ခေါ်မှုနှင့်လျော်ညီလှသည်။ ဤတော်လှန်ရေး၏ ဖြစ်ထွန်းလာမှုကိုနည်းလမ်းမှန်ကန်စွာ အသုံးချနိုင်ခဲ့ပါလျှင် သောင်ဟီဒ်သည်အပေါ်စီးရယူနိုင်သော အခွင့်အရေးပြည့်အဝရှိသည်။ခေတ်ဟောင်းကာလကလက်နက်အားဖြင့်ပြုရသောအလုပ်ကိုယခုအခါ ကလောင်အားဖြင့် ဘာသာစကားရှုထောင့်မှ ပြုလုပ်၍ ရနိုင်ပါသည်။

ခေတ်သိပ္ပံတော်လှန်ရေးသည် အစ္စလာမ် ခေတ်ဦးကာလ အစ္စလာမ်တော်လှန်ရေးကြီး၏ အစွန်းထွက်ရလဒ် By product ပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ့်တော်လှန်ရေးအားဖြင့် အခြေအနေကောင်းများအတွက် နည်းလမ်းများကို ပေါ်ထွန်းလာစေခဲ့ပါသည်။ ဤသို့အားဖြင့် လူ့သမိုင်းတွင် ပြုပြင်ပြောင်းလဲမှုများကို စတင်နိုင်ခဲ့ခြင်းဖြစ်သည်။ ဤတော်လှန်ရေးကြီး၏ ဖြစ်ထွန်းလာမှုသည် ခေတ်သိပ္ပံတော်လှန်ရေးကြီးကို ဖြစ်ပေါ်လာစေခဲ့ပါသည်။

အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ်ခေတ်ဦး ကာလ ရှိရ်က်အပေါ် သောင်ဟီဒ်က အပေါ်စီးရယူနိုင်စေရန် အခွင့်အလမ်းများကို ပေါ်ထွန်းစေခဲ့ပါသည်။ ဤအကျိုးဖြစ်ထွန်း လာမှုရလဒ်သည် ဘာသာရေးယုံကြည်ချက်မဲ့သော ခေတ်ကာလတွင် သောင်ဟီဒ်သဘော တရားကို ပို့ချရန် စွမ်းအားအဖြစ် သုံးစွဲနိုင်ရန်ပင်ဖြစ်သည်။ အစ္စလာမ်ကပို့ချသော သောင်ဟီဒ်တော်လှန်ရေးမတိုင်ခင်ကာလ တစ်ကမ္ဘာလုံးတွင် ရှိရိက်သည် လွှမ်းမိုးချုပ်ကိုင် လျက်ရှိနေသည်။

ရှိရိက်ဟူသည် ရုပ်ပစ္စည်းကို ဆည်းကပ်မှု၏ အမည်နာမသာဖြစ်သည်။ လူတို့သည် ကမ္ဘာပေါ်ရှိ ထွတ်မြတ်လှသည်ဟူသော အသိဖြင့် ယင်းသူတို့ထက်

သာလွန်သော အရာများကို ဆည်းကပ်ကိုးကွယ်ခဲ့ကြသည်။ ဤကိုးကွယ်ဆည်းကပ်ခံနေရသောအရာများတွင်နေနှင့် လ ကဲ့သို့ရုပ်ပစ္စည်းသာမကကမ္ဘာပေါ်တွင် ဩဇာအာဏာရှိသော လူပုဂ္ဂိုလ်များသည်လည်း ဖြစ်ခဲ့ရသည်။ ယင်းရှိနေက လွှမ်းမိုးသော ခေတ်ကြီးတစ်လျှောက် သိပ္ပံနှင့် ပတ်သက်သော သုတေသန ပြုမှု စူးစမ်းလေ့လာမှုများသည် ဖြစ်ထွန်း လာခဲ့ခြင်းမရှိ ဖြစ်ခဲ့သည်။

သမိုင်းပညာရှင်ကြီးအားနိုးတွိန်ဗီ ၏ စကားအရ ဆိုရသော် သဘာဝလောကကြီး၏ ယန္တရားသည်ကိုးကွယ်ဆည်းကပ်ရာအရာObject of Worship ဖြစ်နေချိန်တွင် ယင်းအရာများသည် စူးစမ်းသုတေသန ပြုရသောအရာ Object of Investigationအဘာယ်သို့ဖြစ်နိုင် ပါမည်နည်း။ အစ္စလာမ်သည် ရှိနေကို ပပျောက်အောင်ပြုခဲ့ပြီး သောင်ဟီဒ်ကိုရှင်သန်စေခဲ့သည်။ ဤသို့သော အခြေအနေတွင် အလ္လာဟ်အရှင်မြတ်ကို ဖန်ဆင်းရှင်အဖြစ် သိမြင်ပြီး ကျန်အရာအားလုံးသည် ဖန်ဆင်းခံများ ဖြစ်ကြသည်ကို လူတို့ သိမြင်လာတော့သည်။

ဤတော်လှန်ရေးကြီး သည် အရာအားလုံးကို သုတေသနပြု စူးစမ်းလေ့လာနိုင်သောအခွင့်အရေး ကိုတံခါးဖွင့်ပေးခဲ့သည်။ ဤသုတေသနပြု စူးစမ်းရသော အသိအမြင်သည် အစ္စလာမ့်ခေတ်ဦးက စတင်နိုင်ခဲ့ပြီဖြစ်သည်။ တစ်ခါက နေကြတ်ချိန်တွင် တမန်တော်မြတ်က ရှင်းပြသည်မှာ နေကြတ်ခြင်းနှင့် လကြတ်ခြင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာများမှ ဖြစ်သည်။ ဤသည် ပုဂ္ဂိုလ်တစ်ဦးဦး မွေးဖွားလာမှု၊ သေဆုံးရမှုနှင့် မည်သို့မျှ မသက်ဆိုင်ပါ။ ဤသို့အားဖြင့် လူတို့၏ ရုပ်ဝတ္ထုဆိုင်ရာ အစွဲအလမ်းကို ရှင်းလင်းပယ်ဖြတ်ခဲ့သည်။

ထိုမှတစ်ဖန် အတိတ်က ထင်ယောင် ထင်မှား ယူဆချက်ကိုလည်း အသိဖြင့် ချေပနိုင်ခဲ့သည်။ ဤကဲ့သို့သော သောင်ဟီဒ်ကိုအခြေခံသည့် အတွေးအမြင်များသည် ဥရောပတိုက်သို့ ပြောင်းရွှေ့ရောက်ရှိလာသောအခါ ဤသည် ကြီးမားလှသော လူမှုဆိုင်ရာနှင့် သိပ္ပံပညာရေး ဆိုင်ရာတော်လှန်ရေးကြီးကို ဖြစ်ထွန်းလာစေသော အကြောင်းခံဖြစ်ခဲ့ရတော့သည်။

(၁) ဤတော်လှန်ရေးကြီး အကျိုးဖြစ်ထွန်းလာမှုသည်ကား ထင်ယောင်

ထင်မှား ကြောက်စိတ်များဖြင့် ဆည်းကပ်မှု သည် ကုန်ဆုံးခဲ့ရသည်။ ထင်ယောင်ထင်မှား ကြောက်စိတ်များဖြင့် ဆည်းကပ်မှုသည် ယထာဘူတနည်းကျ စူးစမ်းလေ့လာ ဆင်ခြင်မှုမဲ့စွာ သုံးသပ်အဖြေရှာမှုကို ခေါ်သည်။ အကြောင်းအရာ တစ်ခုအတွက် နမိတ်လက္ခဏာများကို အခြေအမြစ်မဲ့စွာ သတ်မှတ်ခြင်းကဲ့သို့သော ထင်ယောင်ထင်မှား သတ်မှတ်ချက်များကို အစ္စလာမ်က ပိတ်ပင် တားမြစ်သည်။ ဤသို့ နမိတ် ဖတ်ခြင်းကဲ့သို့ ထင်ယောင်ထင်မှား သတ်မှတ်ချက်များသည် အစ္စလာမ့်ဒေသနာတော်နှင့် လုံးဝဆန့်ကျင်သော အယူအဆ ဖြစ်သည်။ ဤအယူအဆများသည် အစ္စလာမ်ဘက်သို့ ချဉ်းကပ်ရာတွင် အလွန်ကြီးမားသော ပိတ်ဆို့မှုတစ်ရပ် အဖြစ်ရှုမြင်ရသည်။ ဤကဲ့သို့သောယူဆချက်ထားရှိသူတို့သည်အစ္စလာမ်၏ ထွတ်မြတ်မှုဝိသေသနှင့် အခြားယုံကြည်ချက်၏ အားနည်းချက်များကို ချင့်ချိန် သိမြင်နိုင်စွမ်းရှိမည် မဟုတ်ပါ။ အကြောင်းမှု ယင်းသူသည် ဆင်ခြင်သုံးသပ်နိုင်သော ကိုယ်ပိုင်စွမ်းဆောင်နိုင်မှု မရှိ၍ ဖြစ်သည်။

အစ္စလာမ်သည် ဆင်ခြင်တတ်မှုကို အလေးပေးသော ယုံကြည်ချက်ဖြစ်ပြီး သမိုင်းအစဉ်အလာအရ အစ္စလာမ်သည် ကျိုးကြောင်းများဖြင့် ရှင်းလင်း ဖော်ပြနိုင်စွမ်းရှိသည်။ သို့သော် အစွဲအလမ်းများဖြင့် အယူသည်းသောအစွဲရှိ သူတို့အဖို့ရာတွင် ဤအချက်ကို အသုံးချနိုင်မည် မဟုတ်ရပါ။ ဤသို့သော သူများသည် အတိတ်က ယုံကြည်ချက်ဆိုင်ရာကဲ့သို့ ထင်ယောင် ထင်မှား မှန်းဆ ချက်ကို အသုံးပြုလိုက်နာသူတို့နှင့် ထပ်တူထပ်မျှ ဖြစ်သည်။

ယနေ့မျက်မှောက်ခေတ်ကာလသည် ဆင်ခြင် သုံးသပ် ဆန်းစစ်မှုကို အထူးပြုလက်ခံရုံသာမက ဝေဖန်သုံးသပ်မှုဆိုင်ရာ ဘာသာရပ်သည်လည်း ပေါ်ထွန်းလာပြီဖြစ်သည်။ ဤဘာသာရပ်ပေါ်တွင် အခြေခံ၍ ဆုံးဖြတ်မှုကြောင့် အစ္စလာမ်သည် သမိုင်းကြောင်းကို ဝိသေသလက္ခဏာရပ်များနှင့် ပြည့်စုံသော ယုံကြည်ချက်အဖြစ် အသိအမှတ်ပြုခံရခြင်းဖြစ်သည်။ အခြားသော ယုံကြည် ချက်များသည် ဤသို့သော အရည်အချင်း ဆန်းစစ်မှုကို အောင်မြင်ခြင်းမရှိပါ။

(၂) သိပ္ပံရှုထောင့်မှနေ၍ စကြဝဠာနှင့် သဘာဝလောကကြီးကို လေ့လာမှု

သုတေသနပြုမှုများ၏ရလဒ်ကိုသိပ္ပံသုတေသီ တို့က ဆန်းစစ်ယူခဲ့ကြသည်။ ဤသို့ လေ့လာခြင်းအားဖြင့် စကြဝဠာနှင့် သဘာဝလောကကြီးဆိုင်ရာ လျှို့ဝှက်လှသော အချက်အလက် အများအပြားကို အံ့ဖွယ်ရာ သိမြင်ခွင့်ရရှိခဲ့သည်။ ဤသိပ္ပံပညာရှင်တို့၏ စူးစမ်းမှုမှ ရရှိသော အချက်အလက် များသည် အစ္စလာမ့်သွန်သင်ချက်နှင့် ကိုက်ညီထောက်ခံပေးနေသကဲ့သို့ ဖြစ်နေသည်။ လူသား သိပ္ပံပညာရှင်တို့၏ စူးစမ်းလေ့လာချက်အရ သဘာဝလောကကြီးတွင် သဘာဝတရားသည် စည်းစနစ်တိကျစွာ ဖြစ်ထွန်းလျက်ရှိနေသည်။

ဤသဘာဝလောကကြီးသည် စနစ်ဇယားတစ်ခုအားဖြင့် တိကျမှန်ကန်သော အနေအထားဖြင့် လှည့်ပတ်တာဝန်ထမ်းဆောင်နေသည်။ ဤပထဝီမြေကြီးပေါ်တွင် တွေ့မြင်ရသော စနစ်ဇယားအနေအထားသည် သဘာဝလောကကြီးဖြစ်သော စကြဝဠာတွင်လည်း တိကျသော စနစ်ဇယားများအားဖြင့် တာဝန်ထမ်းဆောင်နေကြောင်း တွေ့မြင်ခဲ့ရသည်။ ဤဖော်ပြချက်များ ရှာဖွေစူးစမ်းရရှိလာမှုများက အသိပေးသည်မှာ ဤစကြဝဠာတစ်ခုလုံးကို စနစ်ဇယားတစ်ခုတည်းဖြင့်လှည့်ပတ်လှုပ်ရှားအောင်ပြုနေသော အရှင်သည်လည်း တစ်ပါးတည်းသော အရှင် အလ္လာဟ်သာဖြစ်သည်။ ဤစနစ်ဇယားကို ဖြစ်ထွန်းအောင်ပြုသော အရှင်သည် နှစ်ဦးနှင့် များပြားလှသော အရှင် မဖြစ်နိုင်ကြောင်း သက်သေလက္ခဏာတစ်ရပ်ပင် ဖြစ်သည်။

(၃) အတိတ်ခေတ်ကာလက သောင်ဟီဒ်ကို အခြေခံသော ယုံကြည်ချက်ကို လက်ခံနိုင်စေဖို့ရန် အတားအဆီးတစ်ခုက ခေတ်ဟောင်းဒဿနအမြင် အတွေးအခေါ်ပင်ဖြစ်သည်။ အစ္စလာမ်မတိုင်ခင်ကာလက ဒဿနိကဗေဒ ဘာသာရပ်သည် ပညာရေးနယ်ပယ်တွင် အမြင့်ဆုံးနေရာကို ယူထားခြင်းဖြစ်သည်။ ပညာရှင်တို့သည် ဒဿနအမြင်ဖြင့် စဉ်းစားဆုံးဖြတ်လေ့ရှိသည်။ ဤလူတို့၏ တွေးခေါ်မှုကို အခြေခံတည်ဆောက်ထားသော ဆုံးဖြတ်မှုများသည် သောင်ဟီဒ်အတွက် အတားအဆီးဖြစ်နေခြင်း ဖြစ်သည်။

အတိတ်ခေတ်ကာလ ဒဿနပညာရှင်တို့၏ နောက်ဆုံးဦးတည်ချက်

သည်ကား ပကတိသစ္စာတရားကို ရှာဖွေရယူခြင်းပင်ဖြစ်သည်။ သို့ရာတွင် နှစ်ပေါင်း ၅၀၀၀ မျှသော ဒဿနသမိုင်းစဉ်သည် ပကတိ သစ္စာတရားကို ရှာဖွေ ရယူရာတွင် မစွမ်းနိုင်ဖြစ်နေသည်။ ဤသို့ဖြစ်ရခြင်းမှာ လူတို့၏တွေးခေါ်မှု သိမြင်နိုင်စွမ်းသည် အကန့်အသတ်ဘောင်ခတ် ထားမှုကြောင့် ဖြစ်သည်။ သို့ဖြစ်၍ ပကတိသစ္စာတရားကို အထွတ်အထိပ်အထိ တက်လှမ်းနိုင်စေဖို့ရန် မစွမ်းနိုင်ဖြစ်နေရ၏။

ဤဒဿနရှုမြင်မှု အတွေးအမြင်များဖြင့် လူတို့အနေဖြင့် နှစ်ပေါင်း ၁၀၀၀မျှ သောင်ဟီဒ်ကို အခြေခံသော သိမြင်တတ်မှုကို လူသားတို့အတွက် ကျိုးကြောင်းပြ သိမြင်တတ်မှု အသွင်သို့ပြောင်းလဲပစ်လိုက်ကြသည်။ ဤသောင်ဟီဒ်ဆိုင်ရာ သိမြင်မှုသည် ဂိုင်ဗ်နှင့် ဆက်နွှယ်နေသည်။ ဤဂိုင်ဗ်၏ အသိကို လူတို့အနေဖြင့် မသိမြင်နိုင်ပေ။

ခေတ်သိပ္ပံ၏ယုံကြည်ချက်ဆိုင်ရာသိမြင်တတ်မှုနှင့်စပ်လျဉ်း၍ ဖော်ညွှန်းရာတွင် လူ၏သိမြင်တတ်မှုအသိသည် ဘောင်ခတ်ထားသော အကန့်အသတ် အတွင်းသာ ရှိသည်ဟူသော သတ်မှတ်သိမြင်လာမှုပင်ဖြစ်သည်။ ယင်းဘောင်ကိုကျော်၍ အရာတစ်ခု၏ခုံးမှတ်ကို ထိုးဖောက်သိမြင်နိုင်မည်မဟုတ်ပါ။ ယနေ့ခေတ်ကာလတွင် လူတို့သည်အတိတ်က ခံယူထားသော ဒဿနအမြင် ကို ခေတ်သိပ္ပံ၏ အခြေခံသော အတွေးအမြင်က လွှမ်းမိုးသွားပြီဖြစ်သည်။

ဤတွေးခေါ်မှုပြောင်းလဲဖြစ်ထွန်းလာခြင်းသည် သောင်ဟီဒ်သဘောတရားကို လမ်းရှင်းပေးလိုက်ပြီး ဖြစ်သည်။ ယခုအခါ လူသားတို့ အဖို့ရာတွင် စစ်မှန်သော ပကတိ သစ္စာတရားကို ချဉ်းကပ် ရယူနိုင်စေဖို့ရန် တမန်တော်မြတ်၏ နည်းနာခံယူမှု မှလွဲ၍ အခြားမရှိတော့ပါ။ယခုအခါ အလ္လာဟ်အရှင်မြတ်၏ တည်ရှိမှု၊ ဝဟီလမ်းညွှန်ချက် နှင့် အာခေရသ် သဘောကို မျက်စိရှေ့မှောက်တွင် ကွက်ကွက်ကွင်းကွင်း ပေါ်လာအောင် ပြပေးရမည်ဟူသောတောင်းဆိုမှု သည် ဆင်ခြင်မဲ့သော ပညာမပါသောမေးခွန်းနှင့် ဆင်ခြင်မဲ့သောတောင်းဆိုချက်ဖြစ်နေပြီဖြစ်သည်။

မျက်မှောက်ခေတ်ပညာရေး၏ တိုးတက်လာသော ရှာဖွေတွေ့ရှိချက်သည်ကား လူသည် ကန့်သတ်ထားသော အသိနှင့် ပညာဘောင်အတွင်းသာ

တွေးခေါ်နိုင်သည်ဟူသော အမြင်ကို သိမြင်လာပြီးဖြစ်သည်။ လူသားတို့ အနေဖြင့် စကြဝဠာကြီးကို စူးစမ်းလေ့လာသောအခါ ယင်း၏လျှို့ဝှက်လှသောအံ့ဖွယ်ရာ အသိအမြင်ဆိုင်ရာသည် အကန့်အသတ်ဖြင့် သိမြင်နေရကြောင်း သိရှိလိုက်ရသည်။ ဤဖန်ဆင်းတည်ဆောက်ထားမှုကိုပင်လျှင် အကန့်အသတ်ဘောင်အားဖြင့် သိမြင်စူးစမ်းမှု ပြုနေရခြင်းသည် အစ္စလာမ်၏သဘောဖော်ပြချက်ကိုထပ်မံ၍ ဖြည့်ဆည်းထောက်ခံနေခြင်းဖြစ်သည်။ ဤသည် အလွန်အရေးပါသော သိမြင်မှုဖြစ်ပြီး အလ္လာဟ်အရှင်မြတ်၏ ဝဟီပို့ချမှုဆိုင်ရာ၏ အရေးပါမှုကို ထင်ဟပ်စေပါသည်။

လူသားတို့ အနေဖြင့် တစ်ဖက်တွင် အရာတစ်ခု၏ရင်းမြစ်ကို သိမြင်လိုသောအာသီသရှိပြီး ကျန်တစ်ဖက်တွင် လူတို့အနေဖြင့် ယင်းတည်ဆောက်ထားမှု အနေအထား၏ ကျေးကျွန်ဖြစ်နေသည်။ သို့ဖြစ်၍လည်း အရာတစ်ခု၏ မှန်ကန်သောအနေအထားကို ဇစ်မြစ်အထိ မစူးစမ်းနိုင် ဖြစ်နေရခြင်းကို တွေ့ရသည်။ သို့ဖြစ်၍လည်း လူတို့အတွက် ဘဝတည် ဆောက်မှုဆိုင်ရာ လမ်းညွှန်ပြသမည့်သူ တစ်ဦးသည် လိုအပ်သော အရာဖြစ်နေသည်ကိုသိမြင်လာသည်။

ဤသည်ကို တစ်နည်း အားဖြင့် ဆိုရသော် တမန်တော်မြတ်၏ နာခံမှု နည်းစဉ်ပင် ဖြစ်သည်။ လူသားတို့၏ သိမှုဆိုင်ရာ၏ ဘောင်ခတ်ထားမှုအကြောင်း ကို မျက်မှောက်ခေတ်၏ တိုးတက်သော လူမှုသိပ္ပံပညာရှင်တို့၏အဆိုအမိန့်များသည် တမန်တော်မြတ်၏ လမ်းညွှန်ပြသမှုဆိုင်ရာ အနေအထားကို ရှင်းလင်းစွာ သက်သေပြုလိုက်ခြင်းပင် ဖြစ်တော့သည်။

(၄) အစ္စလာမ်မတိုင်ခင်က ခေတ်ဟောင်းကာလက လူတို့အဖို့ သူတို့၏ အသိအမြင်ကိုလွတ်လပ်စွာထုတ်ဖော်ပိုင်ခွင့်မရှိပါ။ ဤသို့ဖြစ်ခြင်း မှာ သက်ဦးဆံပိုင် ဘုရင်မင်းမြတ်နှင့် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့ကို ဦးထိပ်ထားခြင်းအယူအဆကြောင့် ဖြစ်သည်။ မည်သူမဆို အကြောင်းအမျိုးမျိုးကြောင့် အထွတ်အထိပ်သို့ ရောက်ခဲ့လျှင် ယင်းသူကို ထူးခြားသောပုဂ္ဂိုလ်ထူးဟု ခေါ်ဆိုကြသည်။ ယင်းသူတို့၏ အဆိုအမိန့် စကား ရပ်များကို အခြားသူတို့၏ အဆိုထက် မြင့်မားသော နေရာတွင် ထားရှိ လေ့ရှိသည်။ ဤသို့အားဖြင့် ယင်းပုဂ္ဂိုလ်ထူးတို့အဖို့ လူတို့အပေါ်တွင် အပေါ်စီးဖြင့်

သူတို့၏ စကားကို လွှင့်ထူနိုင်ခဲ့ကြသည်။ အခြားသူတို့အနေဖြင့် သူတို့၏ သဘောထားကို ယင်းဩဇာရှိသော သူကို ပုံအပ်လိုက်ရတော့သည်။

သောင်ဟီဒ် သဘောတရား၏ အပေါ်စီးလွှမ်းမိုးမှုသည် ယင်းလူပုဂ္ဂိုလ်ကိုးကွယ်မှုအစဉ်အလာကို ဖျက်သိမ်းပစ်လိုက်သည်။ သောင်ဟီဒ်က မည်သူတစ်ဦးတစ်ယောက်ကမျှ တစ်ဦးတစ်ယောက်ကို အပေါ်စီးချုပ်ကိုင်နိုင်ခြင်း မရှိစေရဟုဆိုသည်။ဤသောင်ဟီဒ်ကို အခြေခံသောသဘောတရားသည်သစ်လွင်သော အတွေးအမြင်အနေဖြင့် သမိုင်းကဏ္ဍသစ်ကို လွှင့်ထူနေရာယူနိုင်ခဲ့သည်။ ဤအတွေးအမြင်၏ အနှစ်ချုပ်သည် ဥရောပတိုင်တွင် ဒီမိုကရေစီစနစ်အဖြစ် အမြင့်မားဆုံးသော ရုပ်လုံးဖော်မှုကို ဖြစ်စေခဲ့သည်။ ဤဒီမိုကရေစီဟူသော စနစ်သည် လူသားအားလုံး တန်းတူရည်တူ ဖြစ်သည်ဟု ဆိုသည်။

ဒီမိုကရေစီစနစ်က မည်သူမဆို လွတ်လပ်စွာတွေးခေါ်စဉ်းစားပိုင်ခွင့်ရှိသည်။လွတ်လပ်စွာရေးသားထုတ်ဝေခွင့်ရှိသည်။ လွတ်လပ်စွာဖော်ထုတ် ပြောခွင့်ရှိသည်။ ဤဒီမိုကရေစီစနစ်တည်းဟူသော တော်လှန်သော အမြင်ရှိလာခြင်းကြောင့်လူ့သမိုင်းတွင် ပထမဦးဆုံးအနေဖြင့် အလ္လာဟ်အရှင်မြတ်ဘက်သို့ ဒါဝသ်ဖိတ်ခေါ်မှုပြုရာတွင်မည်သည့်အတားအဆီးအနှောက်အယှက်မှမရှိတော့။မည်သည့် အင်အားစုကမျှ အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်မှုကို တားဆီးပိုင်ခွင့် မရှိတော့။

(၇) ခေတ်သစ်သိပ္ပံသည်လူတို့အတွက် အလ္လာဟ်အရှင်မြတ်၏ ဖုံးကွယ်နေသော ပေးကမ်းမှုများကို ရယူနိုင်စေဖို့ အခွင့်အလန်းဖွင့်ပေးလိုက်သည်။ ဤသည့်နေအ်မသ် ပေးကမ်းမှုများသည် သဘာဝလောကကြီးအတွင်း နှစ်ပေါင်း ၁၀၀၀ ချီ၍ ဖုံးကွယ်ခံနေခဲ့ရသည်။ ဤခေတ်သစ်သိပ္ပံ၏ လူသားတို့အတွက် ရှာဖွေဖော်ထုတ်များပြောင်လှစွာသော အကျိုးကျေးဇူးသည် အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်မှုအတွက်ဆက်သွယ်ရေး ပစ္စည်းလက်နက်ဖြစ်နေသည်။ ပုံနှိပ်မီဒီယာနှင့် အီလက်ထရောနစ်မီဒီယာ အဖြစ် ယနေ့ သုံးစွဲ နေရသော စာပုံနှိပ်စက်များ ရေဒီယို၊ တယ်လီဗီးရှင်း၊ အင်တာနက်မှ ဝက်ဘ်ဆိုက်များ၊ ခေတ်မီလျင်မြန်စွာ ခရီးသွားနိုင်သော ယာဉ်များသည် အစ္စလာမ့် ဒေသနာတော်များကို ဖြန့်ချိ ဒါအ်ဝသ် ပြုရန် ကြီးမားသော နေအ်မသ်ပေးကမ်းမှုများ ဖြစ်နေပါသည်။ ယင်း မီဒီယာကို အသုံးပြု၍

အစ္စလာမ့်ဒါဝသ်လုပ်ငန်း ကို ကြီးမားသော အရှိန်အဟုန်ဖြင့် ဆောင်ရွက်နိုင်ပါသည်။

ယနေ့ခံစားနေရသော အစ္စလာမ့်ဒါအ်ဝသ်အတွက် ကြီးမားသော အကျိုးပြုဆောင်ရွက်ချက်များသည်နှစ်–၅၀၀ အလည်းက ကြိုးပမ်းချက်မှ ရရှိသော ရလဒ်ဖြစ်သည်။ ယခင်နှစ်ပေါင်း ၁၅၀၀မျှသော ကာလတွင် ဖြစ်ထွန်းလာမှုကို အကြောင်းပြု၍ အစ္စလာမ့်ခေတ်ဦးကာလအတွက် ဖြန့်ချိလွှမ်းမိုးစေခဲ့သလို ယနေ့ အချိန်အခါသည်လည်း လွန်ပြီးသော နှစ်တစ်ထောင် ကာလ၏ ကြိုးပမ်းမှုရလဒ် အဖြစ် အစ္စလာမ်ကို ပြန်လည် ဦးမော့လာစေဖို့ရန် အကြောင်းခံ ဖြစ်နေပါသည်။

ဤသည် ဒုတိယအကြိမ် လွှမ်းမိုးမှုအတွက် လမ်းဆပ်ဖြစ်သည်။ ဤသည် အလိုအလျောက် ဖြစ်ထွန်းလာမည် မဟုတ်ပါ။ ဤလုပ်ငန်းစဉ်အတွက် ရှင်သန် နိုးကြားသော လူ့အဖွဲ့အစည်းတစ်ရပ်ကို ပေါ်ထွန်းလာစေရန် ပထမဖန်တီး တည်ဆောက် ယူရပါမည်။ မကြာခင်ကာလတွင် အစ္စလာမ့်ဒါဝသ်ဖိတ်ခေါ် လှုပ်ရှားမှုသည် ဒုတိယအကြိမ် အရှိန်မြင့်မားစွာ ပေါ်ထွန်းလာ မည်ဖြစ်ပေသည်။ ပထမအစ္စလာမ်အစဦးကာလကရှိရက်ကို ချုပ်ငြိမ်းစေသောလှုပ်ရှားမှု ပေါ် ပေါက်ခဲ့သည်ကို သတိပြုပါ။

ဖော်ပြခဲ့ပြီးသော အခြေအနေအရပ်ရပ်၏ ဖြစ်ထွန်းလာမှုကို လွန်ခဲ့သော နှစ်၁၀၀ နီးပါးအချိန်အတွင်း လူ့အစုအဝေးတစ်ခု ပေါ်ထွန်းလာစေဖို့ရန် စောင့် မျှော်ခဲ့ကြသည်။ သို့ရာတွင် ဤခေတ်အစုအဝေးသည် ဖြစ်ထွန်းလာခြင်း မရှိသေးပါ။ လွန်ခဲ့သောနှစ်၁၀၀ ကာလတွင်း များပြားသောအဖွဲ့အစည်းများနှင့် လှုပ်ရှားမှုများ ပေါ် ပေါက်လာခဲ့သော်လည်း ယင်းတို့သည်ကြာရှည်မခံ ခဏတာအတွက် အဖွဲ့ အစည်းများဖြစ်ကြသည်။ နိုင်ငံရေးကိုအကြောင်းခံ၍ ပေါ်ထွက်လာသော အစု အဝေးများလည်းရှိသည်။ ဖြစ်သင့်သည်မှာ လူတို့၏ တွေးခေါ်မှုကို ဆန်းသစ်သော အတွေးအမြင် ဖြစ်ထွန်းစေရမည် ဖြစ်သည်။ ယင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ နည်းစဉ်ဖြစ်သော ရဗ်ဗာနီပုံစံဖြင့် တည်ရှိရမည်။ ဤနည်းသည် နှစ်ပေါင်း ၁၀၀ထနီးပါး ဟိဂျ်ရီ ၁၄ရာစုအထိ စောင့်ထိန်းခဲ့သည်ကိုလည်း သိမြင်အပ်သည်။

တမန်တော်မြတ်၏ စီရတ် အတ္တုပ္ပတ္တိကျမ်းများ၏ ဖော်ပြချက်အရ သိရှိရသည်မှာ ဗဒရ်စစ်ပွဲကာလတွင် အင်အား ကြီးမားသော မက္ကာသား ကာဖိရ်

တို့၏ အင်အားစုသည် အင်အားချည့်နဲ့လှသော အီမာန်ရှင် တို့အပေါ် လွှမ်းမိုး ချုပ်ကိုင်ရန်ကြိုးစားနေချိန်တွင် တမန်တော်မြတ်သည်အလ္လာဟ်အရှင်မြတ်ထံ စိတ်ဒုက္ခပြုလျက် မွတ်စလင်မ်တို့ကို အောင်မြင်မှုရရှိစေလိုကြောင်း ဆုမွန်တောင်း ခံခဲ့သည်။ ထိုစဥ်ကာလက တောင်းခံခဲ့သော ဆုမွန်တွင် အောက်ပါစကားရပ် သည်လည်း ပါခဲ့သည်။

اللهم ان تهلك هذه العصابة لا تعبد بعد هافى الارض

'အို-အလ္လာဟ်အရှင်မြတ်၊ ဤအစုအဝေးသည် ကျဆုံးပါလျှင် ယင်း နောက်ပိုင်း ပထဝီမြေကြီးပေါ်တွင် အရှင့်အား နာခံသူဘန်ဒါများ ရှိမည်မဟုတ်ပါ။

ဤစကားရပ်သည် အခြေအမြစ်မရှိသော စကားမဟုတ်ပါ။ ဤသည် ပကတိ အမှန်တရားဖြစ်စဥ်ဖြစ်သည်။ ၃၁၃ ဦးသော အီမာန်ရှင်သည် မရှိမဲ့ ရှိမဲ့ ရရာလက်နက်များဖြင့် ဗဒရ်စစ်မြေတွင် ရန်သူများကို ရင်ဆိုင်ကာ ရပ်နေကြသည်။ ဤ (၃၁၃)ဦးသော ပုဂ္ဂိုလ်တို့သည် သာမန်လူပိန်းများ မဟုတ်ပါ။ ဤလူစု လူဝေးသည်နှစ်ပေါင်း၁၅၀၀ မျှသော ကာလအတွင်း စီမံကိန်းချမှတ်ပြီး ပေါ်ထွန်း လာခဲ့သော အစုအဝေးပင် ဖြစ်သည်။

ဤကဲ့သို့ပင် ယနေ့ခေတ်ကာလတွင်လည်း စီမံကိန်းချမှတ်ထားပြီး အတိတ်က ရှိခဲ့ကြသော အောင်ပွဲခံ အစုအဝေး ကို ဆက်ခံသော မျိုးဆက်သစ်များ ဖြစ်ရပါမည်။ ယင်းအစုအဝေးသည် တွေးခေါ်မှုတွင် အဆင့်မြင့်မားရုံမျှမက လက်တွေ့ ဘဝတွင်လည်း ထက်မြက်သော စွမ်းဆောင်ရှင်များ ဖြစ်ရပါမည်။

သူတို့သည် သူတို့၏ အစွမ်းဖြင့် အခြေအနေကောင်း တစ်ရပ်ကို ဖြစ်ထွန်းလာအောင် ပြုရုံမက လူ့အဖွဲ့အစည်း၏ ပြည့်ဝသော အခြေအနေကောင်းကို ရောက်ရှိလာစေသူများလည်း ဖြစ်ရပါမည်။ ယင်းသူတို့ကို မည်သည့် ပြင်ပသြဇာကမျှ ခြေဖျက်နိုင်စွမ်း ရှိမည်မဟုတ်ပါ။ ဤသူတို့သည်သာ အလ္လာဟ်အရှင်မြတ်၏ ခွေးသွားစိတ်တွင် လူ့အဖွဲ့အစည်း၏ ခွေးသွားစိတ်ကို တစ်ပြေးညီ ပူးပေါင်းကာ အောင်မြင်ရေး ပန်းတိုင်သို့ တက်လှမ်းနိုင်အောင် ပြုနိုင်မည်ဖြစ်သည်။

## အခန်း(၁၀)

## တမန်တော်မြတ်၏ အဆွေအခပ် ရဲဘော်ရဲဘက်များ

ကျမ်းတော်မြတ်ကုရ်အာန်တွင် လူတို့ကို အီမာန်သက်ဝင်ယုံကြည်လာအောင်ဖိတ်ခေါ်ဒါအ်ဝသ်ပြုရင်းက အောက်ပါအတိုင်းဆိုထားသည်ကို တွေ့ရပါသည်။

**فإن آمنوا بمثل ما آمنتم به فقد اهتدوا وإن تولوا فإنما هم في شقاق**

အကယ်စင်စစ် အသင်တို့ယုံကြည်ကြသကဲ့သို့ သူတို့သည်လည်း ယုံကြည်ကြပါမူဧကန်အမှန်ယင်းသူတို့သည်လည်း တရားလမ်းမှန်ကို ရရှိကြကုန်အံ့။ သို့ရာတွင် အကယ်၍သာလျှဲဖယ်ရှောင်ရှားကျောခိုင်းသွားကြပါမူယင်းသူတို့သည် ငြင်းခုံကွဲပြား ဆန့်ကျင်ဘက်ပြုကြသူများသာ ဖြစ်ကြလတ္တံ့။(၂း၁၃၇)

ဤဖော်ပြချက်အရ သိရှိရသည်မှာတမန်တော်မြတ်၏ အဆွဟာဗ် ရဲဘော်ရဲဘက်တို့သည် စဦးအီမာန်ရှင် ဖြစ်ရုံသာမက ယင်းသူတို့သည် သစ္စာတရားအတွက် အစဉ်ထာဝရေသက်သေသာကေလည်းဖြစ်ပြန်သည်။ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် တန်ဘိုးထားရှိသော အီမာန်ယုံကြည်ချက်သည် ဆဟာဗီတို့ ထားရှိသော အီမာန်ယုံကြည်ချက် ပင်ဖြစ်သည်။ ယင်းအနေအထားမှအပ အခြားမည်သည့်ပုံစံကိုမျှ အလ္လာဟ်အရှင်မြတ် ထံတော်တွင် နေရာရယူနိုင်မည် မဟုတ်ပါ။ အောက်တွင် ဆွဟာဗီတို့ ထူးခြားလှသော အချက်အလက်များကို ဖော်ပြပါမည်။

### အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက်တရား ဒီန်သည် သူတို့အတွက် အမြင့်မြတ်ဆုံးသော အရာဖြစ်ခဲ့ရသည်။

တမန်တော်မြတ်၏ အဆွဟာဗ် ရဲဘော်ရဲဘက်တို့၏ ဂုဏ်ထူးဝိသေသကို ကျမ်းတော်မြတ် ကုရ်အာန်တွင် ဖော်ပြထားရာ အီမာန်ယုံကြည်ချက်တရားသည် ယင်းအဆွဟာဗ်တို့အတွက် အတွယ်တာရဆုံးဖြစ်သည်ဟုဆို၏။ ချစ်ခင်တွယ်တာမှုဟူသည် အရာတစ်ခုကို ဆက်သွယ်ရာတွင် အမြင့်ဆုံးသော အခြေကိုခေါ်သည်။

**واعلموا أن فيكم رسول الله لو يطيعكم في كثير من الأمر لعنتم ولكن الله حبب إليكم الإيمان وزينه في قلوبكم وكره إليكم الكفر والفسوق والعصيان أولئك هم الراشدون**

ငင်းပြင် အသင်တို့သည် မိမိတို့၌အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော် ရှိနေတော်မူသည်ကို ကောင်းစွာ သိထားကြလေကုန်။အကယ်၍ ထိုရစူလ်တမန်တော်မြတ်သည် များစွာသော အရေးကိစ္စတို့၌အသင်တို့၏ပြောဆိုချက်ကိုလိုက်နာပါလျှင် အမှန်ပင်အသင်တို့သာလျှင်ဒုက္ခတွေ့ကြမည်သာ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား 'အီမာန်'သက်ဝင်ယုံကြည်မှုကို နှစ်သက်မြတ်နိုးစေတော်မူခဲ့၏။ ထို့ပြင် ယင်း'အီမာန်' ယုံကြည်မှုကို အသင်တို့၏စိတ်နှလုံးများတွင် မြတ်နိုး စေတော်မူခဲ့၏။လှပတင့်တယ်စေတော်မူခဲ့၏။ထို့မှတပါး ထိုအရှင်မြတ်သည် အသင်တို့အား 'ကုဖ်ရ်' သွေဖည်မှုကိုလည်းကောင်း၊ ပြစ်မှုကျူးလွန်ခြင်းကို လည်းကောင်း၊ အမိန့်မနာခံမှုကိုလည်းကောင်း၊စက်ဆုပ် စေတော်မူခဲ့၏။ယင်းကဲ့သို့သောသူတို့သည်သာလျှင် လမ်းမှန် ကို ရရှိသူများ ဖြစ်ကြကုန်၏။ကုရ်အာန်၄၉း၇

အကယ်၍လူတို့အနေဖြင့် ချစ်ခင်တွယ်တာမှု အဆင့်ရှိသော ဆက်သွယ်ဆက်နွယ်မှုကို ရယူနိုင်ခဲ့ပါလျှင်၊ လူတို့အတွက် ယင်းအရာသည် အခြားသော မည်သည့်အရာနှင့်ဖြစ်စေ၊ စွန့်လွှတ်စွန့်စား ပြုနိုင်စွမ်းရှိသည်ကို တွေ့ရပါမည်။ ဤအဆင့်သို့ရောက်ရှိလာပြီးနောက် လူတို့၏အတွေးအမြင်သည်ယင်းနှင့် ပတ်သက်ပြီး မပြောဘဲ သိမြင်နားလည်သော အဆင့်သို့ရောက်ရှိသွားတော့သည်။

ဤအချက်နှင့် ပတ်သက်သောသိမြင်စရာများ၏ အနက်သဘောကို မသိမြင်ပါလျက်နှင့် လူသည် သူ၏ တွယ်တာရသော အချစ်အတွက် အချစ်၏ အချက်အလက် ဖော်ညွှန်းချက်ကို သိမြင်လာပြီး ဘယ်အရာသည် လုပ်သင့်၍ ဘယ်အရာကိုမူ မလိုက်နာအပ်ဟု သိရတော့သည်။ (သောင်ဗဟ်–၄၆)

**لو أرادوا الخروج لأعدوا له عدة ولكن كره الله انبعاثهم فثبطهم وقيل اقعدوا مع القاعدين**

အကယ်၍သာ ယင်းသူတို့သည် အသင်တို့နှင့်အတူ စစ်တလင်းသို့ ထွက်ကြရန် ရည်စူးခဲ့ကြပါလျှင်၊ မုချဧကန်ယင်းတို့သည် စစ်ထွက်ရန် အလို့ငှာ တစ်စုံတစ်ခု ပြင်ဆင်မှု အသင့်ပြုလုပ် ထားရှိ ကြမည်ဖြစ်သည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည်

ယင်းသူတို့စစ်တလင်းသို့ လိုက်ပါသွားခြင်းကို မနှစ်မြို့ တော်မူခဲ့ချေ။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ယင်းတို့အား နေမြဲ နေစေတော် မူခဲ့လေသည်။ငင်းပြင် အလ္လာဟ် အရှင်မြတ်အထံတော်မှ ထိုသူတို့အား ``အသင်တို့သည် ကျန်ရစ်ခဲ့သောသူတို့နှင့်အတူ ထိုင်၍ပင်ကျန်ရစ်ခဲ့ကြလေကုန်``ဟု အမိန့်ရှိခဲ့လေ သတည်း။ကုရ်အာန်– ၉း၄၆

တွယ်တာရသော အချစ်၏အဆင့်သည် စိတ်ပါဝင်စားမှုကြောင့် ဆက်သွယ်ဖြစ်ထွန်းလာခြင်းဖြစ်သည်။သဘောက လူတို့အနေဖြင့်အစ္စလာမ်၏ ကောင်းမြတ်သော အကျိုးဖြစ်ထွန်းမှုနှင့် ဆုံးရှုံးနစ်နာမှုများကို သူ၏ ကိုယ်ပိုင်ခံစားရမှုဖြစ်လာခြင်းဖြစ်သည်။တမန်တော်မြတ်၏ အဆွှဟာဗ်ရဲဘော်ရဲဘက်တို့သည်လည်း ဤကဲ့သို့သော ဆက်သွယ်သောခံစားရမှုကို ရှိခဲ့သူများ ဖြစ်ကြသည်။

သူတို့သည် အစ္စလာမ်၏ အောင်မြင်မှုကို သူတို့၏ သားမြေးတို့၏ အောင်မြင်မှု ကဲ့သို့ ခံစား ဝမ်းမြောက် ခဲ့ကြသည်။ ဤကဲ့သို့ပင် တစ်စုံတစ်ခုသော အစ္စလာမ်၏ ဆုံးရှုံးရမှုများကို ကြားသိရသော အခါ သူတို့အနေဖြင့် သူတို့၏ သားရင်းတစ်ဦး၏ မပျှော်လင့်ရသော ဆုံးရှုံးရမှုအသွင် ခံစားရကာစိတ်နှလုံး လှုပ်ရှားတုန်ခါလာတော့သည်။ ယင်းဆုံးရှုံးရ မှုကို ပြန်လည်၍ မချေပ ပပျောက်မသွားမချင်း ယင်းသူတို့သည် ငြိမ်သက်ခြင်းမရှိဘဲ လှုပ်ရှားရုန်းကန်နေကြခြင်း ဖြစ်သည်။

အရာတစ်ခုကို တွယ်တာရမှုသည် အချစ်အဆင့်သို့ရောက်ရသော အခါ ယင်းသူ၏ စိတ်နှလုံးသည် နှီးကြား ဖြတ်လတ်လာသည့်သဘော ရှိသည်။ ယင်းအတွက် မည်သည့်အရာကိုမဆို အဆုံးရှုံးခံ စွန့်လွှတ်စွန့်စားပြနိုင်သည်။ အချစ်အတွက် လိုအပ်ချက်နှင့် အချစ်၏တောင်းဆိုမှုများကို မဖော်ပြဘဲ သိမြင်နိုင်သည်။ ဤရယူလိုမှု၏ လမ်းကြောင်းရှိ မည်သည့် အရာကိုမဆို တွန်းလှန်နိုင်စွမ်း ရှိနေသည်။ ဤရယူလိုသောအချစ်အတွက် သူ၏ပိုင်ဆိုင်သော အရာများကို သုံးစွဲအသုံးချရေးတွင် မည်သည့်တွန့်ဆိုးမှုကိုမျှ မမူတော့ပါ။

အကြောင်းအရာတစ်ခုကို မိမိ၏ကိုယ်ရေးကိုယ်တာ အကြောင်းအရာအဖြစ် ခံယူပြီးနောက် လူတို့ကို နောက်ထပ် ရှင်းပြစရာလည်းမလို၊ အကျယ်ချဲ့စရာလည်း လိုမည်မဟုတ်ပါ။ ဤသည် သူ၏နှလုံးသားအဖို့ ခံယူရမည့် ပြဿနာ ဖြစ်လာတော့သည်။ အကြောင်းတစ်စုံတစ်ရာ မပါဘဲ၊ သူ၏ ကိုယ်ပိုင်စွမ်းအားစုကို

စွန့်လွှတ်စွန့်စား ပြုလာမည်ဖြစ်သည်။ ဤသို့ပြုခြင်းကြောင့် ဆုံးရှုံးရမှုကိုပင်လျှင် ရယူ အမြတ်အစွန်းရှိသည်ဟု ခံယူကြစမြဲဖြစ်သည်။ သို့ဖြစ်၍လည်း အခြားသော နည်းလမ်းအားဖြင့် နှစ်သိမ့်ခံယူရမှုကို လိုလားခြင်းမရှိတော့ပါ။ ဤသို့အားဖြင့် ယင်းလမ်းကြောင်းတွင် ကြုံတွေ့ရသော အခက်အခဲ ဒုက္ခများကို ရင်ဆိုင်ဖြေ ရှင်းနိုင်စွမ်းရှိလာခြင်းဖြစ်သည်။

တမန်တော်မြတ်၏ အဆွဟာဗ်ရဲဘော်တို့သည် သာမန်ထက် ထူးကဲသော သာလွန်သော လူသားများ မဟုတ်ပါ။ ထူးခြားသည့် အရည်အချင်းကား လူသာမန်တို့သည် မိမိကိုယ်ကို ချစ်ခင်မြတ်နိုးကြသော်လည်း အဆွဟာဗ်တော် တို့သည်အစ္စလာမ် ယုံကြည်ချက်ဆိုင်ရာ အီမာန်ယုံကြည်ချက်ကို ချစ်ခင်မြတ်နိုးခြင်း ဖြစ်လေသည်။ လူသာမန်တို့သည် သူတို့၏ အနာဂတ်ကို မျှော်ကိုးလုပ်ဆောင်ကြ သည်။ အဆွဟာဗ်တော်တို့မူ အစ္စလာမ့်အနာဂတ်ကို မျှော်ကိုး လုပ်ဆောင်ကြသည်။

လူသာမန်တို့သည် မိမိတို့၏ တစ်ကိုယ်ရည် အကျိုးအမြတ်ဖြစ် ထွန်းလာမှုအတွက် မိမိတို့၏ ဉာဏ်ရည်နှင့် ဥစ္စာပစ္စည်းများကို သုံးစွဲကြသည်။ အဆွဟာဗ်တို့သည် သူတို့၏ အသက်၊ ဉာဏ်၊ ဥစ္စာပစ္စည်း အလုံးစုံတို့ကို အစ္စလာမ့် အတွက် အသုံးပြုခဲ့ကြသည်။ ဤအရည်အချင်း ဝိသေသကြောင့်ပင်လျှင် အဆွ ဟာဗ်တော်တို့သည် အစ္စလာမ့်သမိုင်း၏ အမြင့်မားဆုံးသော မှတ်ကျောက်အဖြစ် အောင်မြင်မှုကို ရရှိခဲ့ခြင်းဖြစ်သည်။

## တမန်တော်ကို သမိုင်းလှုပ်ရှားမှု အစဦးကာလတွင် သိမြင်မှု

ဆွဟာဗီတို့၏ အရည်အချင်းတစ်ရပ်သည်ကား သူတို့ခေတ်ကာလတွင် ပေါ်ထွန်းခဲ့သော နဗီတမန်တော်မြတ်ကို သိမြင်နိုင်ခြင်းပင်ဖြစ်သည်။ ဤဖြစ်ရပ်သည် အလွန်ခက်ခဲပြီး သက်ရှိသမိုင်းတွင် တစ်ကြိမ်သာ လူတို့အနေဖြင့် ကြုံတွေ့ ခဲ့ရခြင်းဖြစ်သည်။ အတိတ်သမိုင်းတွင်မူ တမန်တော်တို့ကို သိမြင်ပါလျက်နှင့် လက်ခံခြင်းမရှိဘဲ လှောင်ပြောင်မှုပြုကြသည်။ သမ္မာကျမ်းတွင် ဖော်ပြထားသည်မှာ–
'အသင်တို့သည် ငါ၏ တမန်တော်ကို သေးသိမ်စွာ မြင်ခဲ့ကြသည်' ။

ဤသို့မြင်သော သူတို့သည် အဘယ်သူတို့ဖြစ်ပါသနည်း။ ယင်းတို့သည် ဝေဟီနှင့် ရိဆာလသ်ကို လက်ခံယုံကြည်သူများ ဖြစ်ကြသည်။ တမန်တော်တို့၏ အမည်များဖြင့် သူတို့တွင် အစုအဝေးများ ရှိနေသည်။ ယင်းကို အကြောင်းပြု၍ သူတို့သည် နေ့ထူးနေ့မြတ်များကျင်းပလေ့ရှိကြသည်။ သို့သော် ယင်းပြုမှုဆောင်ရွက်ချက်များသည် သူတို့၏အတိတ်ကာလက နဗီတမန်တော်တို့ကို အကြောင်းပြုကြခြင်းဖြစ်သည်။ သို့ရာတွင်မျက်မှောက်တွင်ရောက်လာသော လမ်းပြ တမန်တော်အတွက် သူတို့တွင် လှောင်ပြောင်သရော်ခြင်းမှအပ ဘာမှမရှိ။

ယဟူဒီတို့သည် မူဆာနဗီကို လက်ခံကြသော်လည်း အီဆာနဗီကို ငြင်းဆန်ကြသည်။ နစ္စရာတို့သည်လည်း တမန်တော်မြတ်မုဟမ္မဒ် ﷺ ကိုငြင်းဆန်ခဲ့ကြသည်။ သို့ရာတွင် အီဆာနဗီကို လက်ခံကိုးကွယ်ခဲ့ကြသည်။ ဤကဲ့သို့ပင် မက္ကာသား ကုရိုက်ရှ်တို့သည် တမန်တော်မြတ်မုဟမ္မဒ် ﷺ ကို ခဲ့နှင့်ပေါက်ကာ ညှင်းပမ်းခဲ့ကြသည်။ နေအိမ်မှနှင်ထုတ်ခဲ့ကြသည်။ သို့ရာတွင် ယင်းကုရိုက်ရှ်တို့သည် သူတို့သာလျှင် အိဗ်ရာဟီမ်နဗီကို အမွေဆက်ခံသူများ အဖြစ် ဂုဏ်ယူဝင့်ကြွားဖော်ပြလေ့ရှိကြသည်။ဤသို့ ဘာကြောင့် ဖြစ်ခဲ့ရသလဲ။

ရှင်းလင်းလှသည်။ လွန်ခဲ့ပြီးသော တမန်တော်များ၏ အကြောင်းများသည် သမိုင်းတွင်ရစ်ခဲ့ပြီးဖြစ်၍ အားလုံးက အတိတ်သမိုင်းဖြစ်ရပ်အဖြစ်သာ သိမြင်ကြသည်။ ယင်းတမန်တော်တို့သည် အတိတ် လူမျိုးနွယ်ဝင်တစ်ခုလုံး၏ အမွေအနှစ်အဖြစ် သိမှတ်ပြုခြင်းခံနေရပြီးဖြစ်သည်။ လူမျိုးစုတစ်ခုတွင် ပေါ်ထွန်းလာသော တမန်တော်သည် နောင်လာမည့် မျိုးဆက်တို့အတွက် မြင့်မြတ်သော လူစွမ်းကောင်း အာဇာနည် အဖြစ် အသိအမှတ်ပြု ခံရစမြဲဖြစ်သည်။ ဤသို့ပြုခြင်းသည် မိမိတို့မျိုးနွယ်ဂုဏ်ကို ဖော်ပြသကဲ့သို့ဖြစ်နေသည်။ သို့ဖြစ်၍ အတိတ်က ပုဂ္ဂိုလ်ထူးတမန်တော်တို့ကို မည်သူက အသိအမှတ်မပြုဘဲ နေနိုင်ပါမည်နည်း။

သို့ရာတွင် မျက်မှောက်တွင် ပေါ်ထွန်းလာသော နဗီတမန်တော်မြတ်မုဟမ္မဒ် ﷺ အတွက်မူ အငြင်းပွားစရာရှိနေသည်။ ယင်းနဗီကို ဖုံးကွယ်ထား

သော ကားချပ်ကို ဖြတ်ချမှသာလျှင် အမှန်တရားသည် ပေါ်ထွန်းလာခြင်းဖြစ်သည်။ ဤသို့သိမြင်အောင် ပြုရေးအတွက် မိမိ၏ အတ္တကို မြှုပ်ပစ်ရမည်ဖြစ်သည်။ ဤအမှန်တရားအတွက်စွန့်လွှတ်ခြင်း၊ မိမိတို့၏ ဥစ္စာဓန အသက်အိုးအိမ် စည်းစိမ်ကို စိုက်ထုခြင်းသည် အငြင်းပွားမှုစပ်ကြားတွင် ယုံကြည်မှုကို ရှာကြံခြင်းဖြစ်သည်။

ဤအရေးနှင့် ပတ်သက်၍လည်း သမိုင်းက သက်သေ ထူခြင်းလည်း မရှိသေခင် အရဲစွန့်ခြင်းပင် ဖြစ်နေသည်။ တမန်တော်မြတ်၏ ရဲဘော်ရဲဘက် ဆွဟာဗီတို့သည် အထက်ဖော်ပြပါ အချက်အလက်များကို အရဲစွန့် ကာ ပွင့်သစ်စတမန်တော်ကို သမိုင်းတွင်ရစ်သော တမန်တော် အသွင် ယုံကြည်စိတ်ချစွာ လက်ခံကြသူများဖြစ်ကြသည်။

ခန်ဒတ်မြေခုတုံ စစ်ပွဲကာလတွင် ထိန်းမရ သိမ်းမရ အခြေအနေဆိုးနှင့် မွတ်စလင်မ် လူ့အဖွဲ့အစည်းဝင်တို့ ကြုံကြိုက်နေခိုက် မွတ်စလင်မ်တစ်ဦး၏ နှုတ်ဖျား မှ အောက်ပါစကား ထွက်လာသည်။ 'တမန်တော်မြတ်မုဟမ္မဒ် ﷺ က ဆိုသည် ကတိပြုသည် ကျွန်ုပ်တို့ကို ပါရှန်နှင့် ဘာဇင်တိုင်တို့၏ ရတာနသိုက်ကို ရရှိစေမည်။ ဒါပေသိ ယခုအချိန်မှာတော့ ကျွန်ုပ်တို့သည် အိမ်သာကိုပင် စိတ်ချစွာ မသွားနိုင်အောင် ဖြစ်နေသည်။ (ဆိရတ်အိဗ်နေဟရှ်ရှာမ်၊ ဒုတိယတွဲစာ-၁၄၄)

ခန်ဒက်စစ်ပွဲ ကာလတွင် တမန်တော်မြတ်၏ ကတိစကားသည် နှုတ်မှ ခြွေသော စကားသက်သက် ဖြစ်သော်လည်း ယခုအခါမူ ဤသည် သမိုင်းတွင်ရစ်သော အကြောင်း အရာဖြစ်နေသည်။ဆွဟာဗီတို့သည် ကတိစကားကို သမိုင်းမတွင်ရစ်ခင်ပင် တမန်တော်မြတ် ကို ဦးထိပ်ထား လက်ခံခဲ့သည်။ ယနေ့အခါ ကျွန်ုပ်တို့သည် ဤသမိုင်းတွင်ရစ်သော အကြောင်းအရာကို ဦးထိပ်ထား လက်ခံနေကြခြင်းဖြစ်သည်။ ဤကွာခြားမှုကို မည်သည့်အရာနှင့်မျှ တိုင်းတာ ၍ရမည်မဟုတ်ပါ။

ယနေ့ခေတ်ကာလတွင်မွတ်စလင်မ်မဟုတ်ကြသော သမိုင်းသုတေသီ တို့ကတမန်တော်မြတ်မုဟမ္မဒ် ﷺ သည်အနိုင်းမဲ့သောပုဂ္ဂိုလ်မြတ်ဖြစ်ကြောင်းကို

မလွဲမရှောင် သောအောင့်သက်သက်ဖြင့် လက်ခံပြောဆိုနေကြသည်ကိုတွေ့ရသည်။ သို့ရာတွင် တမန်တော်မြတ်၏မြင့်မြတ်မှုကို သိမြင်နားလည်ရန်မှာအလွန်ပင် ခက်ခဲလှသည်။ ဤသိမြင်မှုကိုအလ္လာဟ်အရှင်မြတ်အထံတော်မှ ဆုလာဘ်တော်ပေး ကမ်းချီးမြှင့်ခံရသူ တို့သာလျှင်သိမြင်ကြရမည်ဖြစ်ပေသည်။

## ပဋ္ဌမပက္ခကာလတွင်ကျမ်းတော်မြတ်ကုရ်အာန်ကို ယုံကြည်ကြသူများ

ဆီရယ်ကျမ်းများတွင်ဖော်ပြထားသည်မှာ ဆွဟာဗီတို့၏ဒါဝသ်ဖိတ်ခေါ် မှုနည်းလမ်းမှာ အလ္လာဟ်ထံတော်မှကျရောက်လာသော ကျမ်းတော်မြတ်ကုရ်အာန်၏အစိတ်အပိုင်းကိုယူဆောင်ကာ လူတို့စပ်ကြားတွင်ဖတ်ပြရှင်းလင်းခြင်းပင်ဖြစ်သည်။ تعرض عليهما الاسلام وتلا عليهما القران သို့ဖြစ်၍လည်းမဒီနာမြို့တော်သို့ မက္ကာမှအစ္စလာမ်ရေးရာပို့ချရန်သွား ရောက်ခဲ့ကြသောဆွဟာဗီတို့ကို မဒီနာမြို့သားတို့ကမုက်ရီ مقری (ထိ) ကုရ်အာန်ကိုဖတ်ပြသူ ခေါ်ကြခြင်းဖြစ်သည်။ ယနေ့ခေတ်ကာလတွင် ဤသည်ဆန်းကျယ်သောစကား မဟုတ်ပါ။ သို့ရာတွင်နှစ်ပေါင်း၁၄၀၀အလျှဉ်း အစ္စလာမ်စဦးကာလသို့သွားရောက် လေ့လာကြည့်လျှင်မူ ဤပို့ချမှုသည်တစ်ကြိမ်တစ်ခါကမျှ မရှိခဲ့သောပို့ချမှုနည်း စဉ်ဖြစ်ကြောင်းတွေ့ရမည်ဖြစ်သည်။ ဤသို့လူတို့စပ်ကြားတွင်ကျမ်းတော်မြတ် ကုရ်အာန်ကိုအစုအဝေးတွင် ဖတ်ကြားရှင်းပြခြင်းသည်အလျှဉ်းကလည်းမရှိခဲ့၊ ယင်းနောက်ပိုင်းတွင်လည်းရှိသည်မတွေ့မြင်ရ။

ယနေ့ခေတ်ကာလတွင်ကျမ်းတော်မြတ်ကုရ်အာန်ဟု ဆိုလိုက်သည်နှင့် ကျွန်တော်တို့၏မျက်စိရှေ့တွင် ဤမြင့်မြတ်ထူးကဲလှသောကျမ်းကို အာရုဏ်ပြု မိကြသည်။ ဤကျမ်းတော်မြတ်ကိုလူသန်းပေါင်းများစွာတို့က လက်ခံရုံမကယင်း၏ အလ္လာဟ်ထံတော်မှကျရောက်သည်ဟူသော သက်သေကိုအတည်ပြုလက်ခံကြသည်။ ယနေ့ခေတ်ကာလတွင် မိမိကိုယ်ကိုကျမ်းတော်မြတ်ကုရ်အာန်အားဖြင့်သက်သေ သာဓကအမှီအငြမ်းပြုခြင်းသည် ဂုဏ်သရေအပေါင်းနှင့်ပြည့်စုံသောအလုပ်အဖြစ် လက်ခံကြသည်။ သို့ရာတွင်အစ္စလာမ်စဦးခေတ်ကာလတွင်မူ ကျမ်းတော်မြတ် ကုရ်အာန်ကိုလက်ခံခြင်းသည် ဤဂုဏ်ရည်ကိုမပြောက်ပါ။ အာရေဗျာရှိများမြောင်

လူစွာသောလူတို့ကတမန်တော်မြတ်မုဟမ္မဒ် ﷺ သည်ရှေးယခင်ကာလက ပုံပြင်ဒဏ္ဍာရီများကိုစုစည်းကာ ကျမ်းတစ်ခုအဖြစ်ဖော်ထုတ်သည်ဟု စွပ်စွဲနေကြသူများက ရှိခဲ့သည်။ သူတို့သည်လည်းလိုအပ်လာလျှင် ဤကဲ့သို့ကျမ်းမျိုးကိုပြုနိုင်စွမ်း ရှိသည်ဟု ထုတ်ဖော်ပြောခဲ့ ကြသည်။ ဤအချက်ကိုကျမ်းတော်မြတ်ကုရ်အာန်ကလည်း ဤသို့ဖော်ပြထားသည်။

စင်စစ်သော်ကား ၎င်းတို့၏ရှေ့ဝယ် ငါအလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်လာစကားရပ်ကို ဖတ်ပြခဲ့လျှင်ယင်းသူတို့က "ငါတို့သည်အမှန်ပင် ဤသည်တို့ကို ကြားခဲ့ဖူးကြချေပြီ။ငါတို့သည် အလိုရှိလျှင် ဤအတိုင်းပင် စီကုံးနိုင်ကြပေသည်၊ ဤသည်ကား ရှေးသူတော်ကောင်းတို့၏ ဒဏ္ဍာရီပုံပြင်မျှသာလျှင်ဖြစ်ပေသည် " ဟုပြောကြသည်။

ကုရ်အာန်–၈း၃၁။

၎င်းပြင် ထိုကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့က 'ဤကုရ်အာန်ကျမ်းမြတ် သည် ဤသူ ရေးမှတ်စေခဲ့သော ရှေးသူဟောင်းတို့၏အခြေအမြစ် မရှိသော ပုံပြင်များသာဖြစ်သည်။ တစ်ဖန် ထိုအခြေ အမြစ်မရှိသော၊ ပုံပြင်များကို ဤသူ၏ရှေ့ဝယ် နံနက်ယံ၌လည်းကောင်း၊ညနေချမ်း၌လည်းကောင်း ဖတ်ကြားရလေသည်' ဟု ပြောဆိုကြကုန်၏။ ကုရ်အာန်–၂၅း၅။

ဤကဲ့သို့သောအခြေအနေတွင် ကျမ်းတော်မြတ်ကုရ်အာန်ကိုသိမြင်အောင်ပြုရေးမှာ အနာဂတ်တွင်ထွန်းတောက်မည့်အခြေကို မျက်မှောက်တွင်ရှုမြင်ခြင်းပင်ဖြစ်တော့သည်။ ဤသည်ဖုံးကွယ်နေသောအဖြစ်မှန်ကို အတည်ပြုခြင်းမရှိခင်သိမြင်လက်ခံခြင်းပင်ဖြစ်တော့သည်။

ထိုမှတစ်ဖန်ဤသို့သောအချိန်တွင် ကျမ်းတော်မြတ်ကုရ်အာန်၏ဒါဝသ်ဖိတ်ခေါ်မှုကိုလက်ခံခြင်းသည် အလွန်မှပင်ခက်ခဲသောအလုပ်ဖြစ်နေသည်။ အကြောင်းမှုဤသို့သောအချိန်ကဤအပြုအမူသည်ထိုသူတို့အဖို့အခြေ အနေကောင်းတစ်ခု ကိုစွန့်လွှတ်ပြီးမရေးရာသော အခြေအနေတွင် မိမိကိုယ်ကိုမြှုပ်ပစ်လိုက်ခြင်းပင် ဖြစ်တော့သည်။ ထိုမှတစ်ဖန်မိမိ၏တည်ရှိနေမှုကို ပယ်ဖြတ်ပြီး အခြားသောပုဂ္ဂိုလ် တစ်ဦးကိုသက်သေခံခြင်းပင်ဖြစ်သည်။ ယင်းသက်သေ

ခံသောသူသည်ပင်လျှင် ရေးရာသေချာခြင်း မရှိသေးသော သူဖြစ်နေသည်။

အာရေဗျာ၏ကျော်ကြားလှသောကဗျာကဝိဖြစ်သူ လဗိဒ်သည်အစ္စလာမ် ကိုလက်ခံလာပြီးနောက်ကဗျာရွတ်ဆိုခြင်းကို စွန့်လွှတ်ခဲ့သည်။ လူတို့က''ကဗျာ စပ်ဆိုခြင်းကို ဘာကြောင့်စွန့်လွှတ်ရသလဲ''ဟုမေးရာ၊ လဗိဒ်ကပြန်လည်ဖြေကြား သည်မှာ ''ကုရ်အာန်ရှိလာပြီးနောက်လိုသေးသလား'' ابعد القران ၊ ဤအသုံး အနှုန်း ဤအဆိုကိုယနေ့ခေတ်ကာလတွင် ကဗျာရေးစပ်ခြင်းကိုစွန့်ပြီးပြောဆိုပါမူ ယင်းသူကိုအလွန်လေးစားထိုက်သူအဖြစ် ဂုဏ်ပြုကြမည်ဖြစ်သည်။ သို့ရာတွင် ကဗျာဆရာလဗိဒ်၏စကားနှင့်ယနေ့ဆိုမည်။ ဤစကားတို့စပ်ကြားတွင်ကြီးကျယ် သောကွာခြားချက်များရှိနေသည်။ ယနေ့တစ်ဦးဦးက ကုရ်အာန်ရှေ့မှောက်တွင် သူ၏ကဗျာသည်အချည်းအနှီးဆိုလျှင် ဤသည်သမိုင်းကသက်သေခံသောမှန်ကန် ချက်ဖြစ်နေသည်။ သို့သော်အစ္စလာမ်အစဦးကာလတွင်မူ ဤစကားရပ်သည် မရေးရာမသေချာသောဆုံးဖြတ်ချက်ကို အရဲစွန့်ချမှတ်ခြင်းကဲ့သို့ဖြစ်နေသည်။ ဤ အချက်ကိုကျမ်းတော်မြတ်ကုရ်အာန်ကအောက်ပါအတိုင်းရှင်းလင်းဖော်ပြထား သည်ကိုတွေ့ရသည်။

အသင်တို့အနက် မက္ကာမြို့တော်ကို မအောင်မြင်မီ သုံးစွဲ လှူဒါန်း ခဲ့ကြသော၊ ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ကြ သောသူတို့သည် မက္ကာမြို့တော်ကို အောင်မြင်ပြီး နောက်တွင် သုံးစွဲလှူဒါန်းခြင်း၊ ပြိုင်ဆိုင်တိုက်ခိုက်ခြင်း ပြုခဲ့ကြသောသူတို့နှင့် တူကြသည်မဟုတ်ပေ။ ထိုမအောင်မြင်မီ လှူ ဒါန်း တိုက်ခိုက်ခဲ့ကြ သောသူတို့မှာကား နောက်ပိုင်းတွင် သုံးစွဲလှူဒါန်းခြင်း၊ပြိုင်ဆိုင်တိုက်ခိုက်ခြင်းပြုခဲ့ကြသောသူတို့ထက် ဂုဏ်ရည် အဆင့် အတန်းအားဖြင့်ထူးကဲမြင့်မြတ်လှကြကုန်၏။ ကုရ်အာန်၅၇ း ၁၀

## အတည်မပြုရသေးသောအမှန်တရားအတွက် ပေးဆပ်ခြင်း။

အိဗ်နေအဗိဟာသိမ်က ဆွဟာဗီတစ်ဦး၏အကြောင်းကိုဤသို့မှတ်တမ်း ပြုထားသည်ကိုတွေ့ရသည်။

အဗ်ဒုလ္လာဟ်ဘင်န်မဆ်အုဒ်၏ဆင့်ဆိုဖော်ပြချက်ဖြစ်သည်။ ကျမ်းတော် မြတ်ကုရ်အာန်တွင်

အလ္လာဟ်အရှင်မြတ်ကိုတယ်သူတွေကကရဲဟာဆ်နှာ ကြေးမြီချေးငှား မည်နည်း။ (၅၇း ၁၁)

ဤအာရည်တော်ကိုကြားသိရသော အဗူဒဟ်ရဟ်အန်စွာရီ ကတမန်တော်မြတ်အားမေးမြန်းလျှောက်ထားသည်မှာ'' အို အလ္လာဟ်အရှင်မြတ်၏တမန်တော်။ အလ္လာဟ်အရှင်မြတ်ကအမှန်တစ်ကယ်ပင် ကျွန်ုပ်တို့ထံမှချေးငှားလိုပါသလား'' တမန်တော်မြတ်က 'ဟုတ်မှန်ပါသည် အဗူဒဟ်ရဟ်' ဟုပြန်လည်ဖြေဆို၏ ထိုအခါအဗူဒဟ်ရဟ်ကတမန်တော်မြတ်အား'' အို အလ္လာဟ်အရှင်မြတ်၏တမန်တော်မြတ်၊ အသျှင်၏လက်ကိုပေးပါ။ တမန်တော်မြတ်ကလက်ကိုအဗူဒဟ်ရဟ်၏လက်တွင်ထည့်လိုက်သည်၊ ထိုအခါအဗူဒဟ်ရဟ်အန်စာရီ က ကျွန်တော်မျိုးသည် ကျွန်တော်မျိုး၏ဥယျာဉ်ခြံကို အလ္လာဟ်အရှင်မြတ်တည်းဟူသော ရဝ်ထံသို့ချေးငှားလိုက်ပြီးဖြစ်သည်။ ယင်းခြံဥယျာဉ်တွင်သစ်ပင်ပေါင်း၆၀၀ရှိသည်။

ထိုစဉ်ကာလ ဇနီးဖြစ်သူအွမ်မေဒဟ်ရဟ် သည် သူမကလေးငယ်များနှင့်အတူဥယျာဉ်ခြံတွင် ရှိနေသည်။ အဗူဒဟ်ရဟ် သည်ဥယျာဉ်ခြံတွင်းသို့ဝင်ရောက်လျက် ဇနီးဖြစ်သူအား အသံပေးဖိတ်ခေါ်လိုက်သည်။ ဇနီးဖြစ်သူအား ''ဥယျာဉ်ခြံမှထွက်လိုက်ပါ။ ဤခြံ ကြီးကိုကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်ကိုချေးငှားလိုက်ပြီးဖြစ်သည်။'' ဟုဆို၏။ ဇနီးဖြစ်သူက၊ အဗူဒဟ်ရဟ် အသင်သည် စီးပွားကုန်သွယ်မှုတွင် အောင်မြင်ခဲ့ပြီး ဖြစ်သည်ဟုဆိုလျက် မိမိပိုင်ပစ္စည်းများနှင့်ကလေးငယ်များကိုခေါ်ဆောင်ကာ ဥယျာဉ်ခြံမှထွက်ခွာသွားတော့သည်။တမန်တော်မြတ်ကမိန့်တော်မူသည်မှာ ''ဂျန္နသ်သုခဘုံတွင်အဗူဒဟ်ရဟ် အတွက်များမြောင်လှစွာသော စိမ်းလန်းစိုပြည်လှသောသစ်ပင်ပန်းမာလ်များရှိပြီး ဖြစ်သည်။''(သဖ်ဆိရ် အိဗ်နေကဆိရ်)

ဤဖော်ပြချက်သည်ဆွဟာဗီတို့၏ ယုံကြည်ချက်နှင့်ဒိင်န်အတွက်စွန့်လွှတ်စွန့်စားပြုမှုနှင့်ပတ်သက်သောမီးမောင်းထိုးပြသော သာဓကတစ်ရပ်ဖြစ်ပါသည်။ ဤဖြစ်ရပ်နှင့်ပတ်သက်ပြီး ဆွဟာဗီတို့၏စိတ်တွင်မည်၍မည်မျှခံစားသိမြင်မှုရှိသည်ကိုလည်းသိအပ်ပေသည်။ ဤဖြစ်ရပ်သည်အနှစ်၁၄၀၀အလျှင်းကာလက

အဖြစ်အပျက်ဖြစ်သည်ကိုလည်းသတိပြုအပ်သည်။

ယနေ့ခေတ်ကာလတွင်ဤသို့ ဆောင်ရွက်သောပုဂ္ဂိုလ် တို့အတွက် ဝန်းကျင်မှ ထောပနာမှုများချီးကျူးမှုများ ရောက်လာမစဲဖြစ်မည်မှာအမှန်ပင်၊ သို့သော် အစ္စလာမ်သမိုင်းဦးခေတ်ကာလက ဤသို့ပြုမူဆောင်ရွက်မှုသည် လူဝန်းကျင် အစ္စလာမ်ကရွေးသွပ်သူတစ်ဦး၏လုပ်ရပ် ဟူ၍သာဆိုကြမည်ဖြစ်သည်။ ယင်းသူသည်မျှော်စင်ထက်တွက် လွှင့်ထုးမခံရပဲ မြေအောက် သို့မြှုပ်နှံသည်သဘောသို့ရောက်မည်မှာအမှန်ပင်။ အကြောင်းမူ ထိုစဉ်ကအစ္စလာမ်သည်သမိုင်းတွင်းရစ်သောအခြေတွင် မရောက်သေးသောစဦး ကာလအနေအထားတွင်သာလျှင်ရှိနေ၍ဖြစ်သည်။

## မိမိ၏သာရဖူကို အခြားသူ၏ဦးခေါင်းပေါ်သို့တင်ခြင်း

မဒီနာမြို့တော်တွင်အဗ်ဒုလ္လာဟ်ဘင်န်အူဗိသည် အလွန်ဉာဏ်ပညာနှင့် ပြည့်စုံသောကြွယ်ဝချမ်းသာသော မျက်နှာပုံပုဂ္ဂိုလ်အဖြစ်သတ်မှတ်ခံရသူဖြစ်သည်။ သူသည်မဒီနာမြို့တော်၏အထွတ်ဟုဆိုရအောင် ပြည့်စုံသူဖြစ်၍လည်းယင်းသူအား မဒီနာမြို့ပြနိုင်ငံ၏ဘုရင်အဖြစ်တင်မြှောက်ရန် စဉ်းစားခဲ့ကြသည်။ မဒီနာမြို့ရှိ မျိုးနွယ်စုဝင်တို့၏ပြဿနာရပ်များနှင့် ပဋိပက္ခများကိုအမြင့်ဆုံးဆုံးဖြတ်ခွင့်ပေးရန် ယင်းသူအားသရဖူချီးမြှင့်ကာဘုရင်ကဲ့သို့ အနေအထားသို့ရောက်စေရန်ဖြစ်သည်။

၂အဗ်ဒုလ္လာဟ်ဘင်န်အူဗိကိုသရဖူတင် ဘိသိတ်ခံယူသွဲ့မတိုင်ခင်ကလေး မှပင်အစ္စလာမ်သာသနာသည် မဒီနာမြို့သို့ရောက်ရှိလာခဲ့သည်။ မဒီနာမြို့သား တို့သည်အစ္စလာမ်ကိုလှိုင်လှဲစွာကြိုဆိုလျက်သက်သေခံမှုပြုခဲ့ရာ၊ အိမ်တိုင်းလိုလိုပင် အစ္စလာမ်၏အေးရိပ်ဆာယာကို ခိုလှုံလာသူများရှိလာခဲ့သည်။ ယင်းနောက်မဒီနာမြို့သားတို့၏ကိုယ်စားလှယ်အဖွဲ့သည် မက္ကာမြို့သို့လာရောက်ကာ တမန်တော်မြတ်နှင့်တွေ့ဆုံးကာတမန်တော်မြတ်၏နှုတ်များမှ အစ္စလာမ်ဒေသနာသဝဏ်ကိုကြားနာခွင့်ရရှိခဲ့ကြသည်။ ယင်းသူတို့သည်တမန်တော်မြတ်နှင့်ဆုံးတွေ့ပြီးနောက် သူတို့ရှာကြံလိုသောခေါင်းဆောင်၏အရည်အချင်းသည် မုဟမ္မဒ်ဘင်န်အဗ်ဒုလ္လာဟ် ဟူ သောပုဂ္ဂိုလ်တွင်ပြည့်ဝစွာတွေ့မြင်ခဲ့ရသည်။ သူတို့သည်မဒီနာမြို့သို့ပြန်သွားပြီး

နောက်ဤအရေးကိုဆွေးနွေးတိုင်ပင်ကာ တမန်တော်မြတ်အထံတော်သို့ မဒီနာမြို့တော်သို့လာရောက်ကာ သူတို့၏လူအဖွဲ့အစည်းကိုခေါင်းဆောင်ရန်ဖိတ်ခေါ်ခဲ့ကြသည်။ ဤသည်အစ္စလာမ်သမိုင်းတွင် ဗိုင်အာသ်အက်ဝါဆာနီယာအဖြစ်တွင်းရစ်ခဲ့ရသည်။

ဤသမိုင်းဖြစ်ရပ်သည် သေးမွှားသောကိစ္စမဟုတ်ပါ။ ဤသည်မိမိ၏သရေဖူကိုတစ်စိမ်လူတစ်ဦး၏ဦးခေါင်းပေါ်တွင် တင်လိုက်သည်နှင့်တူနေသည်။ ဤသည်ရှေးယခင်ခေတ်ကာလ၏အစဉ်အလာကို ချိုးဖောက်ကာ အစမ်းထွင်သည်သဘောဖြစ်နေသည်။ မိမိတို့၏မျိုးနွယ်စု၊ မိမိတို့၏ပိုင်နက်မှပုဂ္ဂိုလ်ကိုကျော်ဖြတ်ကာနိုင်ငံခြားအခြားဒေသမှ ပုဂ္ဂိုလ်တစ်ဦးကိုခေါင်းဆောင်အဖြစ်တင်မြှောက်ရန်ဖိတ်ခေါ်ခြင်းသည်အလွန်ခက်ခဲသောအလုပ်ရပ်တစ်ခုဖြစ်ပေသည်။

နောက်ထပ်အချက်တစ်ခုကထိုစဉ်ကာလကတမန်တော်မြတ်မုဟမ္မဒ် ﷺ သည်သမိုင်းတွင်းရစ်သော ထူးကဲလှသောသူအဖြစ် သတ်မှတ်မခံရခင် ကဖြစ်နေသည်။ ထိုမျှမကတမန်တော်မြတ်မုဟမ္မဒ် ﷺ အဖို့မိမိ၏မိခင်မြေတွင်ပင်လျှင်တင်းကျပ်စွနေနေရချိန်ဖြစ်နေသည်။ ထူးကဲသောမျိုးနွယ်ဂုဏ်နှင့်ဒေသဆိုင်ရာထူးကဲမှုဝိသေသလက္ခဏာကိုလည်း ပိုင်ဆိုင်ခြင်းမရှိသူဖြစ်သည်။ အငြင်းပွား နေရသောအပယ်ခံပုဂ္ဂိုလ်တစ်ဦးမှအပ ဘာမျှဂုဏ်ရင်ဖို့ကြွစရာဟူ၍မရှိသူဖြစ်နေသည်။ ဤသို့သောအခြေအနေတွင် သူ့အားဖိတ်ခေါ်သောသူတို့အဖို့ ပေးစရာ များသာရှိသည်။ ရယူစရာဟူ၍မရှိပါ။

၂၀ရာစုနှစ်ကာလတွင်ဥရောပတိုက်ကို တမန်တော် မြတ်ကအုပ်ချုပ်လျှင်တည်ငြိမ်သောဥရောပလူမှုစနစ်ကို ထူထောင် နိုင်မည်ဟု ဗြိတိသျှစာရေးဆရာကြီးဘနက်ရှော့ကပြောနိုင်ပါသည်။ဤသို့ပြောနိုင်အောင် တမန်တော်မြတ်၏ထင်ရှားလှသော လူမှုဆောင်ရွက်ချက်များသည်သမိုင်းတွင်းရစ် တည်ရှိနေ၍ပြောဆိုနိုင်ခြင်းဖြစ်သည်။ သို့သော်ခရစ်သက္ကရာဇ်ခြောက်ရာစုတွင် ဤသို့ဆိုလျှင်မှုမိုက်မဲရာကျမည်ဖြစ်သည်။ အကြောင်းမှ တမန်တော်မြတ်သည်ထိုစဉ်ကာလကသမိုင်းတွင်းရစ်သူဟူ၍ ဖြစ်မလာသေးပါ။

## မိမိ၏အစုအဝေးကို သိမြင်ခြင်း

တမန်တော်မြတ်၏နည်းစဉ်တစ်ခုက မည်သည့်ကိစ္စတစ်စုံတစ်ခုပေါ်ပေါက်လာပါက ယင်းပြဿနာရပ်နှင့်ပတ်သက်ပြီးလူတို့နှင့်ညှိနှိုင်းတိုင်ပင်အဖြေရှာခြင်းပင်ဖြစ်သည်။ တမန်တော်မြတ်ကဆွဟာဗီတို့ကို စုဝေးစေလျက်

اشيرو اعلي ايها الناس အိုလူတို့ကျွန်ုပ်ကိုအကြံဉာဏ်ပေးကြပါ။
တမန်တော်မြတ်သည်အစဉ်အမြဲဤသို့ အကြံဉာဏ်ကိုဖိတ်ခေါ်လေ့ရှိခဲ့သည်။ ဤသို့ဖိတ်ခေါ်ပြီးနောက်ခေတ္တခဏဆိတ်ငြိမ် နေပြီးနောက် အဗူဗကရ်သခင် ရ. ထပြီးအကြံပြုသည်။ ယင်းနောက်အူမရ်သခင် ရ. စသည် ဖြင့်ဆွဟာဗီ ပုဂ္ဂိုလ်များကအကြံပြုပြီးနောက် တူညီသောအဖြေနှင့်အမြင်ကိုရှာကြံ ကာအများတူညီမှုဖြင့်နည်းလမ်းရယူကြစမြဲဖြစ်သည်။

တမန်တော်မြတ်ဝဖာသ်ကွယ်လွန်ခဲ့ပြီးနောက် ပထမခလီဖာကြီးအဗူဗကာရ် ရ. ၏ခေတ်တွင်လည်း ဤအစဉ်အလာရှိခဲ့သည်။ ထို့မှတစ်ဖန်ဒုတိယခလီဖာကြီးအူမရ်သခင် ရ. ၏ခေတ်တွင်မူပိုမိုကျယ်ပြန့်စွာဖြင့်ရှုရာအစည်း အဝေးဖြင့်အဆုံးအဖြတ်ကို ယူခဲ့သောသမိုင်း အထောက်အထား များရှိနေသည်။ ဤကဲ့သို့သောအစဉ်အလာကို သမိုင်းတွင်အခြားနေရာများတွင် ရှာကြံတွေ့မြင်နိုင်သည်မဟုတ်ပါ။

ဤသို့သော အခြေအနေကောင်းကိုဖန်တီးယူရန် ယနေ့ခေတ်ကာလတွင်၂လူတို့အနေဖြင့်မိမိ ကိုယ်ကိုသိမြင်မှုရှိဖို့လိုသည်။ မိမိကိုယ်ပိုင်အားနည်းချက်နှင့်ကျဉ်းမြောင်လှသော အသိများရှိနေမည်ကို သတိပြုနိုင်ရပါမည်။ ယင်းသူတို့သည်အခြားသူတို့၏ဟုတ်ကဲ့ ဟူသောစကားရပ်နှင့်ထပ်တူထပ်မျှ မိမိတို့၏ မဟုတ်ပါကိုတိကျစွာသုံးသပ်နိုင် ရမည်ဖြစ်သည်။ မိမိတို့သည်အခြားသူတို့ကဲ့သို့အရှိတရားကိုရှုမြင်နိုင်သောအမြင် လည်းရှိဖို့လိုအပ်နေသည်။

ယနေ့ကျွန်ုပ်တို့သိမြင်သော အဗူဗကရ်သခင် ရ. နှင့်အူမရ်သခင် ရ. တို့သည် သမိုင်းတွင်းရစ်သောပုဂ္ဂိုလ်များဖြစ်ကြသည်။ သို့ရာတွင် တမန်တော်မြတ်ခေတ် ကာလက ယင်းပုဂ္ဂိုလ်တို့သည်သမိုင်းတွင်းရစ်မှုကိုမခံယူရသေး

သော သာမန်လူ များသာလျှင်ဖြစ်ပေသည်။ ဤတမန်တော်မြတ်၏အဆွေဟာဗီတော်တို့သည်အလွန်ခက်ခဲလှသောအခြေအနေဆိုးများတွင် သတ်မှတ်ထားသောစံချိန်စံညွှန်းကိုဖော်ကြူး ပြသနိုင်ခဲ့သောယနေ့လူတို့အတွက် သမိုင်းတွင်းရစ်သောပုဂ္ဂိုလ်များဖြစ်ပေသည်။ သို့ရာတွင်သမိုင်း တွင်းရစ်ခြင်းမရှိခင်က ဤပုဂ္ဂိုလ်တို့ကိုဆန်းစစ်ရန်မှုခက်ခဲလှ သည်။

**တာဝန်ရပ်နှင့် ပတ်သက်၍မိမိကိုယ်ကို ခံယူတတ်မှု။**

ဇာသုလ်ဆလာဆိလ်စစ်ပွဲကာလက အဖြစ်အပျက်တစ်ရပ်ကိုဖော်ပြလိုပါသည်။တမန်တော်မြတ်သည်စစ်ကြောင်းတစ်ခုကိုအမရ်ာဘင်န်အာဇ်သခင် ﷺ အား ဦးဆောင်ကာစေလွှတ်ခဲ့သည်။ ဤဒေသသည် ဘာဇ်တိုင်တို့၏အုပ်ချုပ်ရာ ဆီရီယာနယ်မြေစပ်တွင်ဖြစ်သည်။ အမရ်သခင် ﷺ သည်ထိုဒေသသို့ရောက်ရှိပြီးနောက် ရန်သူတို့၏အခြေအနေကို သုံးသပ်ကြည့်သောအခါ၊ ရန်သူတို့၏အင်အားသည် အလွန်ကြီးမားပြီးယင်းကိုရင်ဆိုင်ရန် အင်အားလျော့နည်းနေမှန်းသိလိုက်ရသည်။ သို့ဖြစ်၍တမန်တော်မြတ်အထံတော်သို့ အခြေအနေနှင့်ပတ်သက်ပြီးအစီရင်ခံချက်ကိုပို့ပြီး ထပ်ဆင့်ပြီးစစ်ကူပို့ရန်တောင်းခံလိုက်သည်။

တမန်တော်မြတ်သည်မူဟာ ဂျိရင်န်တပ်သား၂၀၀ကို အဗူအူဗိုင်ဒါဟ်ဘင်န်အလ်ဂျရယ် ﷺ အားဦးဆောင်စေလျက် ဆီရီယာနယ်စပ်ဖက်သို့အကူအဖြစ် စေလွှတ်လိုက်သည်။အဗူအူဗိုင်ဒါ ﷺ ၏တပ်သည် မူလစေလွှတ်ထားသောတပ်နှင့်ပူးပေါင်းလိုက် သည်။ ယခုပြဿနာတစ်ရပ်ကဤတပ်မကြီးကိုမည်သူက ဦးဆောင်ပါမည်နည်း။

အမရ်ာဘင်န်အာဇ်သခင် ﷺ ကဆိုသည်မှာ နောက်ထပ်ရောက်ရှိလာ သောစစ်သည်များ သည်စစ်ကူသာလျှင်ဖြစ်မည်။ သို့ဖြစ်၍သူသာလျှင် စစ်ဦးစီးတာဝန်ယူရမည်ဖြစ် သည်ဟုဆို၏ ။ အဗူအူဗိုင်ဒါ ﷺ နှင့်ပါလာသောစစ်သည်တို့ကမူ ဤဆုံးဖြတ်ချက်ကို လက်မခံလိုကြပေ။သူတို့၏ခေါင်းဆောင်ခဲ့ သူကိုသာလျှင်ဦးစီးဖြစ်စေလိုသည်။ သို့ဖြစ်၍လည်းအချင်းချင်း၏အငြင်းပွားလာမှုသည် ကြီးထွားလာခဲ့ကြသည်။ ဤအခြေအနေဆိုးကြီးကိုကြည့်ပြီး အဗူအူဗိုင်ဒါသခင် ﷺ

က အမရ်သခင် ၏ အားအောက်ပါ အတိုင်းဆို၏ ။

``အမရ်–တမန်တော်မြတ်ကကျွန်ုပ်အား နောက်ဆုံးပြုခဲ့သောမှာကြားချက်ကိုသိစေလိုပါသည်။ တမန်တော်မြတ်ကမိန့်တော်မူသည်မှာ အသင်တို့အသင်တို့၏ရဲဘော်တို့နှင့်ဆုံးတွေ့ရသောအခါ တစ်ဦးစကားကိုတစ်ဦးကနားထောင်ကြပါ။ အငြင်းပွားခြင်းမဖြစ်ပါစေနှင့်။ သို့ဖြစ်၍အလ္လာဟ်အရှင်မြတ်ကိုသက်သေပြု၍ဆိုပါမည်။ အသင်သည်ကျွန်ုပ်၏အမိန့်ကိုနာခံခြင်းမပြုလျှင်လည်း၊ ကျွန်ုပ်ကအသင်၏အမိန့်စကားကိုတသဝေမတိမ်းလိုက်နာပါသည်။``(ဗိုင်ဟာကီကျမ်း)

အဗူအူဗိုင်ဒါသခင် ၏ အနေဖြင့် ဤအငြင်းပွားမှုကိုရှည်လျားစွာပြုနိုင်စွမ်းရှိပါသည်။ သူ့အနေဖြင့်အခြားစကားရပ်များဖြင့်လည်း ချေပခြင်းကိုပြုနိုင်ပါလျက်နှင့်အခြေအနေအရပ်ရပ်ကိုတစ်ဦးတည်းခံယူလျက် ပြေငြိမ်းမှုကိုရှာကြံယူခဲ့သည်။ ဤသို့ဖြင့်မိမိဖက်မှပြဿနာ၏တင်မာမှုကို လျော့နည်းသွားအောင်ပြုလုပ်ပေးခဲ့သည်။ အဖွဲ့အစည်းနှင့်လည်းကောင်း၊ အစုအဝေးအားဖြင့်လည်းကောင်း၊ ဤလုပ်ထုံးလုပ်နည်းသည်အလွန်အရေးကြီးသောဆုံးဖြတ်ချက်ဖြစ်ပေသည်။ ဤသို့သောအခြေအနေမျိုးတွင်ပြဿနာရပ်ကိုပြေလည်မှုရရှိရေးကိုမြန်နိုင်သမျှမြန်လာစေရန်မိမိကိုယ်ကိုခံယူလျှော့ပေးခြင်းသည် အရေးကြီးလှသည်။ ဤသို့မပြုလုပ်နိုင်ပါလျှင်မူပြဿနာသည်ရန်စအသွင်သို့ ကူးပြောင်းမွေးဖွားလာပြီးညီညွတ်ရေးပျက်ပြားနိုင်ပေသည်။

**မကောင်းမြင်ခြင်းကိုကျော်လွှားပြီးရှုမြင်တတ်မှု။**

ခလိဒ်ဘင်န်ဝလိဒ်သခင် ၏ သည် အလွန်ထက်မြက်သော စစ်သူရဲကောင်းဆွဟာဗီတစ်ဦးဖြစ်သည်။ သခင်ကြီး တွင်စစ်မှုစစ်ရာနှင့်ပတ်သက်ပြီး ထူးခြားသောစွမ်းဆောင်ရှင်အဖြစ်သတ်မှတ်ခံရသည်။ တမန်တော်မြတ်၏ခေတ်ကာလမှစပြီး အဗူဗကာရ်သခင် ၏ခေတ်ကာလအထိ စစ်ဘက်တွင်အကြီးအကဲ တာဝန်ကိုထမ်းဆောင်ခဲ့ရသူဖြစ်သည်။ သို့ရာတွင် အူမရ်သခင် ၏ကမူသူ၏ အချို့သောအကျင့်ကိုကြိုက်နှစ်သက်ခြင်းမရှိခဲ့။သို့ဖြစ်၍ အဗူဗကာရ်သခင် ၏အားခလိဒ်ဘင်န် ဝလိဒ်သခင် ၏ကို ရာထူးမှဖယ်ရှားရန်အကြံပြုခဲ့သည်။ သို့သော်အဗူဗကာရ်သခင် ၏ က

ဤအကြံပေးချက်ကိုလက်ခံခြင်း မရှိခဲ့ပါ။အူမရ်သခင် ﷺ သည်ခလီဖာအဖြစ် တင်မြှောက် ခံရသောအခါ ခါလိဒ်ဘင်န်ဝလိဒ် ﷺ ကိုစစ်အကြီးအကဲတာဝန်မှ ဖြုတ်ချ ပြီးသာမန်စစ်သည်အဖြစ်သို့ လျှော့ချခဲ့သည်။

ဤသို့ရာထူးမှလျှော့ချခံရချိန်တွင် ခါလိဒ်ဘင်န်ဝလိဒ်သခင် ﷺ သည် ဆီရီယာ စစ်မျက်နှာတွင် အောင်ပွဲခံတိုက်ခိုက်နေချိန်ဖြစ်နေသည်။ သူအား ရာထူး မှလျှော့ချပြီး အကြီးအကဲတာဝန်ကိုအဗူအူဗိုင်ဒါဟ်ဘင်န်ဂျရာဟ် ﷺ အားခန့် အပ်လိုက်သည်။ဤသို့ ပြောင်းလဲမှုဖြစ်လာသည်ကိုမကျေနပ်သော စစ်သည်တော် များသည် ခါလိဒ် ဘင်န်ဝလိဒ် ﷺ ရှိရာစစ်ထဲသို့ စုရုံးလာခဲ့ကြသည်။ ယင်းစစ်သည် တော် တို့ကခလိဒ်သခင် ﷺ အားသူတို့အနေဖြင့် သခင့်ကိုသစ္စာ ခံကြောင်းခလိဒ် သခင် ﷺ အနေဖြင့်ခလီဖာအူမရ်သခင် ﷺ ၏ အမိန့်ကိုလက်ခံခြင်းမရှိ ဘဲ ပယ်ချစေ လို ကြောင်းဆို၏။ ထို့စဉ်ကခလိဒ်ဘင်န်ဝလိဒ်သခင် ﷺ ကယင်းစုရုံးလာသူ တို့ကို ပြောခဲ့ သည် မှာ"သူသည် အူမရ်သခင် ﷺ ကိုသစ္စာခံ၍တိုက်ခိုက်နေခြင်းမဟုတ်ပါ။ အူမရ်သခင် ﷺ ၏ အားဖန်ဆင်းပြုစုပျိုးထောင်သောအရှင်အလ္လာဟ်အရှင်မြတ်အတွက် စစ်မက်တိုက်ခိုက်ခြင်းဖြစ်သည်။ သူအနေဖြင့်မူလ ခေါင်းဆောင်တစ်ဦး အနေဖြင့် စစ်မှုထမ်းခဲ့သော်လည်း။ ယခုမူစစ်သားကောင်းတစ်ဦးအနေဖြင့် ဆက်လက်၍တာဝန် ထမ်းဆောင်သွားမည်အကြောင်းပြောကာ စုရုံးလာသူတို့ကိုပြန်လည်၍ ထွက်ခွာ သွားစေခဲ့သည်။"

ဤသို့သော်လုပ်ဆောင်နိုင်မှုစွမ်းဆောင်ချက်မျိုးသည် သာမန်လူတို့ တွင်ရှိမည်မဟုတ်။ ဤစွမ်းဆောင်နိုင်မှုသည် အလွန်မြင့်မြတ်သောအဆင့်အတိ တက်လှမ်းပြီးဖြစ်သော အရည်အချင်းရှိသော လူတို့သည်သာလျှင်စဉ်းစားဆင်ခြင်းနိုင် မည်ဖြစ်သည်။ ဤသို့သော်သူ၏အသက်ရှင်ရပ်တည်မှုသည် အလ္လာဟ်အရှင်မြတ် အတွက်သာလျှင်ဖြစ်မည်။လူတို့ အတွက်အသက်ရှင်သူမဟုတ်ရပါ။

**အတိုင်းထက်အလွန်ပါဝင်ဆောင်ရွက်ကြပုံ။**

ဟိဂျရီ၂၃နှစ်ရှာဗာန်လတွင် မက္ကာသားကုရိုက်ရှ်ခေါင်းဆောင်များ၏ ဦးဆောင်မှုဖြင့် အင်အားတစ်ထောင်ရှိသော ကာဖိရ်တို့၏စစ်ကြောင်းသည်

မဒီနာမြို့ပြနိုင်ငံကိုတိုက်ခိုက်ရန် ချီတက်လာကြောင်းကိုတမန်တော်မြတ်ကသိရှိလိုက်ရသည်။ ယင်းတို့တွင်သံချပ်ဝတ်တပ်သား၁၀၀ပါရှိပြီး အထူးတပ်သား၁၀၀သည်လည်း အစီအနင်းများဖြင့် လာရောက်ကြောင်းသတင်းရရှိသည်။ အခြေအနေသည်အလွန်စိုးရိမ်စရာဖြစ်ပြီးတင်မာသောအခြေတွင်ရှိနေသည်။

တမန်တော်မြတ်သည်မဒီနာရှိအန်ဆွာရ်နှင့် မက္ကာမြို့မှ လာရောက်ကြသောမုဟာဂျိရင်န်တို့ကိုဖိတ်ခေါ်ကာ ဤသို့သော်အခြေအနေတွင်မည်သို့ပြုလုပ်စီမံလျှင်ကောင်းနိုင်မည်ကိုအကြံဉာဏ်တောင်းခံခဲ့သည်။ပထမဦးစွာမုဟာဂျိရင်န်အုပ်စုမှခေါင်းဆောင်များက တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် ၏စေခိုင်းချက် တွင် သူတို့သည်လည်း တစ်တပ် တစ်အားပါဝင်မည်ဖြစ်ကြောင်းဆို၏။ ထိုမှတစ်ဖန်အတိတ်ကာလက ယဟူဒီတို့ကဆိုခဲ့သည့်စကားဖြစ်သော''အသင်နှင့်အသင်၏အလ္လာဟ်သွားရောက်တိုက်ခိုက်ကာကွယ်ပါ။ ကျွန်ုပ်တို့ထိုင်၍ကြည့်နေမည်ဟုဆိုခဲ့သော်လည်းကျွန်ုပ်တို့ကမူ အလ္လာဟ်နှင့်အလ္လာဟ်၏ရစူလ် နှင့်အတူပါဝင်မည်ဖြစ်ကြောင်း၊ ကျွန်ုပ်တို့အတွင်းမျက်လုံးတစ်လုံးသာရှမြင်သုံးသပ် ရန်ကျန်ရှိခဲ့လျှင်လည်းတမန်တော်မြတ်နှင့်အတူ ပါဝင်ကာလှုပ်ရှားတိုက်ခိုက် မည်ဖြစ်ကြောင်းဆိုကြသည်။''

ဤသို့သောအကြံဉာဏ်ပေးသောစကားများစပ်ကြားတွင် တမန်တော်မြတ်ကအကြံဉာဏ်ပေးကြပါဟုဆိုနေသည်ကိုတွေ့ရသည်။ ဆအာဒဘင်န်မုအာဇ်သခင် ⟡သည် မဒီနာသားအန်ဆွာရ်တို့၏ခေါင်းဆောင်တို့တွင် တစ်ဦးအပါအဝင်ဖြစ် သည်၊ ပုဂ္ဂိုလ်ကြီးသည်အန်ဆွာရ်တို့ကိုကိုယ်စားပြု၍ အောက်ပါအတိုင်းဆို၏။

''အိုအလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်၊ ယခုရှုတ်ဆိုခြင်းသည် ကျွန်တော်တို့အန်စွာရ်တို့ကိုရည်ညွှန်းဟန်တူသည်ဟု''ဆိုရာ၊တမန်တော်မြတ်က 'ဟုတ်ပါ သည်' ဟုပြန်ဖြေ၏။ ဆအာဒ်ဘင်န်မုအာဇ်သခင် ⟡က ဆက်လက်၍ဆိုသည်မှာ ''ကျွန်တော်တို့သည်အသျှင်၏စကားကိုယုံကြည်ခဲ့ပါသည်၊ သစ္စာတရားသည်သာလျှင်ဖြစ်ကြောင်းကိုလည်းမြွက်ဆိုသက်သေခံပါသည်။ အသျှင်ထံတွင်သိမြင်မှု နှင့်လိုက်နာမှုအတွက် သံဒိဋ္ဌာန်ချခဲ့ပြီးဖြစ်ပါသည်။

အိုအလ္လာဟ်အရှင်မြတ်ရစူလ်တမန်တော်၊ အသျှင်အလိုရှိသည့်အတိုင်း ကျွန်တော်တို့ ထပ်ချမကွာ လိုက်နာဆောင်ရွက်ပါမည်။ ကျွန်တော်တို့အားလုံး သည်အသျှင်နှင့်အတူရှိပါသည်။ အလ္လာဟ်အရှင်မြတ်ကိုတိုင်တည်၍ဆိုပါမည်။ အလ္လာဟ်အရှင်သည်အသင် တမန်တော်ကိုကျွန်ုပ်တို့စပ်ကြားတွင်စေလွှတ်ခဲ့သည်။ အကယ်၍အသင်တမန်တော် သည် ကျွန်တော်တို့ကိုသမုဒ္ဒရာသို့သွားရောက်ကြလျှင် ကျွန်ုပ်တို့လိုက်မည်သာဖြစ်သည်။ အကယ်၍အသင်တမန်တော်သည်ပင် လယ်အတွင်း သို့ထိုးဖောက်ဝင်ရောက်လျှင် ကျွန်ုပ်တို့လည်း အတူဝင်ရောက် မည်ဖြစ်သည်။ကျွန်ုပ်တို့အနက်တစ်ဦးတစ်ယောက်မျှ နောက်ကျကျန်ရစ် မည်မဟုတ်ပါ။ ကျွန်ုပ်တို့တွင် စစ်မြေပြင်အတွင်း ကြံ့ကြံ့ခံနိုင်စွမ်းသတ္တိရှိပြီး အသျှင်ကကျွန်ုပ်တို့အား ဖိတ်ခေါ်လျှင်တွန့်တိုမည်မဟုတ်ပါ။ ရင်ဆိုင်ရ ချိန်တွင် အမှန်တစ်ကယ်တည်ရှိမည်သူတို့ပါ။ အလ္လာဟ်အရှင်မြတ်သည်အသင်တမန် တော်မြတ်ကို အကြောင်းပြု၍ တစ်စုံတစ်ခုကို လက္ခဏာအဖြစ်ပြသခွင့်ရရှိကာ အသင်တမန်တော်မြတ်၏မျက်စိကို အေးမြစေမည်ဖြစ်သည်။ သို့ဖြစ် ၍အလ္လာဟ်အရှင်မြတ်၏ဘရကာသ်ရလိုမှုဖြင့်ကျွန်တော်တို့သည်အသင်တမန် တော်မြတ်နှင့်အတူ လျှောက်လှမ်းမည် ဖြစ်သည်။ (ဆီရသ်အိဗ်နေဟရှ်ရှာမ်) ၊ဤသို့အားဖြင့်မဒီနာအန်စာရီတို့၏ ခေါင်းဆောင် သည်အတူပါဝင်မည်ဖြစ် ကြောင်းဆုံးဖြတ်ကျေညာခြင်းကိုကြုံခဲ့သည်။

ဗဒါရ်စစ်ပွဲကာလကတမန်တော်မြတ်ကအန်စွာရ်တို့ဖက်သို့အကြိမ်ကြိမ် အခါခါ ရည်ညွှန်းချက်ဖြင့်အကြံဉာဏ် တောင်းခံခြင်းသည်အကြောင်းမဲ့မဟုတ်ပါ။ ဤသည်အတိတ်ကအကြောင်းအရင်းခံခဲ့သောအဖြစ်အပျက်ကြောင်းဖြစ် သည်ကိုအိဗ်နေဟရှ်ရှာမ်ကဆီရသ်ကျမ်းတွင်အောက်ပါအတိုင်းဖော်ပြထားသည် ကိုတွေ့ရပါသည်။ ဤသို့ဖြစ်ရခြင်းမှာမဒီနာသားအန်စွာရ်တို့သည် အက်ဗာအရပ် တွင်ဗိုင်အာဒ်ပြုစဉ်ကာလတမန်တော်မြတ်အား လျှောက်ထားသောစကား ရှိနေသည်။ ''အို အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ကျွန်ုပ်တို့သည် အသျှင်၏ထိန်းချုပ်ထားမှုအောက်မှလွတ်မြောက်ပါသည်။ ကျွန်ုပ်တို့၏

နယ်မြေဒေသသို့ရောက်လျှင်လည်း ကျွန်ုပ်တို့နှင့်ပတ်သက်၍ သောကထားရန် မလိုပါ။ အသျှင်တမန်တော်သည် ကျွန်တော်တို့၏ နယ်နိမိတ်အတွင်း ရောက်လာလျှင် ကျွန်ုပ်တို့ကတမန်တော်မြတ်ကိုစောင့်ရှောက် မည်ဖြစ်သည်။ ကျွန်ုပ်တို့ကအသျှင်ကိုကာကွယ်စောင့်ရှောက်ပါသည်။ ကျွန်ုပ်တို့သည်ကျွန်ုပ်တို့၏သားသမီးနှင့် အမျိုးသမီးများကိုကာကွယ်စောင့်ရှောက်သကဲ့သို့ စောင့်ရှောက်မည်ဖြစ်သည်။

တမန်တော်မြတ်အနေဖြင့်စိုးရိမ်မိသည့် အချက်သည်ကာအန်စွာရ်တို့အနေဖြင့်တမန်တော်မြတ်အား မဒီနာမြို့ အတွင်းသို့ဝင်ရောက်တိုက်ခိုက်လျှင် ကာကွယ်ကူညီကြပြီး မဒီနာမြို့မှဝေးကွာသောနေရာသို့ သွားရောက်ကာရန်သူတို့နှင့်စစ်ဖြစ်ပွားခဲ့လျှင်သူတို့အနေဖြင့်တာဝန်လွတ်ကင်းသည် ဟုထင်မှတ်ကြမည့်အချက်ဖြစ်သည်။ (ဆီရသ်အဗ်နေဟ၏ရှာမ်–တွဲစာ၅၃) ။

တမန်တော်မြတ်နှင့်အက်ဗာတွင်ပြုခဲ့သောအန်စွာရ်တို့၏ မိုက်အဒ်သည် ဂျာဟီလီယက်ရှေးဟောင်းဝေါဟာရ သဘောအရဆိုရသော် မိုက်အဒ်နီဆာ(ဝ်) ကာကွယ်ရေးမိုက်အဒ်ဖြစ်သည်။ ဤဝေါဟာရသဘောအရမဒီနာမြို့ပြနိုင်ငံမှ မိုင်ပေါင်းဇဝအကွာရှိဗဒရ်အရပ်တွင်ဖြစ်ပွားမည်စစ်ပွဲတွင်သူတို့အတွက် ပါဝင်တိုက်ခိုက်ရန် တာဝန်မရှိပါ။ သို့ရာတွင်လက်တွေ့မှ အန်စွာရ်တို့သည်တမန်တော်မြတ် ၏ ဆွဟာဗိပီသစွာသူတို့အတွက်စစ်ပွဲတွင်ရှောင်ထွက်ခြင်းမရှိခဲ့ပါ။ သူတို့သည် မူလကချုပ်ဆိုထားသောပဋိဉာန်ကို ကျော်ဖြတ်ပြီးအတိုင်းထက် အလွန် တမန်တော်မြတ်ကိုကူညီခဲ့ကြသည်။ ထိုမှ ဗဒါရ်စစ်မြေတွင် သက်စွန့်ကြိုးပမ်းမှုကိုပြုခဲ့ကြသည်။

**ပဋိပက္ခကိုရှောင်၍အဝိကကျူးသောဆောင်ရွက်ရမည်အရေးတွင်လုံးပမ်းခြင်း။**

မုဆဝရ်ဘင်နမ်မုခ်ရေဖာဟ်ထံမှသိရှိရသည်။ တမန်တော်မြတ်သည်သူ၏အဆွဟာဗ်ရဲဘော်တို့ရှေ့မှောက်တွင် ဤသို့မိန့်ခြွေခဲ့သည်။ "အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အားလူသားအားလုံးတို့အတွက် ရဟ်မသ်ကရုဏာပွားများစေရန်စေလွှတ်တော်မူသည်။ သို့ဖြစ်လေရာ အသင်တို့သည် ကျွန်ုပ်ဘက်မှဤတာဝန်ကို ကျေပြွန်ကြပါကုန်။ အလ္လာဟ်အရှင်မြတ်သည်

အသင်တို့အားသနာကြင်နာတော်မူပါစေ။ အသင်တို့အချင်းချင်းပဋိပက္ခ အငြင်းပွားခဲ့သလို မဖြစ်လိုက်ပါစေနှင့်။ အဲဆာနဗီသည် ကျွန်ုပ်ကအသင်တို့ကို ဖိတ်ခေါ်သည့်ဘက်သို့ပင် သူ၏နောက်လိုက်များကို ဖိတ်ခေါ်ခဲ့သည်။ ခရီးပန်းတိုင်ဝေးလံသည့်အတွက် မသွားသောသူအဖို့မရောက်နိုင်ဖြစ်ခဲ့ရသည်။ အဲဆာနဗီသည် အလ္လာဟ်ထံ တော်သို့တိုင်တာမှုပြုခဲ့သည်။

ထို့အခါတမန်တော်မြတ်၏ အဆွဟာမ်ရဲဘော်ရဲဘက်တို့က ''အို အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်၊ ကျွန်ုပ်တို့သည်တမန်တော်မြတ်၏ ပေးအပ်သောတာဝန်ကိုကျေပြွန်စွာထမ်းဆောင်ပါမည်။ ကျွန်ုပ်တို့အား အသင်တမန်တော်စေလွှတ်လိုရာသို့စေပါ ကျွန်ုပ်တို့သွားရောက်ပါမည်။''

လူအဖွဲ့အစည်းတွင်တာဝန်ထမ်းဆောင်ရာတွင် အကြီးမားဆုံးသော အတားအဆီးဖြစ်စေသောအရာသည်ကား ပဋိပက္ခအငြင်းပွားမှုပင်ဖြစ်သည်။ သို့ရာတွင်တမန်တော်မြတ်၏အဆွဟာဗ်တော်တို့သည် သူတို့၏ကိုယ်ပိုင်အယူအဆ နဖ်စ်၏စေခိုင်းမှုကိုကျော်ဖြတ်လျက် ပဋိပက္ခအငြင်းပွားမှုကို ရှောင်ခဲ့ကြသည်။ ဤသို့အားဖြင့်သူတို့၏တာဝန်ကိုပြည့်ဝ စွာထမ်းဆောင်ကျေပြွန်နိုင်ခဲ့ကြသည်။ သို့ဖြစ်၍လည်း တမန်တော်မြတ်သက်ရှိထင်ရှားစဉ်ကာလကတည်းက တမန်တော် မြတ်၏ဖြစ်စေလိုသောဆန္ဒအတိုင်း အာရေဗျာဒေသနှင့်အလွန်ဝေးလံ သောဝန်း ကျင်ဒေသများသို့ အစ္စလာမ် ဒေသနာတော်ဒါဝသ်လုပ်ငန်းကို ဖြန့်ချိပို့ချရန် သွား ရောက်ခဲ့ကြသည်။ တမန်တော်မြတ်ကွယ်လွန်ဝဖာသ်ဖြစ်ခဲ့ပြီး နောက်သူတို့သည်ဥစ္စာပစ္စည်းရှာဖွေရေးတွင်နစ်မွန်းမနေပဲနိုင်ငံရပ်ခြား ဒေသများသို့ပျံ့နှံ့ကာဒါဝသ်လုပ်ငန်းကိုပြုခဲ့ကြသည်။

တမန်တော်မြတ်၏ဆွဟာဗီတို့၏နေထိုင်ရာအိမ်သည် ထိုစဉ်ကာလက ကျောင်းအသွင်ရှိနေသည်။ ယင်းနေရာဌာနတွင် အလ္လာဟ် အရှင်မြတ်၏သဘော တူညီမှုရဇာအီလာအီအတွက် လူတို့ကိုစာတတ်အောင် မွမ်းမံပေးသည်။ ပြီးနောက်ကျမ်းတော်မြတ်ကုရ်အာန်နှင့် တမန်တော်မြတ် ၏ဘဝ ဆိုင်ရာ သိမှတ်စရာများကိုပို့ချခဲ့ကြသည်။

ထို့စဉ်ကာလကမွတ်စလင်မ်တို့အနက်မှ အစိတ်အပိုင်းတစ်ခုသည်နိုင်ငံနယ်နိမိတ်ချဲ့ထွင်ရန် လုံးပမ်းနေကြသည်။ သို့ရာတွင်ဆွဟာဗီတို့ကမူ ယင်းတာဝန်ထက် အစ္စလာမ်ရေးရာဟုချမှုကိုပိုမို၍ အလေးပေးဆောင်ရွက်ခဲ့ကြသည်။ အမှန်အားဖြင့်ဆိုရသော်ယင်းဆွဟာဗီပုဂ္ဂိုလ်တို့သည်လည်းနိုင်ငံရေးဆိုင်ရာတွင် နေရာရယူရန်လုံးပမ်းသင့်သည်။ သို့ရာတွင်အဆွဟာမ်တော်တို့သည် ယင်းနိုင်ငံရေးဆိုင်ရာကို ဥပေက္ခာပြုခဲ့ကြသည်။

အဆွဟာဗ်တော်တို့သည်ကြီးမားလာသော အစ္စလာမ် နိုင်ငံတော်ကြီးနယ်နိမိတ်အစွန်းအဖျားအထိ သွားရောက်ကာအစ္စလာမ်ရေးရာသိမှတ်စရာများကိုပို့ချခြင်းဖြင့် ဒါဝါဗ်ဖိတ်ခေါ်မှုကိုပြုခဲ့ကြသည်။ ဤသို့အားဖြင့်အဆွဟာဗ်တော်တို့နှင့်ယင်းတို့မှဆင့်ပွားဖြစ်ပေါ်လာသောပေါက်ဖွားလာခဲ့ကြသောမျိုးဆက်များ၊ တပည့်များ၏တိတ်ဆိတ်စွာနှစ်ပေါင်း ၅၀ကြာလုံးပမ်းကြိုးပမ်းလာခဲ့ကြသောရလဒ်အဖြစ်သိပ် သည်းကျစ်လစ်သောအစ္စလာမ်အရောင်ဆိုထားသောအာရေဗျာလူ အဖွဲ့အစည်းသည်ပေါ်ထွန်းလာခဲ့ရသည်။ ယင်းသူတို့သည်သူတို့၏ဘာသာစကား ယဉ်ကျေးမှုနှင့်ဘဝတည်ဆောက်မှုကို အစ္စလာမ်နည်းကျတည်ဆောက်ပြသနိုင်ခဲ့ကြသည်။

**နောက်တန်းနောက်လိုက်အဖြစ်မိမိကိုယ်ကိုခန့်အပ်သဘောတူညီလိုက်ခြင်း။**

တမန်တော်မြတ်ဝဖာသ်ကွယ်လွန်သောအခါ မွတ်စလင်မ်လူအဖွဲ့အစည်းကိုခေါင်းဆောင်သွားမည့်ပုဂ္ဂိုလ်ကို ရွေးချယ်ရေး(ခလီဖာ)သည် ပထမဦးစားပေးပြဿနာဖြစ်လာခဲ့သည်။ မဒီနာသားအန်ဆွာရီတို့သည်ဗနုဆအာဒါ၏ စုရပ် တွင်စုဝေးနေကြသည်။ ထို့စဉ်ကာလကအန်ဆွာရ်တို့တွင် ဆအာဒ်ဘင်န်အဗါဒါအန်ဆွာရီသည်သူတို့အစုအဝေးတွင်အထင် ပေါ်ဆုံးသောပုဂ္ဂိုလ်ဖြစ်သည်။ သို့ဖြစ်၍လည်းအန်ဆွာရ်တို့က ခလီဖါတာဝန်ကို ဆအဒ်ဘင်န်အဗါဒါကိုခန့်အပ်ပေးစေလိုကြသည်။ မက္ကာမှလာရောက်ပြီးမဒီနာတွင်နေထိုင်ကြသောမုဟာဂျိရင်န်တို့က ဤသတင်းကိုကြားသိရသောအခါ မုဟာဂျိရင်န်

ခေါင်းဆောင်များသည် ယင်းစုရပ်သို့အပြန်လာရောက်ကြသည်။ အဗူဗကရ်သခင်ကယင်းအစုအဝေးတွင် အောက်ပါအတိုင်းမိန့်ခွန်းမြွက်ကြားခဲ့သည်။

''အိုအန်စွာရ်အပေါင်းတို့- အသင်တို့သည်အသင်တို့၏ သမိုင်းကြောင်းအရာထူးကဲမှုကိုဆိုကြသည်။အမှန်ပင်အသင်တို့သည် ထူးကဲသောသူများဖြစ်ကြသည်။ သို့ရာတွင်အာရဗ်နွယ်ဝင်အားလုံးက ဤအရေးကိစ္စနှင့်ပတ်သက်၍ကုရိုက်ရှ်နွယ်ဝင်မှမဟာဂျိရင်မှတစ်ပါး အခြားသူတို့ကိုသိမြင်ကြခြင်းမဟုတ်ပါ။ ကုရိုက်ရှ်နွယ်ဝင်မဟာဂျိရင်သည် အဆင့်အားဖြင့်လည်းကောင်း၊ အရည်အချင်းအားဖြင့် လည်းအားလုံးထက် သာလွန်လှသည်။ ကျွန်ုပ်သည်ပုဂ္ဂိုလ်နှစ်ဦးဖြစ်သော အူမရ်သခင်နှင့် အဗူအိုဗိုင်ဒါဟ်ဘင်န်အလ်ဟရာဂ်ျတို့ကိုအဆိုပြုပါ၏။ အသင်တို့အနေဖြင့်တစ်ဦးဦးကိုသဘောတူညီလိုက်ပါ။ အသင်တို့အနေဖြင့်၂ဦးအနက်တစ်ဦးဦးနှင့်ဗိုင်အာသ်ပြုလိုက်ပါ။ ''

ယင်းနောက်အူမရ်သခင်သည်ထိုင်မှထ၍အဗူဗကရ်သခင်၏လက်တွင်ဗိုင်အာသ်ပြုကာခလီဖာ အဖြစ်လက်ခံလိုက်သည်။ ယင်းနောက်မိုဟာဂျိရင်န် အားလုံးသည်လည်း အဗူဗကရ်၏လက်တွင်ဗိုင်အာသ်ပြုခဲ့ကြသည်။ ယင်းနောက်မဒီနာသားအန်စွာရ်တို့သည်လည်းအဗူဗကရ်၏လက်တွင်ဗိုင်အာသ်ပြုခဲ့ကြသည်။

မဒီနာသားအန်စွာရ်တို့သည်အစ္စလာမ်လှုပ်ရှားမှုကာလ တစ်လျှောက်ကြီးမားလှသောစွန့်လွှတ်စွန့်စားမှုကို ပြုခဲ့ကြသည်။ သူတို့သည်ကြီးမားလှသောမက္ကာမှနှင်ထုတ်ခံရသူတို့ကို သူတို့၏နယ်မြေတွင် နေထိုင်ခွင့်ပြုခဲ့သည်။ ဤ၍ ဤမျှ ကြီးမားသောသမိုင်းကြောင်းကိုပိုင်ဆိုင်သောအန်စွာရ်တို့သည် မဟာဂျိရင်န်တို့သည်သာလျှင်စေလာဖသ်တာဝန် နှင့်လိုက်လျောညီသည်ဟု အသိအမှတ်ပြုကာဗိုင်အာသ်ပြုခဲ့ကြသည်။

ဤသို့လက်ခံအတည်ပြုခြင်း၏နောက်တွင်ကြီးမားလှသောအကြောင်းလက္ခဏာများရှိနေသည်။ကုရိုက်ရှ်နွယ်ဝင်တို့သည်အစဉ်အလာအားဖြင့်အာရဗ်တို့ကိုနှစ်ပေါင်း ထောင်ချီ၍ဦးဆောင်ခဲ့သည့်အစဉ်အလာရှိနေသည်။ ထိုမျှမကကုရိုက်ရှ်နွယ်ဝင်မဟာဂျိရင်န်တို့သည်

မဒီနာမြို့သား အန်စွာရ်တို့သည် မဒီနာမြို့သားအန်စွာရ်တို့ထက်နှစ်ပေါင်း ၁၃နှစ်တာမျှ အစ္စလာမ်၏ခက်ခဲသောကာလ မက္ကာခေတ်ကာလတွင်တမန်တော်မြတ်နှင့်အတူရုံရုံချုန်ချုန်အစ္စလာမ်၏တာဝန်ကိုထမ်းဆောင်ခဲ့ကြသည်။

ဤသို့သော်သမိုင်းအကြောင်းအရာ၊ စေလာဖသ်တာဝန်ကို မုဟာဂျီရင်န်မှတစ်ပါး အခြားသူတို့ရယူထမ်းဆောင်စရာအကြောင်းမရှိကြောင်း ကိုအန်စွာရ်တို့ကသိမြင်သဘောပေါက်ကြခြင်းဖြစ်သည်။ဤသည်အန်စွာရ်တို့ ၏ထူးကဲသောအရည်အချင်းတစ်ရပ်ကို သမိုင်းတွင်ရစ်အောင်သက်သေခံပြသနိုင်ခဲ့သည်။ သူတို့သည်သူတို့ကိုယ်ကိုလျှော့၍ ဖြစ်ပေါ်လာမည့်ပဋိပက္ခ ကိုဖယ်ရှားကာ အခြေအနေကို ထိန်းသိမ်းနိုင်ခြင်းပင်ဖြစ်သည်။ ဤကဲ့သို့ သောအစဉ်အလာနှင့်ထိန်းသိမ်းမှုမျိုးကို ကမ္ဘာ့သမိုင်းတွင် ရှာဖွေ တွေ့နိုင် မည်မဟုတ်ပါ။

**စိတ်ကို ထိန်းသိမ်းကာဆုံးဖြတ်သောသတ္တိ။**

အုဟုဒ်စစ်ပွဲသည်အစ္စလာမ်သမိုင်းတစ်လျှောက်အပြင်ထန်ဆုံးနှင့်အခက်ခဲဆုံးအကြမ်းတမ်းဆုံးစစ်ပွဲဖြစ်ခဲ့ရသည်။ မက္ကာသားကုရိုက်ရှ်စစ်သွေးကြွတို့သည် အလုံးအရင်းဖြင့်မွတ်စလင်မ်တို့အပေါ်တွင် စီးနင်ရန်ကြိုးစားခဲ့ကြသည်။ စစ်ပွဲသည်ပြင်းထန်စွာသွေးရဲရဲဖြင့် အတုန်းအရုန်းတိုက်ခိုက်နေစဉ်ကာလ တမန်တော်မြတ်ကဒါးကိုလက်မှကိုင်လျက် " ဤဒါးကိုမှန်ကန် သောနည်းဖြင့်အသုံးပြုသောသူယူပါ" ဟုဆိုရာဆွဟာဗီတို့သည်တမန်တော်မြတ်ကယင်းသူတို့ကိုဒါးမပေးပါ။ ယင်းနောက် အဗူဒုဂျာနာဆိုသော ဆွဟာဗီ ကရောက်လာသည့် သူကတမန်တော်မြတ်ကို မေးမြန်းသည်မှာ "ဤဒါးကိုမှန်ကန်သောနည်းဖြင့်အသုံးပြုခြင်းဆိုသည်မှာဘာလဲ" ဟုဆိုပြီး ရန်သူတို့စပ်ကြားတွင်မကြောက်မရွံ့ခန္ဓာကို ကြွလျက်ဝင်ရောက်တိုက်ခိုက်ကာ ရန်သူတို့ကိုချေမှုန်းပစ်ခဲ့သည်။ တမန်တော်မြတ်ကမိန့်တော်မူသည်မှာ 'အဗူဒုဂျာနာ ၏ကြွဝါးစွာနေမှုသည် ဤစစ်မြေပြင်နေရာမှအပ အခြားတွင်မူအလ္လာဟ်အရှင်မြတ်ကနှစ်သက်မည်မဟုတ်ပါ' ဟုဆို၏။

ထို့စဉ်ကအဗူဒုဂျာနာ၏ခေါင်းပေါ်တွင်အနီရောင်အဝတ်ကိုစည်းထား

သည်။ သဘောကရဲရဲတောက်သေဖို့မကြောက် ဟူ၏။ သူ၏ရဲရဲတောက် စစ်ခင်းပုံကို အားလုံးကချီးကြူးမဆုံးဖြစ်ခဲ့ရသည်။ ဤစစ်ပွဲနှင့် ပတ်သက် ၍အဗူဒဂျာနာ ကိုယ်တိုင် အောက်ပါအတိုင်းဖော်ပြထားသည်ကိုတွေ့ ရသည်။

''ကျွန်ုပ်သည်လူတစ်ဦးကိုစစ်မြေပြင်တွင်တွေ့လိုက်ရသည်။ ဤသူ သည်စစ်ပွဲတွင်ပါဝင်သောရန်သူစစ်သည်တို့ကို စစ်သွေးကြွ အောင်အော်ဟစ် ကာအားပေးနေသည်။ ယင်းသူကို သတ်ရန်ဒါးကိုဆွဲကိုင်လိုက်သောအခါ ယင်းသူသည် ယောကျ်ားမဟုတ်ပဲမိန်းမတစ်ဦးဖြစ်နေသည် ကိုတွေ့လိုက်ရသည်။ သို့ဖြစ်၍ကျွန်ုပ်သည်တမန်တော်မြတ်၏ဒါးဖြင့်အမျိုးသမီး တစ်ဦးကို မသတ်မိစေရန်သတိထားကာ ဒါးကိုရုပ်သိမ်းလိုက်သည်။

(ဆီရည်အျဗ်နေဟရှ်ရှာမ်တွဲ၃–စာ၁၄)

စင်စစ်အားဖြင့်အဗူဒဂျာနာ၏ဒါးပိုင်းမည့်ဆဲဆဲရုပ်သိမ်းလိုက်သောသူမမှာ အစ္စလာမ်၏ရန်သူတော်ကြီးဟင်ဒါဘင်နိသ်အာသ်ဗာဆိုသူဖြစ်သည်။ ဤသူမသည် ဗဒါရ်၏ ရန်ကြွေးကိုဆပ်ရန်ရောက်ရှိလာသူဖြစ်သည်။ ဤသူမသည် တမန်တော်မြတ် ၏ဘကြီးတော် ရှဟီဒ်တို့၏ခေါင်းဆောင်ဟမ်ဇာသခင်ကို လုပ်ကြံရန်လာရောက်ပြီး အောင်မြင်စွာပြုလုပ်နိုင်ခဲ့သည်။

စစ်နှင့်ပတ်သက်၍တမန်တော်မြတ်၏မှာကြားချက်မှာ အမျိုးသမီး များကလေးငယ်များနှင့်အသက်အိုရင့်သူတို့ကို မသတ်ဖြစ်ရ။ အဗူဒဂျာနသည် သတ်မည့်ဆဲဆဲတွင်တမန်တော်မြတ်၏အမိန့်ကိုသတိပြုမိကာ မသတ်ပဲနေလိုက် ခြင်းဖြစ်သည်။ ဤဖြစ်ရပ်ပေါ်မူတည်၍သိရှိရသည့်အချက်သည်ကား ဆွဟာဗီတို့သည်သူတို့ကိုယ်ကိုစိတ်လိုက်မာန်ပါမလုပ်မိဖို့ အစဉ် ထိန်းသိမ်းကြောင်း သိမြင်နိုင်သည်။ ဆွဟာဗီတို့သည်ပြဿနာရပ်များကိုဒေါသရှေ့ထားခြင်းမရှိပဲ စိတ် အေးအေးဖြင့်အစဉ်ဆုံးဖြတ်ရသည့်အကျင့်ကို တမန်တော်မြတ်ထံတော်မှ သင်ယူ ရရှိခဲ့သည်။ ထို့မျှမကဒေါသစိတ်ကိုအခြားဖက်သို့လွှဲဖယ်နိုင်စွမ်း လည်းရှိသည်။ ဤသို့သော်အစွမ်းအစကိုပိုင်ဆိုင်ခွင့်ရရှိနိုင်ခြင်းသည် သက်ဝါဟ် အလ္လာဟ် သိစိတ်ကိုအစဉ်ဦးထိပ်ထားဆောင်ရွက်ခြင်းကြောင့်ပင်ဖြစ်သည်။ အလ္လာဟ်

အရှင်မြတ်သည်လူတို့ကိုအစဉ်အမြဲစောင့်ကြည့်နေသည်ဟူသောအသိသည် ဆွဟာဗီတို့ကခံယူထားသောခံယူချက်ဖြစ်ပေသည်။

## သစ်ပင်ကဲ့သို့ အမြင့်သို့တက်လှမ်းခြင်း။

ကျမ်းတော်မြတ်ကုရ်အာန်တွင်သောင်ရသ်ကျမ်းနှင့်အိန်ဂျီလ် ကျမ်းပြန်လှည့်ကြည့်ရန်အမိန့်စကားဖေါ်ပြချက် နှစ်ရပ်ရှိပါသည်။သောင်ရဟ် တွင်ဖေါ်ပြထားချက်သည်ကားဆွဟာဗီတို့၏တစ်ဦးချင်း အရည်အချင်းနှင့် ပတ်သက်သော ဖေါ်ပြချက်ဖြစ်ပြီးအိန်ဂျီလ်ကျမ်းတွင် ဆွဟာဗီတို့၏အစုအဝေး အားဖြင့်တည်ရှိနေသောအရည်အချင်းပိသောလက္ခဏာဖြစ်သည်။

ထိုမှတစ်ပါး'အင်န်ဂျီလ်'ကျမ်းတော်၌လာရှိသောဃင်သူတို့၏ထူးခြားလှသောဝိသေသသည်ကား ဤသို့တည်း။ဤသူတို့သည်လယ်ယာမြေရှိမျိုးစေ့နှင့်ပမာတူ၏။ယင်းမျိုးစေ့သည် မိမိ၏အစို့အညှောက်ကိုထွက်စေခဲ့၏။ ထို့နောက်မိမိအစို့ အညှောက်ကို သန်စွမ်းစေခဲ့၏။ထို့နောက် ထိုအညှောက်အစို့မှာ တုတ်ခိုင်၍ လာပြီးလျှင် မိမိပင်ရိုး၊ပင်တံ၊ပင်စည်၊ပင်မပေါ်၌ တည့်မတ်စွာ ထောင်တက်လာခဲ့ပေရာလယ်သမားတို့ အား အထူးနှစ်မြို့ အကြည်ဆိုက်စေခဲ့၏။ယင်းအပေါင်းအဖေါ်တို့ဖြင့် 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့အား အမျက်ဒေါသထွက်စေရန် ဖြစ်ပေသည်။အလ္လာဟ် အရှင်မြတ်မှာမူကား 'အီမာန်' သက်ဝင် ယုံကြည်ပြီးနောက် ကောင်းမြတ်သောလုပ်ဆောင်မှုအမှုအကျင့် ဆောက်တည်ကြကုန်သောသူတို့အားခွင့်လွှတ်ချမ်းသာပေးတော်မူရန်နှင့် ကြီးကျယ်လှစွာသော အကျိုးကို ချီးမြှင့်ပေးသနားတော်မူရန်ကတိပေးတော်မူခဲ့ပေသတည်း။ကုရ်အာန်၄၈း၂၉

ဤအချက်ကိုအိန်ဂျီလ်ကျမ်း တွင်အောက်ပါစကားရပ်ဖြင့် ဖေါ်ပြထားသည်ကိုတွေ့ရသည်။

"ထိုမှတစ်ပါးလူသည်လယ်၌မျိုးစေ့ကြဲပြီးမှနောက်တဖန် မိမိမကြည့်မမှတ်ညဉ့်နေ့အိပ်လျက်နိုးလျက်နေသော်လည်း အပင်ပေါက်၍ကြီးပွားသည်နှင့် ဘုရား သခင်၏နိုင်ငံတော်တူ၏မြေကြီးသည်မိမိအလိုအလျောက်အသီးကိုသီးစေ၍ရှေ့ဦးစွာ အညှောက်အနံ ၊ထိုနောက်အနံ့ထဲမှာအောင်မာသော အဆန်ကိုဖြစ် စေတတ်၏။ အသီးမှည့်၍ရိတ်ချိန်ရောက်သောအခါ လယ်ရှင်သည်မဆိုင်းမလင့် တံစဉ်းနှင့်ရိတ်စေတတ်သည်ဟုမိန့်တော်မူ၏။ ထိုမှတစ်ပါးဘုရားသခင်၏ နိုင်ငံတော်အဘယ်သို့ပုံပြရအံ့နည်း။

အဘယ်ဥပမာနှင့်ခိုင်းနှိုင်ရအံ့နည်း ဟူ၍မူကားမုန့်ညင်း စေ့နှင့်တူ၏။'

( ၄ း၂၆ - ၃၀ ) ရှင်မကူ ခရစ်ဝင်

အိန်ဂျီလ်ကျမ်းနှင့်ကျမ်းတော်မြတ်ကုရ်အာန်က တမန်တော်မြတ်၏အဆွဟာဗ်တော်နှင့်ပတ်သက်၍ဖော်ပြရာတွင် သစ်ပင်ကိုဥပမာအဖြစ်ယူ၍ရှင်း လင်းဖော်ပြခြင်းဖြစ်သည်။ ဤဖော်ပြချက်သည်ကြီးမားနက်နဲလှသော အဓိပ္ပာယ်ကိုဆောင်ပါသည်။ဆွဟာဗီတို့၏အရည်အသွေးထွန်းတောက်မှုသည် သစ်ပင်၏ဆင့်ကဲတိုးတက်ဖွံ့ဖြိုးလာမှုဖြင့် ခိုင်မာသောအခြေသို့ ရောက်ရှိ ကြောင်းပြဆိုခြင်းဖြစ်သည်။

သစ်ပင်သည်အစပထမတွင်နုနယ်သော အခြေမှရှင်းသန်လာပြီးတစ်ဖြည်းဖြည်းခိုင်မာသောပင်စည်ကိုဖြစ်စေကာ အထက်သို့တက်လှမ်းခြင်းပင်ဖြစ်သည်။ ဤသို့တက်လှမ်းရာတွင်သဘာဝ၏ပံ့ပိုးထောက်ပံ့ပေး မှုများဖြင့်သူ၏အမြင့်ဆုံးအခြေသို့ရောက်ရှိရသည်။ ဤနည်းနှင်နှင်ဆွဟာဗီတို့၏ရှင်သန်မှုဘဝဖြစ်စဉ်လည်းဖြစ်ပြန်သည်။ အီမာန်ရှင်တစ်ဦးသည်ယင်းဖြစ်ထွန်းလာမှုကိုကြည့်ပြီးကြည်နူးကြမည်ဖြစ်သလိုအစ္စလာမ်ကိုမုန်းတီးကြသောသူတို့သည် လည်းအခဲမကျေဖြစ်ကြမည်မှာအမှန်ပင်။

အစ္စလာမ်ကိုသစ်ပင်ကဲ့သို့တိုးတက်ဖြစ်ထွန်းလာစေဖို့ အလ္လာဟ်အရှင်မြတ်၏စည်းစံနစ်ဖယားသည်ကား ဆွဟာဗီတို့၏ဖြစ်ထွန်းလာ မှုအတိုင်းပင်ဖြစ်သည်။ ဤသည်လွယ်ကူချောမွတ်သောနည်းလမ်းဖြစ်စဉ်မဟုတ်ပါ။ ဤဖြစ်စဉ်ကိုဖြစ်ထွန်း အောင်မြင်လာစေဖို့အလျင်အမြန်ဖြစ်ကတက်ဆန်း လုပ်၍မရပါ။ ဤဖြစ်စဉ်အတွက်ဆွဘာရ်တည်းဟူသောကြံ့ကြံ့ခံရပ်တည် ဆောင်ရွက်မှုကလိုအပ်နေသည်။ ဤဖြစ်စဉ်အတွက်ဖြစ် သလိုမြန်မြန်ဆန်ဆန် လုပ်နည်းကိုမကျင့်သုံးရပါ။ ဤဖြစ်စဉ်ဖြစ်ထွန်း လာစေရန်အလ္လာဟ်အရှင်မြတ် ၏သဘာဝကြီးကို ဖြစ်ထွန်းလာစေသောစံနစ်ဖယားနည်းစဉ်ဖြင့်လုပ်မှသာရမည်။

ဤတာဝန်ကိုထမ်းဆောင်သူတို့သည် ရလဒ်ပေါ်ထွန်းလာမည်ကိုသတိပြုစရာမလို ဤရလဒ်သည်ယခုမျက်မှောက်တွင် ပေါ်ထွန်းလာမည်လည်းရှိသည်။ ကျွန်ုပ်တို့မရှိသည့်နောက်လည်းပေါ်ထွန်းလာ မည်လည်းဖြစ်နိုင်သည်။

အစ္စလာမ်တည်းဟူသောသစ်ပင်ကို စိုက်ထူးရာတွင် မိမိတို့၏ စိတ်ကိုထိန်းသိမ်းကာဆန္ဒစောခြင်းမရှိဖို့အရေးကြီးလှသည်။

တမန်တော်မြတ်၏ဆွဟာဗီတို့သည် ဤစိတ်ဓါတ်ဖြင့်ပြုလုပ်ဆောင်ရွက်ကာအလ္လာဟ် အရှင်မြတ်၏စံနစ်ဇယားသို့ဖြစ်လိုဖြစ်စေဖို့လွှဲပေးလိုက်သည်။ ဤသစ်ပင်ကြီးသည် များမကြာခင်သောကာလတွင် ဥယျာဉ်ကြီးမမာတင့်တယ်လှသောအသွင်သို့ ရောက်ရှိလာခဲ့သည်။ ဤသည်ကာတစ်ကမ္ဘာလုံးကဝိုင်းဝန်းကာဖျက်စီးလျှင်လည်း ကွယ်ပျောက်နိုင်မည်မဟုတ်တော့ပါ။

# အခန်း(၁၁)
# အလုပ်လုပ်ဖို့ စွမ်းဆောင်ရှင်သာလိုအပ်သည်

အများအားဖြင့်လူတို့သည်အဲဟ်ရာအေအစ္စလာမ်(ဝါ)အစ္စလာမ်၏ ရှင်သန်မှုကို စဉ်ဆက်မပြတ်သော ဖြစ်ထွန်းလာမှုဖြင့် ရှုမြင်လိုကြသည်။ ဤအချက်နှင့်ပတ်သက်၍လူတို့ကိုယင်းရှင်သန်မှု၏လိုအပ်ချက်ကိုပြသမှသာ လျှင်သိမြင်ကြမည်ဖြစ်သည်။ သို့ရာတွင်လိုအပ်နေသောစီမံကိန်းဆိုင်ရာကို အဖွဲ့အစည်းဆိုင်ရာလှုပ်ရှားမှုပုံစံဖြင့် ပုံဖော်ခြင်းသည်လွဲမှားသော သုံးသပ်မှုဖြစ်စေနိုင်ပါသည်။ စီမံကိန်းဆိုသည်မှာအရေးကိစ္စတစ်ခုကိုဘောင်ခတ်ထားသောရေးဖွဲ့ထားမှုထက် ကျယ်ပြန့်လွန်းလှပါသည်။ အကြီးမားဆုံးသောစီမံကိန်းကိုလူတစ်ဦးစီက ရုပ်လုံးဖော်ခြင်းပင်ဖြစ်သည်။ ဤသည်လူတစ်ဦးစီကိုချမှတ် ကာရုပ်လုံး ဖော်အောင်ပြုခြင်းလောက်နှင့်မလုံးလောက်ပါ။

ဤအစ္စလာမ်၏ဒါဝသ်ဖိတ်ခေါ်မှုသည်လည်းဤနည်းနှင်နှင်လုပ် ဆောင်ခြင်းပင်ဖြစ်သည်။ စစ်မှန်သောဒါဝသ်ဖိတ်ခေါ်မှုသည်လူတစ်ဦးစီ၏အတွေး အမြင်ကိုနိုးကြားစေကာသူတို့ကိုယ်တိုင်စီမံကိန်းချမှတ်နိုင်ခြင်းရှိလာတော့သည်။ တမန်တော်မြတ် သည်မက္ကားခေတ်ကာလတွင်သောင်ဟိဒ်တစ်ပါးတည်းသော ဖန်းဆင်းရှင်ကိုသာလျှင်ကိုးကွယ်ရမည်ဟူသော အသိကိုသာလျှင်ဒါဝသ်ဖိတ်ခေါ်မှုပြုခဲ့သည်။ တမန်တော်မြတ်သည်စီမံကိန်းကဲ့သို့မည်သည့်အရာကိုမျှ လူတို့ကိုလုပ်ဆောင်ရန် ချပြခြင်းမရှိပါ။ သို့ရာတွင်တမန်တော်မြတ်၏ဖိတ်ခေါ်မှုဒါဝသ်ကို နှစ်သက် လက်ခံအတည်ပြုလာသောသူတို့သည် သူတို့နည်းလမ်းဖြင့်သူတို့၏ စီမံကိန်းသည်ဖြစ်ထွန်းလာသည်ကိုတွေ့ရသည်။ ဤသောင်ဟိဒ်သဘောတရားအားဖြင့်ဉာဏ်ပွင့်သိမြင်လာသောသူတို့သည်သူတို့ဖို့သာ ကျန်လုပ်ငန်းဆောင်တာ ကိုဆက်လက်ဆောင်ရွက်လေ့ရှိခဲ့ကြသည်။

အစ္စလာမ်ကိုသက်ဝင်ယုံကြည်လာကြပြီးနောက် မက္ကားမြို့တော်ကိုစွန့်ကာ အာဖရိကတိုက်ရှိအဘယ်ဆီနီယာနိုင်ငံသို့ရွှေ့ပြောင်းသွားရောက်ခဲ့ရ သောသူတို့

သည် သူတို့ကိုယ်တိုင်စီမံကိန်းချမှတ်ခဲ့သည်။ တမန်တော်မြတ်ကယင်းသူ တို့ကို တစ်စုံတစ်ခုသောစီမံကိန်းကိုပေးကာစေလွှတ်ခြင်းမဟုတ်ပါ။ သို့ရာတွင်ယင်းစဦး မွတ်စလင်မ်တို့သည် အဘာယ်စီနီယာနိုင်ငံတွင်အစ္စလာမ်ရေးရာ ကိုဖိတ်ခေါ်ပြသမှု သည် အထွတ်အထိပ်ကို ရောက်ရှိလာကာ အစ္စလာမ်ကိုနိုင်ငံတကား အဆင့်မြင့်မြှင့်ဖြန့်ချိဖိတ်ခေါ်သောဒါဝဘ် ပုံစံအဖြစ်တွင်းရစ်ခဲ့ပါသည်။

တမန်တော်မြတ်မဒီနာမြို့သို့မသွားရောက်ခင် မဒီနာသို့သွားရောက် ခဲ့ကြသော စေလွှတ်ခံ ဆွဟာဗါတို့ကိုတမန်တော်မြတ်က ကျမ်းတော်မြတ်ကုရ်အာန် ၏ဆူရဟ်များမှအပ ဘာမျှပေးခဲ့ခြင်းမရှိခဲ့ပါ။ သို့ရာတွင်ယင်း ဆွဟာဗါတို့၏ မဒီနာမြို့တော်တွင်တင်ပြခဲ့သောဖိတ်ခေါ်မှုဒါဝဘ်ပုံစံသည်ကာ နှစ်အနည်းငယ် အတွင်းမဒီနာမြို့တော်သည် အစ္စလာမ်ကိုဖြန့်ချိရာစုရပ်ဒါရုလ်ဟိဂ်ျရည်(ဝ)မရ်ကာဇ အစ္စလာမ် အဖြစ်သို့ ရောက်ခဲ့ရခြင်းဖြစ်သည်။

သက်လိဒ်တည်ဟူသောပုံသေကားချပ် လေ့လံဒါးထစ်ပုံစံကို ကျော်ဖြတ်ပြီး အသိအမြင်ဖြင့်ပို့ချသောဒိင်န်၏ပုံစံသည်သာလျှင် အကြီးမားဆုံးသော တော်လှန် ရေးကြီးဖြစ်သည်။ ဤသို့အသိအမြင်အားဖြင့် စုစည်းရရှိသော လူအဖွဲ့အစည်း ဝင်တို့သည် မိမိတို့ကိုယ်တိုင်ပုံဖော်နိုင်စွမ်းရှိလာသူများ ဖြစ်ကြသည်။ ဤသူတို့ ၏ရိုက်ချက်သည်သာလျှင်လူသားတို့၏တည်ဆောက်မှုကိုလွှမ်းခြုံသွားစေပါသည်။ ဤသူတို့သည်လူတို့၏ဇီဇာကိုနိုးကြားတက်ကြွစေကာ ယင်းသူတို့တွင်ရှဗ္ဗာနီဟိကမ်မဟ် တည်းဟူသောမန်ဆင်းရှင် ၏နည်းလမ်းပုံဖော် မှုသည် ပေါ်ထွက်လာခြင်းဖြစ်သည်။

ယင်းသူတို့၏လက်ခြေရှုမြင်မှုကြားနာမှု စသည်ဖြင့်ခန္ဓာ ကိုယ်အားလုံး သည် အလ္လာဟ်အရှင်မြတ်၏စေခိုင်းမှုပုံစံအသွင်သို့ဆောင်ယူသွားတော့သည်။ ဤသည်အချက်ကို တမန်တော်မြတ်၏ ဟဒီစ်သြဝါဒတော်တစ်ခုက ရှင်းလင်းစွာ ဖော်ပြထားသည်ကိုတွေ့ရသည်။

اتقوا فراسة المومن فانه ينظر بنور الله အမြင့်မြတ်ဆုံးသောအဆင့်သို့တက် လှမ်း နိုင်သောသူက မိမိ၏သတိတရားကို အခြားသောအရာများထက်မြင့်မားသည်ဟု သက်သေပြနိုင်သူသာလျှင်ဖြစ်ပေသည်။ ဤသို့သောအရည်အချင်းရှိသောသူသည်

အခြားသောအရာများကိုပြောင်းလဲဖြစ်ထွန်းစေနိုင်သူဖြစ်သည်။ ယင်းသူတို့ အတွက်မေးခွန်းတိုင်းအတွက် မှန်ကန်သောအဖြေရှိနေသည်။ ယင်းသူသည် မည်သည့်အခြေအနေတွင်မဆို မှန်ကန်အောင်မြင်ဖြစ်ထွန်းစေသော လုပ်ဆောင်နိုင်ပေသည်။

တမန်တော်မြတ်သည်အဆွဟာဒ်တော်တို့တွင် ဤသို့သောဟိကမ်မသ်နည်းစဉ်ကိုပို့ပေးခဲ့သည်။ ဤနည်းစဉ်သည်ရဗ္ဗာနီနည်းစဉ်ဖြစ်သည်။ ယင်းနည်းစဉ်ကိုရယူပြီးနောက်သူတို့အဖို့ဘာမျှမလိုအပ်တော့ပါ။အမှန်အားဖြင့်လူတို့တွင် စွမ်းဆောင်မှုအလုံးစုံကို အလ္လာဟ်အရှင်မြတ် ကထည့်ပေးထားသည်။ လူသားတို့၏ ဘဝအတွက်အခြေအနေအရပ်ရပ်တွင်သဘာဝနှင့်လိုက်လျောညီသော အရည်အချင်းများရှိနေသည်။ ဤအရည်အချင်းများဖြင့်ပင်လျှင်တုန့်ဆိုင်းနေသော အခြေအနေ အခြားသူတို့ကို မလာလိုစိတ်နှင့် အသိတရားကင်းမဲ့မှုကားချပ်များကိုဖယ်ရှားရှင်းလင်းနိုင်မည်ဖြစ်သည်။

ဤကားချပ်များကိုဖယ်ရှားလိုက်သောအခါ လူ၏ဇီဝအတွင်းသို့ မထင်မှတ်ရသောနေရာမှအလင်းရောင်များဝင်ရောက်လာမည်ဖြစ်သည်။ ယင်းအလင်းရောင်အားဖြင့်ပထဝီမြေကြီးနှင့်သဘာဝလောကကြီးတစ်ခုလုံး တောက်ပစွာ အရှိအ တိုင်း ရှုမြင်ကြရမည်ဖြစ်ပေသည်။ ဤသို့ဖြစ်ထွန်း ရယူနိုင် သောသူတို့အဖို့လုပ်ငန်းစဉ်၏ စီမံကိန်းသည် မျက်စိတွင်ကွက်ကွက်ကွင်းကွင်း ပေါ်ထွန်း ရှုမြင်လာမည်ဖြစ်ပေသည်။ သို့အားဖြင့်ခရီးစဉ်ကို လှေခါးထစ် တစ်ခုမှတစ်ခုသို့ တက်လှမ်းကာ အမြင့်ဆုံးအထိတက်လှမ်း နိုင်မည်ဖြစ်သည်။

ဤအချက်နှင့်ပတ်သက်၍ကိုယ်တွေ့ဖြစ်ရပ်တစ်ခုကို ဥပမာ အဖြစ်ဖော်ပြလိုပါသည်။ မိမိ၏မိခင်ဘာသာစကား အူရဒူကိုသာလျှင်သိသောအိန္ဒိယသူ အိမ်ရှင်မတစ်ဦးသည် ခင်ပွန်းဖြစ်သူနှင့်အတူ အာဖရိကတိုက်မြောက်ပိုင်း လစ်ဘိယာ နိုင်ငံ ထရီပိုလီမြို့တွင်နေထိုင်စဉ်ကာလ တစ်ညတွင်ခင်ပွန်းဖြစ်သူသည် ဝမ်းဗိုက်အတွင်းနာကျင်နေရ၍အော်ဟစ်နေသည်။ ဇနီးဖြစ်သူသည် အာရဗီနှင့် နိုင်ငံရပ်ခြားစကားလည်းမတတ် အိမ်တွင်တယ်လီဖုန်းလည်းမရှိ။ သို့ဖြစ်၍

ခင်ပွန်းဖြစ်သူအတွက်အကူအညီရယူရန် အိမ်ပြင်ထွက်ကာ အကူအညီရှာထွက်ခဲ့သည်။ သူမသည်တစ်လမ်းဝင်တစ်လမ်းထွက်နှင့် ပါကစ္စတန်ဆရာဝန် တစ်ဦးကိုရှာဖွေတွေ့ရှိခဲ့သည်။ ယင်းဆရာဝန်သည်အူရဒူ စကားတတ်သူ ဖြစ်၍ အကျိုးအကြောင်းရှင်းပြရာဆရာဝန်ကအိမ်သို့လာရောက်ပြီးလူနာကိုစမ်းသပ်ကြည့်ရာ အူအတက်ပေါက်နေကြောင်းတွေ့လိုက်ရသည်။ ချက်ချင်းပင် ဆေးရုံတင်ကာခွဲစိတ်ကုသလိုက်ရာ လူနာအဖို့အသက်ဘေးမှ လွတ်မြောက်သွားတော့သည်။

ဤသို့ဖြစ်ရပ်များသည် လူ့ဘဝတွင်အစဉ်ကြုံတွေ့ရသောပြဿနာများဖြစ်ကြပြီး လူတို့အနေဖြင့်ယင်းပြဿနာရပ်ကို ဖြေရှင်းရန်နည်းလမ်းများကိုကိုယ်တိုင်ကိုယ်ကျရှာကြံဖြေရှင်းရစမြဲဖြစ်သည်။ ဤသို့အားဖြင့် အောင်မြင်မှုကိုရယူကြသည်။ ဤသည်မိမိ၏ကိုယ်ပိုင် သားမယားမိသားစု အရေးကိစ္စဖြစ်သည်။

အကယ်၍လူတို့အနေဖြင့်ဒိုင်နမ်ယုံကြည်ချက်ဆိုင်ရာကိစ္စရပ် များကိုအထက်ဖေါ်ပြပါ မိသားစုအရေးကိစ္စကိုဖြေရှင်းသည့်ပုံစံဖြင့် ဖြေရှင်းနိုင်ပါလျှင်လူတို့အတွက်မိမိ၏ရည်မှန်းချက်ကို အောင်မြင်ဖြစ် ထွန်းအောင်ပြုရေးမှာခက်ခဲမည်မဟုတ်တော့ပါ။ ယုံကြည်ချက်ဆိုင်ရာ ၏အတိမ်အနက် ကိုလည်းသိမြင်လာပြီ။ ယင်းအချက်စွန့်လွှတ်စွန့်စားပြုရခြင်း ကိုလည်း နားလည်လာမည်ဖြစ်ပေသည်။

အများအားဖြင့်အမေးခံရသည့်မေးခွန်းမှာ စီမံကိန်းအစီအစဉ်ကိုစွပင်ဖြစ်သည်။ အမှန်စင်စစ်လိုအပ်နေသည်မှာ လုပ်ဆောင်မည့်စွမ်းဆောင်ရှင်သာလျှင်ဖြစ်သည်။ စီမံကိန်းကိုမည်သည့်နေရာတွင်ဖြစ်စေ ပြုလုပ်ပြဋ္ဌာန်းကြသောသူတို့သည်လူသားလျှင်ဖြစ်သည်။လူ့အဖွဲ့အစည်း၏တိုးတက်ပြောင်းလဲမှုကိုဖြစ်စေသော တော်လှန်ရေး ကိုဆင်နွှဲကြသောသူတို့မှာ လူများပင်ဖြစ်သည်။ ယင်းလူတို့ သည်ပင်ကိုယ်အားဖြင့် ပြုပြင်ပြောင်းလဲမှုအတွက် မိမိကိုယ်တိုင်ကခံယူထားရှိမှုကရှိနေကြသည်။

ဤနေရာတွင်သာဓကတစ်ခုအနေဖြင့် အိန္ဒိယတိုက်နယ်တွင် အကျယ်

ပြန့်ဆုံးနယ်နိမိတ်ကိုပိုင်ဆိုင်ခဲ့ဖူးသော ကေရစ်ဘုရင် အောင်ရမ်ဇေဗ် အကြောင်းကိုဖေါ်ပြလိုပါသည်။ အောင်ရမ်ဇေဗ်သည် ဂျမာအသ်ဖြင့်ဆွလာသ်ဝတ်ပြု အပြီး လက်နှစ်ဖက်မြှောက်ကာ အလ္လာဟ်ထံငိုယိုလျက်ဆုမွန်တောင်းခံနေသည်ကို သူ၏ဝန်ကြီး ဆအီဒုလ္လာဟ်ခန်း ကတွေ့လိုက်ရသည်။ ဆွလာသ်အပြီးတွင် ဝန်ကြီးကဘုရင်အား ''ကာရှမီယာမှစ၍တောင်ပိုင်းစွန်း ကနိုင်ရာကုမ္မာရီ ဒေသ အထိပိုင်ဆိုင်သော ဘုရင်မြတ်အနေဖြင့်နောက်ထပ်ဘာများလိုအပ်နေ၍ အလ္လာဟ် ထံတော်မှတောင်းခံနေရပါသနည်းဟု မေးရာ'' ကေရာဇ်ဘုရင် အောင်ရမ်ဇေဗ်က ''**ဆအီဒုလ္လာဟ်ငါတောင်းခံနေတာက စွမ်းဆောင်ရှင်တွေပါ**'' ဟု၏။

အောင်ရမ်ဇေဗ်တွင် လုပ်ဆောင်ရမည့် စီမံကိန်းအစီအစဉ်ကအများအပြား ရှိနေပါသည်။ သူ့တွင်အုပ်ချုပ်ရေးနှင့်လိုအပ်နေသော ငွေကြေးဥစ္စာခနများ ကုန်လုံးပြည့်စုံစွာရှိနေပါသည်။ သူခေတ်ကာလ အိန္ဒိယနိုင်ငံတော်ကြီး သည် သမိုင်း တစ်လျှောက် ဤ၍ ဤမျှကျယ်ပြန့် ကျယ်ဝန်းသည်ဟူ၍မရှိခဲ့ပါ။ သို့ရာတွင်သူ့ တွင်အလုပ်လုပ်နိုင်သောစွမ်းဆောင်ရှင်ကမရှိဖြစ်နေသည်။ အကယ်၍စစ်မှန် သော စွမ်းဆောင်ရှင်များကသာရှိခဲ့ပါမူ အောင်ရမ်ဇေဗ်နောက်ပိုင်းခေတ်သည် ယိုယွင်း ပျက်စီးရမည်မဟုတ်သလို တစ်မူးထူးခြားသောနိုင်ငံတော်ကြီးဖြစ်လာမည်မှာ အမှန်ပင်ဖြစ်သည်။

ယနေ့ခေတ်ကာလသိန်းသန်းမကသောလူဦးရေစပ်ကြားတွင် အစ္စလာမ် စွမ်းဆောင်ရှင်များကို ရှာမတွေ့ဖြစ်နေပါသည်။ အလ္လာဟ်သိစိတ်ဖြင့် အာခေရသ် ကိုမျှော်လင့်ကာ လောကတာဝန်တို့စပ်ကြားတွင် ဤစွမ်းဆောင်ရှင်များ ထွက်လာ ဖို့အရေးကြီးသည်။ အလ္လာဟ်အရှင်မြတ်ကိုသတိရ ငိုယိုနေကြသော သူတို့အတွင်း မှလည်း ဤပုဂ္ဂိုလ်များစွမ်းဆောင်ရှင် အဖြစ်ထွက်လာဖို့ အရေးကြီးပြန်သည်။ အစ္စလာမ်ကိုအကြောင်းပြု၍ ခိုက်ရန်ဖြစ်ပွားနေကြသောသူတို့အတွင်းမှ ဒိင်န်အတွက်ခိုက်ရန်ဖြစ်ပွားမှုကို စွန့်လွှတ်မည်သူတို့ကိုလည်း စွမ်းဆောင်ရှင်များ အဖြစ် ရှာဖွေနေရပါသည်။

ဤသူတို့ကိုသာလျှင် အစ္စလာမ့်နည်းကျတွေးခေါ်မှု အစစ်အမှန်

ကိုလွှင့်ထူးမည်၊ ဤသူတို့သည်သာလျှင်ပြန်လည်၍ အစ္စလာမ်ဂုဏ်ရောင် ထွန်းပြောင်းစေမည့်သူများအဖြစ် တွေ့မြင်ရပါမည်။ ယနေ့ခေတ်ကာလ တွင်အစ္စလာမ်အတွက် တာဝန်ထမ်းဆောင်မည့်စွမ်းဆောင်ရှင်တို့သည် အမှန်တရားကိုရှုမြင်နိုင်စွမ်းရှိပြီး ကြံကြံခံနိုင်စွမ်းဖြင့်ပေါ်ပေါက်လာမည့် မလိုအပ်သောပြဿနာရပ် များကို ရှောင်ကြဉ်လျက်တစ်ကာယတန်ထမ်းဆောင်ရမည့် ဝန်ကိုသယ်ဖို့နိုင်စွမ်းရှိသူဖြစ်ရပါမည်။

လောကီစည်းစိမ်ထက်အာခေရသ်အတွက်စွန့်လွှတ် စွန့်စားနိုင် စွမ်း ရှိသူဖြစ်ရပါမည်။ မိမိ၏ရပ်တည်နေမှုသာမကအခြားသူတို့၏ ရပ်တည်ချက် ကိုသမာသမတ်ကျကျရှုမြင်နိုင်ရပါမည်။မိမိ၏ထိုင်ခုံတွင်အခြားသူတို့အတွက် နေရာကိုလည်းပေးနိုင်ရပါမည်၊ အခြားသူတို့၏တိုးတက်လာသောဖြစ်ထွန်း မှုများကို မနာလိုစိတ်ထားရှိခြင်းမရှိဘဲ ဤတိုးတက်မှုသည် မည်သို့ဖြစ်ထွန်းလာရသည်ကို စူးစမ်းနိုင်ရပါမည်။အခြေအနေကိုသုံးသပ်ရာတွင် မျက်မှောက်လက်တ လောဖြစ်ထွန်းလာမှုထက် အနာဂတ်တွင်ဖြစ်ထွန်း ပေါ်ပေါက်လာမည့်အကျိုးဆက်ကို ရှုမြင်နိုင်စွမ်းသုံးသပ်နိုင်စွမ်းရှိဖို့အရေးကြီးသည်။ အချုပ်အားဖြင့်ဖော်ပြရသော် ဒွန်ယာလောကီအတွက်ရှင်သန်မှု မရှိဘဲ အာခေရသ်တွင်ရှင်သန်အကျိုးဖြစ် ထွန်းရေး အတွက်လုပ်ဆောင်ကျိုးနပ်သော စွမ်းဆောင်ရှင်ဖြစ်ရပါမည်။ ဤဖော်ပြပါ အရည်အချင်းများနှင့်ပြည့်စုံသော အစ္စလာမ်စဦးကာလ ပုဂ္ဂိုလ်ထူး အဆွဟာဗ်တော် သည်မြင့်မြတ်သောတွေးခေါ်ရှင်များဖြစ် ကြပြီ။ အစ္စလာမ်၏ဒုတိယခေတ် ကိုမွေးဖွားပေးခဲ့သောစွမ်းဆောင်ရှင်များဖြစ်ကြပါသည်။

သို့ဖြစ်၍အစီအစဉ်စီမံကိန်းဟူသည် စွမ်းဆောင်ရှင်ကောင်းများကိုမွေး ထုတ်ပေးခြင်းကိုခေါ်သည်။ ဤစွမ်းဆောင်ရှင်တို့သည်စနစ်ဖယားအားဖြင့် ပုံဖော် ထွက်ပေါ်လာသည်မဟုတ်ပါ။ ထို့မှတစ်ဖန်ဝန်းကျင်၏ လှုပ်ရှားမှုမှလည်းဖြစ်ထွန်း လာခြင်းမရှိ။ စွမ်းဆောင်ရှင်ကိုမွေးထုတ်နိုင်စေဖို့ရန်ဒိင်နီ၏တိကျသော အခြေခံ များဖြင့် သဘာဝလောကကြီး၏ယိုယွင်းမှုကိုပြုပြင်ကာလူတို့အတွင်း ရဗ္ဗာနီ စိတ်ဓာတ်ကို နိုးကြားအောင်ပြုခြင်းဖြင့်သာပေါ်ထွန်းလာမည်ဖြစ်သည်။ ယင်းလူသည်

အလ္လာဟ်အရှင်မြတ်၏ အရောင်စိုးခံရသောလူသားဖြစ်ရပ်တည်သူဖြစ်ရပါမည်။

ဤကဲ့သို့သောလှုပ်ရှားမှုမျိုးသည်အခြေအနေ၏ ဖြစ်ထွန်း လာမှုကြောင့် ပေါ်ပေါက်လာခြင်းမဟုတ်ပါ။ ဤသည် သဘာဝလောကကြီးတွင်အလ္လာဟ်၏ သံစဉ်ကိုလွှင့်ထူးရန်ပေါ်ပေါက်လာခြင်းဖြစ်သည်။ ဤသူတို့သည်အလ္လာဟ် အရှင်မြတ်၏ လမ်းညွှန်းချက်တရားကုရ်အာန်ကိုခေတ်၏လိုအပ်ချက် ကိုဖြည့်ဆည်းရန်တင်ပြနိုင်စွမ်းရှိသည်။ ဤသူတို့သည် တမန်တော် မြတ်၏ တင်ပြမှုနည်းစဉ်ကို မျက်မှောက်တွင်လွှင့်ထူး တင်ပြနိုင်စွမ်း ရှိနေသည်။

ဤသူတို့သည်အလ္လာဟ်အရှင်မြတ်နှင့်လူတို့ စပ်ကြားတွင်ဆက်သွယ်မှု ကိုပြုလုပ်နိုင်စွမ်းရှိနေသည်။ ဤသူတို့၏တင်ပြမှုသည်နေမင်းကြီး၏ အလင်းရောင်နှင့်မွှေးကြိုင်သော ပန်းရနံ့ပမာစွဲဆောင်အားရှိသည်။ အစုအဝေး တစ်ရပ်တွင် ယင်းကဲ့သို့သောလှုပ်ရှားမှုတစ်ရပ်ပေါ်ပေါက်လာခြင်းသည် ယင်း သူတို့စပ်ကြားအလ္လာဟ်အရှင်မြတ်၏ရဟ္မာနီစနစ် ကွန်မြူလာသည် ပမာဖြစ်လာ တော့သည်။ဤသို့သောအခြေအနေကောင်း ပေါ်ထွန်းလာမှုကိုခံစားလိုက် နာကြမည် သူတို့ မှာ မူလကတည်းကမှန်ကန်သောသစ္စာတရားကိုရှုမြင်တတ်သော အသိစိတ်ခံတတ်ရှိသူများသာလျှင်ဖြစ်မည်။ ကျမ်းတော်မြတ် ကုရ်အာန်လာ စကား ပုံတစ်ရပ်ကရှိပါသည်။ရ း၅၈

မြေဩဇာကောင်းသောမြေသည်မိုးမရွာခင်ကတည်းက မြေဩဇာ ကောင်းသောမြေ သာလျှင်ဖြစ်သည်။ ဤသို့သော်လှုပ်ရှားမှုတစ်ရပ် ကိုပေါ်ထွန်းဖြစ်ထွန်းလာစေရန် အရည်အချင်းပြည့်ဝသော လူတို့၏အစုအဝေး တစ်ကို စုစည်းရပါမည်။ယင်း အစုအဝေးတို့သည် စစ်မှန်သော အစ္စလာမ် နည်းစဉ်ကိုတင်ပြရာတွင် ပထမဦး လက်ခံရှုကျင့်သုံးသောသူများဖြစ်ရပါမည်။ ဤသူတို့တွင်အစွလာမ်၏ မျိုးစေ့ ကိုစိုက်ထူးလိုက်သောအခါ များမကြာခင် သောကာလတွင်စိမ်းလန်းစိုပြည်သောလယ်ယာမြေပမာဖြစ်ထွန်းလာမှုရှိ လာမည်ဖြစ် သည်။ဤသည်သဘောကမြေဩဇာ ကောင်းသောမြေတွင်မျိုးစေ့ ထည့်လိုက်သော အခါ ဖြစ်ထွန်းလာမှုပမာဖြစ်သည်။အစွလာမ်ဒါဝသ်ဖိတ်ခေါ်မှုသည် ဤသို့သော်စွမ်း ဆောင်ရှင်တို့ကို စောင့်မျှော်လျှက်ရှိနေသည်။

ဤကဲ့သို့သော နှိုးကြားဖျတ်လက်သောသူများ မွတ်စလင်မ်တို့စပ်ကြား တွင်ပေါ်ထွန်းလာလျှင် မွတ်စလင်မ်တို့ ကံထူးသူ ဖြစ်လာပါမည်။ ဤသို့မဟုတ်ပါက အလ္လာဟ်အရှင်မြတ်သည် ဤဖေါ်ပြပါတာဝန်ရပ်နှင့်စွမ်းဆောင်ရှင်များကို အခြားသော လူအဖွဲ့အစည်းဝင်တို့မှရွေးချယ်တာဝန်ပေးမည်ဖြစ်သည်။ ယင်းသူတို့ အတွင်းမှနိုးကြားသောအသိရှိသူများကိုရွေးချယ်ပြီး အစ္စလာမ်တည်းဟူသောမိုးတွင် စိမ်းလန်းစိုပြည်သောဖြစ်ထွန်းမှုများ ကိုပေါ်ပေါက်လာစေမည်ဖြစ်သည်။

အထက်တွင်ဖေါ်ပြပြီးဖြစ်သောဗဒါရ်စစ်ပွဲကာလ တမန်တော်မြတ်၏ အဆွဟာဗ်တော်တို့နှင့်စပ်လျဉ်းပြီး အလ္လာဟ်အရှင်မြတ် အထံတော်တွင်တောင်း ခံခဲ့သောဆုမွန်တော်တွင် "အို အလ္လာဟ်အရှင်မြတ်ဤအီမာန်ရှင်တို့ကျဆုံးခဲ့ပါလျှင် ဤလောကမြေကြီး ပေါ်ဝယ်အရှင်အားနာခံမည့်သူများရှိမည်မဟုတ်ဟုဆိုခဲ့သည်။ ထိုစဉ်ကယင်းအဆွဟာဗ်တော်တို့၏အရေးအတွက်မှ စုစုပေါင်း ၃၁၃ဦးသာရှိခဲ့သည်။ ဤ၃၁၃ဦးသောစွမ်းဆောင်ရှင်သည် တမန်တော်မြတ်အဖို့အဆုံးအဖြတ် ကိုပေးမည့် အင်အားစုအဖြစ်ခံ ယူထားခြင်းဖြစ်သည်။

ဤဖေါ်ပြပါအချက်မှသိရှိနားလည်သင့်သောအချက်သည်ကား လူအင်အားများစွာသည်အဓိကမဟုတ် ယင်းအင်အားစုများစွာအကြားမှတာဝန် ကိုထမ်းဆောင်နိုင်မည့် စွမ်းဆောင်ရှင်များသာလျှင်အဓိကဖြစ်ပေသည်။ ဤနိုးကြားဖျက် လတ်သောအင်အားစုသည် ၃၁၃ ဦးလည်းဖြစ်နိုင်ပါသည်။ အရေးကြီးသည်ကားဤ ၃၁၃ ဦးသည်လူသား လောကကြီး၏တာဝန်ရပ် အသိအမြင်ကိုသိမြင်ဖို့အရေးကြီး လှသည်။ ယင်းသူတို့တွင်ဉာဏ်အသိအမြင်သည် ပြည့်ဝစွာရှိနေပါမည်။ ထို့ပြင်မက အရည်အချင်းအားဖြင့်လည်း အလ္လာဟ်အရှင်မြတ်၏ဖြစ်ထွန်းစေလိုသော ပုံစံအတိုင်းဖြစ်ရပါမည်။သူတို့၏အတွေးအမြင်နှင့်လုပ်ဆောင်မှုအဝဝ သည်အလ္လာဟ် အရှင်မြတ်၏ အဒလ် မျှတခြေ တွင် ရပ်သည်နေရပါမည်။

ဤကဲ့သို့သော စွမ်းဆောင်ရှင်များကိုရွေးချယ်မွေးထုတ်ခြင်းသည်သာလျှင် အစ္စလာမ်၏ဒါဝသ်ဖိတ်ခေါ်မှုစနစ်ဇယား၏ အဓိကတာဝန် အခြေခံဖြစ်ပေသည်။ ဤသို့သော်အစုအဝေးပေါ်ထွန်းလာခဲ့လျှင်တမန်တော်မြတ်ခေတ်ကာလက၃၁၃ ဦး

ကဲ့သို့လူနည်းစု ဖြစ်သော်ငြားလည်းပြည့်ဝသော စွမ်းဆောင်ရှင်များရှိ လာမည်ဖြစ်သည်။ဤစွမ်းဆောင်ရှင်တို့၏အလ္လာဟ်အရှင်မြတ်၏ ကူညီပံ့ပိုးမှုဖြင့် အလ္လာဟ်ရှင်တို့၏ဒိဂင်နှင့်စနစ်ဖယားကိုအားလုံးပေါ်တွင် ရှင်သန်မှုလွှမ်းမိုးမှု ကိုဖြစ်လာစေမည်ဖြစ်သည်။ ဤစွမ်းဆောင်ရှင်တို့သည် အလ္လာဟ်အရှင်မြတ်၏ စေခိုင်းသူများဖြစ်ကြသည်။ ဤသူတို့၏ရှေ့မှောက်တွင်မည်သူကမျှရင်ဆိုင်နိုင်စွမ်းရှိမည်မဟုတ်သလို သူတို့သည်သာလျှင် လောကကြီးကို အောင်မြင်သူဖြစ်ကြပါမည်။

## မျက်မှောက်ခေတ်သစ်၏အစ္စလာမ်

အစ္စလာမ်သည်အလ္လာဟ်ထံတော်မှချပေးသောလူသားတို့အတွက်နောက်ဆုံးလမ်းညွှန်ချက်တရားဒိင်နဖြစ်ပေသည်။သို့ဖြစ်၍လည်း ဤယုံကြည်ချက်သည် ကေယာမသ်နေ့အထိသည်ရှိနိုင်သောအစွမ်းရှိနေပေသည်။ ဤယုံကြည်ချက်ဆိုင်ရာ ကိုရှင်သန်အောင်ပြုနိုင်သောတာဝန်ရပ်သည်၂အရေးကြီးသော တာဝန်ဖြစ်ပေသည်။

ဤတာဝန်နှင့်ပတ်သက်၍ယနေ့အထိ လှုပ်ရှားမှုအမျိုးမျိုးက သူတို့ကိုယ်တိုင်သူတို့တာဝန်ရပ်များကိုတစ်နိုင်ထမ်းဆောင်လျက်ရှိနေသည်။ အချို့တို့သည်တွေးခေါ်မှုဆိုင်ရာရှင်သန်ထက်မြက်ရေးတာဝန်ကို ထမ်းရွက်ခဲ့ကြသည်။ အချို့တို့သည်ကျမ်းတော်မြတ်ကုရ်အာန်အသိပြန့်ပွားရေးတာဝန်၊ အချို့တို့သည်တမန်တော်မြတ်၏ဟဒိစ်သြဝါဒတော်များ။အချို့တို့သည်မွတ်စလင်မ်တို့၏မစ်အလာပြဿနာရပ် များကိုဖြေရှင်းနေကြသည်။ အချို့ဆိုလျှင်အီဘာဒသ် ဆိုင်ရာကျင့်ဝတ်များကို မျိုးဆက်တစ်ခုမှတစ်ခုသို့လက်ဆင့်ကမ်းပေး လျက်ရှိနေပါသည်။ အချို့ဆိုလျှင်လည်းကျမ်းတော်မြတ်ကုရ်အာန်နှင့် တမန်တော်မြတ်၏ဟဒိစ်သြဝါဒတော်ကို မူတည်၍ လူတို့၏ကျန်းမာရေးနှင့် သန့်ရှင်းစင်ကြယ်မှုလုပ်ငန်းများကိုညွှန်းပြလျက်ရှိနေပါသည်။ ဤသည်တို့သည်ဒိင်နှင့်ပတ်သက်သောကောင်းမြတ်သည့်လုပ်ငန်း၊ ဒိင်နကိုထိန်းသိမ်းမှုအတွက်ကြိုးပမ်းမှုဖြစ်ကြသည်။

ဤဖေါ်ပြပါတို့သည်ထိန်းသိမ်းမှုဆိုင်ရာကို ဆောင်ရွက်နေကြခြင်း သာလျှင်ဖြစ်သည်။ဒိင်နကိုပြန့်ပွားအောင်ပြု သောဒါဝသ်လုပ်ငန်းမဟုတ်သည်ကို သတိပြု

သင့်သည်။ ဒါဝသ်ဖိတ်ခေါ်မှုနှင့်စပ်လျဉ်း၍သုံးသပ်ရလျှင် ယနေ့ခေတ်ကာလ တွင် ဒါဝသ်နှင့်ပတ်သက်သော အစ္စလာမ်ကိုရှင်သန်အောင်ပြုသည့်လုပ်ငန်း ဆောင်တာသည် ပိပြင်စွာပေါ်ထွန်းလာခြင်း မရှိသေးပါ။ လူတို့အနေဖြင့် ဤတာဝန်ရပ်ကိုအရေးမကြီးသယောင်ဂရုစိုက်စဉ်းစားဆင်ခြင်းသုံးသပ်မှု မပြုသေးကြောင်းသိမြင်နိုင်ပေသည်။ ထို့ကြောင့်လည်းယနေ့ဒါဝသ် အမည်ခံထားသောလှုပ်ရှားမှုများသည် အစ္စလာမ်ဘက်သို့ဖိတ်ခေါ်မှုအစီအစဉ် နှင့်မည်သို့မျှသက်ဆိုင်ခြင်း မရှိကြောင်း သိမြင်နိုင်ပေမည်။

မျက်မှောက်ခေတ်ကာလတွင်စစ်မှန်သော အစ္စလာမ်ရေးရာလုပ်ငန်းစဉ်ကိုစတင်ရာတွင် ပထမအချက်အနေဖြင့် ယနေ့သက်ရှိလှုပ်ရှားနေသော လူမျိုးရေးနှင့်နိုင်ငံရေးအသွင်ဆောင်သောလှုပ်ရှားနေမှုများကို ရပ်စဲရပါမည်။ ယင်းလှုပ်ရှားများသည်စာပေ ဒဿနနှင့်အကြောင်းအမျိုးမျိုးကို အမည်ခံလျက် အာဏာပိုင်များနှင့် အုပ်ချုပ်မင်းလုပ်သူတို့ကိုဆန့်ကျင်သော တောင်းဆိုမှုများ ရင်ဆိုင်ဆန့်ကျင်နေမှုများကိုပြုလုပ်နေကြသည်။ ယနေ့ဖြစ်ထွန်းနေသော အခြေအနေအရပ်ရပ်ကိုဒါဝသ် လုပ်ငန်းတွင်အသုံးမချခြင်း အာခေရသ် သဘောတရားကိုမတင်ပြခြင်း မိမိတို့၏အင်အားနှင့်အရင်းအမြစ်ကို အလဟဿ ဖန်းတီးပစ်ခြင်းများကဲ့သို့ အသုံးချမှုတွင်ဖြုန်းတီးပစ်နေကြောင်းတွေ့ရပါမည်။

ဤသို့အားဖြင့်မွတ်စလင်မ်တို့သည် မျက်မှောက်ကာလတွင် ပြောင်းပြန်ဖြစ်ထွန်း လာမှုကိုပြုလုပ်နေကြခြင်းဖြစ်သည်။ ဖြစ်သင့်သောအခြေအနေကအလ္လာဟ်အရှင်မြတ်၏လမ်းညွှန်းချက်တရားကို အလ္လာဟ်အရှင်မြတ်၏ဖန်ဆင်းခံများထံသို့တင်ပြကာ အလ္လာဟ်အရှင်မြတ်၏စနစ် ဖယားကိုလူတို့ထံအသိပေးခြင်းဖြင့် သစ်လွင်သောမွတ်စလင်မ်များပြုစု ပျိုးထောင်ရေးသာလျှင်ဖြစ်သင့်သည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင်အလ္လာဟ်အရှင်မြတ်က ဆူရပ်ဟဂ်ျတွင် ဖော်ပြထားသည်မှာ

"အကြင်သူတို့သည်အလ္လာဟ်အရှင်မြတ်ကိုကူညီအံ့။ ယင်းသူတို့ကိုအလ္လာဟ် အရှင်မြတ်ကကူညီပံ့ပိုးမည်ဖြစ်သည်။(၂၂ း ၄၀)

ခေတ်တိုင်းခေတ်တိုင်းတွင်အလ္လာဟ်အရှင်မြတ်သည်ဒိင်န်အတွက် အခြေအနေကောင်းများဖန်တီးပေးလေ့ရှိသည်။ ယနေ့ခေတ်ကာလတွင် ကျွန်ုပ်တို့ အနေဖြင့် အလ္လာဟ်အရှင်မြတ်၏ ညွှန်ပြချက်ကိုနားလည် သိမြင်အောင်ပြုဖို့ လိုအပ်လှသည်။ ထို့မှတစ်ဖန် အလ္လာဟ်အရှင်မြတ်၏စည်းစနစ်ဇယားတွင် မိမိကိုယ်ကိုပါဝင်လာ အောင်ပြုဖို့ လိုသည်။ အဆွဟာဗ်တော်တို့သည်ကံကောင်း သူတို့မှာဖြစ်သည်။ သူတို့သည်အလ္လာဟ်အရှင်မြတ်၏ စည်းစနစ်ဇယားဖြစ် ထွန်းလာမှုတွင် မိမိကိုယ်ကိုမြုပ်နှံကာစွန့်လွှတ် စွန့်စားပြုလုပ်နိုင်စွမ်းရှိခဲ့ကြသည်။ ဤသို့အားဖြင့်လူသားတို့၏သမိုင်းကိုတော်လှန်ရေးတစ်ခုဖြင့် အလှည့်အပြောင်းဖြစ် စေခဲ့ခြင်းဖြစ်သည်။

မိုးရွာသွန်းမှုသည် အလ္လာဟ်အရှင်မြတ်၏ဆိတ်ငြိမ်သော ကြေညာချက် တစ်ရပ်လွှင့်ထူးခြင်းပင်ဖြစ်သည်။ ယင်းကြေညာချက်သည်ကားလူတို့အနေဖြင့် သူတို့၏မျိုးစေ့များကိုမြေကြီးအတွင်းထည့်ခြင်းဖြင့် အလ္လာဟ်အရှင်မြတ်၏ စနစ်ဇယားအားဖြင့်ကျန်ရှိသောလုပ်ငန်းဆောင်တာကို ပြီးမြောက်အောင်မြင်စေကာ လူသားတို့အားသီးနှံများကိုပေါ်ထွန်း လာစေသောသစ်ပင်များအဖြစ်ပြန်လည်၍ ပေးအပ်ခြင်း ပြုနိုင်ရန်ဖြစ်သည်။လယ်သမားယာသမားတို့သည်ဤအလ္လာဟ် အရှင်မြတ် ၏သတိပေးချက်ကိုချက်ချင်းသိမြင်ပြီး အရှင်၏ စီမံကိန်းတွင်ပါဝင် ဆောင်ရွက်ကာကြီးမားကျယ်ပြန့်လှသော လယ်ယာကုန်ပစ္စည်းများ ကိုပေါ် ထွန်းဖြစ် စေမှုကိုမြင်တွေ့ရတော့သည်။

ဤကဲ့သို့ပင်မျက်မှောက်ခေတ်ကာလတွင် နှစ်ပေါင်းတစ်ထောင်မျှသော လုပ်ဆောင်မှု၏ရလာဒ်အဖြစ် အလ္လာဟ် အရှင်မြတ်သည်ဒိင်န်သာသနာအတွက် အခွင့်အလမ်းကောင်းများကိုလမ်းဖွင့်ပေးလိုက်ပါသည်။ ဤအခွင့်အလမ်းကို အုပ်ချုပ်မင်းလုပ်သူတို့နှင့်အတိုက်အခံမပြုဘဲ သောင်ဟိဒ်နှင့်အာခေရသ် အကြောင်းကိုဖော်ပြရင်က ဒါဝသ်ဖိတ်ခေါ်မှုကို ကျယ်ပြန့်စွာလုပ်ဆောင်ရပေမည်။

ယခင်စဦးကာလကအံ့ဘွယ်ရာအခြေဖြင့်ပြုလုပ်နေရသောတာဝန်ကို ယခုအခါတွင် ရုပ်ပိုင်းဆိုင်ရာသက်သေသာဓကများအားဖြင့် ပြုလုပ်ရပေမည်။

ယခင်က မုန်းတီးရေးဝန်ကျင်ကပြုလုပ်ရသောအလုပ်ကို ယခုအခါယုံကြည်ချက် ဆိုင်ရာ ချစ်ကြည်မှုဝန်းကျင်မှ ပြုလုပ်ရပါမည်။ ယခင်ကလှည်းယဉ်အားဖြင့် ပြုလုပ်ရသောအလုပ် ကိုယခုအခါအသံထက်မြန်သောယဉ်ဖြင့်ပြုရပေမည်။

ဤမျက်မှောက်ခေတ်ကာလသည် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်း တစ်ရပ်ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် အကောင်းဆုံးသော အခွင့် အလမ်း များလမ်းဖွင့်ပေးထားပြီးဖြစ်သည်။ ယင်းအခွင့်အလမ်းများကို အလ္လာဟ် အရှင်မြတ် ကို ယုံကြည်သူစွမ်းဆောင်ရှင်တို့ကစစ်မှန်သော အခြေအနေရလာဒ် အဖြစ်ပေါ် ထွန်းလာအောင်ပြုရပါမည်။

မျက်မှောက်ခေတ်ကာလတွင်မွတ်စလင်မ်တို့ကိုဦးဆောင်သူတို့သည် ဤအခွင့်ထူးကိုအသုံးမချဘဲ နည်းမျိုးစုံ ဖြင့်လွဲမှားသောပုံဖော်မှုကိုပြုခဲ့ကြသည်။ ခေါင်းစဉ်အမျိုးအမည်အမျိုးမျိုးတပ်ကာအချင်းချင်း ပဋိပက္ခကိုဖန်တီးယူခဲ့ကြသည်။ ဤဆောင်ရွက်နေသောနည်းလမ်းများကို အလ္လာဟ်အရှင်မြတ်ကနှစ်ပေါင်း ၁၀၀၀ အလျဉ်းကာလကပိတ်ပင်ခဲ့ပြီးဖြစ်သည်။ ထို့ပြင်မကအစ္စလာမ်၏ဒါဝသ်ဖိတ်ခေါ်မှုကို လူမျိုးရေးနှင့်နိုင်ငံရေးပုံစံဖြင့်ပုံဖော်ကာ အလ္လာဟ်မကြိုက်သောပုံစံကာပြန်လည် ၍ဖော်ဆောင်ခဲ့ကြသည်။

ဤပုံဖော်လုပ်ဆောင်မှုများကြောင့် ကျွန်ုပ်တို့နှင့်အတူနေ အခြား ဘာသာဝင်တို့၏ ယုံမှားသံသယကို ကြီးပွားလာအောင်ပြုခဲ့ကြသည်။ နေရာ တိုင်း တွင်တင်မာသောအခြေအနေများရှိလာပြီး ဆန်းသစ်သောအခွင့်ထူးများသည် တုန်းဆိုင်သောအခြေအနေသို့ရောက်ရှိသွားတော့သည်။ ဤသို့အားဖြင့် ဖိတ်ခေါ် သူဒါအီနှင့် ဖိတ်ခေါ်ရမည့်မဒ်အူတို့စပ်ကြားဆက်သွယ်မှုသည် ပျက်ပြား ခဲ့ရတော့သည်။

မွတ်စလင်န်လူ့အဖွဲ့အစည်းဝင်တို့သည် နှစ်ပေါင်း၂၀၀ မျှသောအချိန် ကာလ ကို ဖြုန်းတီးပစ်ခဲ့ကြသည်။ ဤ သို့ဖြင့်ရှိုင်သွာန်က မူလကရှိခဲ့သော ရှိရိက်ပုံဖော်မှုကို ဆန်းသစ်သောပုံစံဖြင့်ယုံကြည်ချက်မဲ့သောတရားများကို မတည်ပေးလိုက်ခြင်းဖြစ်သည်။ ဤသို့အားဖြင့်ယင်းယုံကြည်ချက်မဲ့သော

ဝါဒကြီးစိုးသော ဒေသများတွင် ဒါဝသ်ဖိတ်ခေါ်မှုသည်အတားအဆီးဖြစ် ခဲ့ရသည်။

သို့ရာတွင် ယခုအခါယင်းအခြေအနေများသည်လည်းပျက်သုဉ်းကာ အခြေအနေကောင်းများ အခွင့်ထူးများပြန်လည် ပေါ်ထွန်းလာပြီဖြစ်လေရာ ဟီဂျရီ၁၅ရာစုနှစ်ကာလတွင် ယခင်ရာစုနှစ်ကမဆောင်ရွက် ရသောလုပ်ငန်းဆောင်တာများကို စတင်ဖို့ အချိန်တန်ဖြစ်ပေသည်။

ဂျာဝီဒ်သန်း။

ဟီဂျရီ၁၄၂၇ခုနှစ်၊ မုဟာရ်ရမ်လ ၂၁ရက်။

၂၀၀၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ ၂၀ရက်နေ့(တနင်္လာနေ့)၊

ညနေ ၅နာရီ၁၀မိနစ်တွင်ဤကျမ်းငယ်ကို ပြန်ဆိုပြီးစီးပါသည်။